# မင်္ဂလာသာသရဒ္ဒီပနီကျမ်း။

ရန်ကုန်မြို့၊
ဟံသာဝတီသတင်းစာတိုက်၊
၁၈၉၆ ခုနှစ်။

ရာသီဥတု။မ ု ရွှန်းဝို။လွဲလွဲရှိ၍။ရေညှိဂိုက်ကာ၊ သီတာကမ်း
ဦး။မြစ်နဖူး၌။တင့်ထူးကြက်သရေ။နက်သန်မြေတွင်။အောင်
ဇေမိပတိ။တည်၍ရှိသော။သိရိပျံ့မွေး။မြို့မကွေးတွင်။
မင်းပေးအောင်ဟိတ်။ရာဇမတိကာဟူသောနာမံတံ
ဆိပ်ဖြင့်။ခက်နှိပ်သနားတော်မူခြင်းကိုခံရသော
မောင်တေလုံးအမည်ရှိသော
အမတ်တရားသူကြီးသည် အံ့ချီးမကုန်။ သိမ့်သိမ့်တုန်လျက်။ ဝ
သုန်မြေချာ။ဟိတ်ဩဘာတွင်။ကောလာဟာလ။တပါးရ
သောမင်္ဂလာတရားတော်မြတ်ကို။အဋ္ဌုပ္ပတ်စုံ
စွာနှင့်အဋ္ဌကထာဋီကာအရ။ဖွင့်ပြစီရင်
အပ်သော

# မင်္ဂလာသာရဒီပနီကျမ်း။

ရန်ကုန်မြို့။
ဟံသာဝတီသတင်းစာတိုက်။
၁၈၉၆ ခုနှစ်။

# အချီးနိဒါန်း။

သုံးဆဲ့ ၅စ်ဖြာ။ မင်္ဂလာတွင်။ ဇေတဝနသာနီ။ သီရိကြိုင်မွှမ်း။ ဉဒါန်းရင့်ကျူး။ အထူးမြွက်ဘော်။ မသူတော်တို့အား မမှီဝဲရခြင်းအစ။ ရဟန္တာတို့ရအပ်သောစိတ်၌ယောဂ ၄ ပါး။ ဤတရားတို့မယှဉ်သည်ဖြစ်၍။ ဘေးမရှိသောစိတ်အဆုံးရှိသော မင်္ဂလာတို့ကို။ ရှိသေစွာမှု။ အကျင့်ပြုလျက်။ ဂရုပဒေ။ သေခွေနည်းနယ။ ကျက်အံကြ၍။ ဝါယါမထူ။ ထိုသည့်သူတို့။ မြူအပိဋ္ဌာ။ မာရ်ငါးဖြာတို့၌။ အပရာဇိတ။ ခန္ဓကိလေ။ သင်္ခါရေဟု။ ဒေဝပုတ္တ။ လေးပါးသောမာရတို့၌။ ဧကစွန်းညှစ်။ တပါးပါးသော မာရ်သည်မအောင်အပ်ကုန်သည်အဖြစ်၌လည်းကောင်း။ ထိုလေးပါးသောမာရ်တို့တွင်တပါးပါးသော မာရ်တို့သည် မနှိပ်စက်အပ်ကုန်သည်ဖြစ်၍ လည်းကောင်း။ ခပ်သိမ်းသော ပစ္စုပ္ပန် တမလွန်ယောက၌။ ကြောင့်ကြကင်းငြိမ်း။ ခပ်သိမ်းဘယာ။ ချမ်းသါသုခ။ ဘေးမရှိကြ၍။ သဂ္ဂမဂ္ဂလမ်းကြောင်း။ ခရီးဟောင်းသို့။ ကောင်းစွာရောက်မည်။ မှတ်စိတ်ရည်ဟု။ သာကြည်ဒေသနာ။ နတ်ဒေဝါကို။ ရွှေအာလုပ်ဖွင့်။ ကျူးရင့်ဟောမြွက်သည့်အဆုံး၌။ ပိတ်ဖုံးအပိဋ္ဌာ။ မှောင်ကြီးကာသည့်။ သင်္ချာတွက်မှတ်။ ကုဋေတသိန်းနတ်တို့။ အရဟတ္တဖိုလ်။ ရိပ်ထီးခို၍။ ထိုအရပ်တွင်ကွယ်ကြောင်းနှင့်။ ကျမ်းပေါင်းအဋ္ဌကထာ။ ဋီကာအစုံ။ နည်းမျိုး လှုံ့ပြီးလျှင်။ ကြည်ယုံစေကြောင်း။ ကောင်းစွာစီမံ၍။ ရာဇမတိကာဘွဲ့ခံ။ မကွေးမြို့မောင်တေလုံးအမည်ရှိသော အမတ်တရားသူကြီးသည် ဆန်းဝေဇယန်။ နန်းမြေမှန်သါ။ နဂ်သန်ဘူမိ။ သီရိခေတ္တရ။ တိုင်း၌နန်၌။ သုဝဏ္ဏဟံသာ။ မည်သာတွင်ဘိ။ တောင်ဂီရိတွင်။ သီရိခမ္ဘလက်ာရဟု။ ဖြတ်လှဂုဏ်ဖုန်။ မထေရ်မွန်သည်။ ရိုးယိုးဂွန်အတွက်။ ကြယ်ကိုဆွတ်လည်း။ မလွတ်စတမ်း။ ဤနည်းငြမ်းသို့။ ပွင့်လန်းသာသနာ။ ထွန်းရောင်ဖြာစိမ့်။ သဒ္ဓါဗလဝ။ ဝီရိယနှင့်။ ခမ္ဘ

# အချီးနိဒါန်း။

ဆက်ဆံ။ ဆရာကြီးညာဏ်ဖြင့်။ တရန်မဆန့်။ အာရုံစုံလျက်။ ပြအံ့သောဌာ။ ချိန်အခါသည်။ နှင်းနှစ်ဝေ၊ ချင့်တွက်ရေ၍။ လေးတွေ့ရှိယာ။ မှတ်ဘုံးခါတွင်။ ဥာဏ်ဝါရောင်လျှပ်။ ဇောတိရသ်ကို။ မလပ်သင့်ကောင်း။ ချီးမြှောက်ကြောင်းဖြင့်။ ခွင့်တောင်းပူဇော်။ ပုဂ္ဂိုလ်တော်အား။ ကော်ရော်ညွှတ်ခ။ တုံ့ဝပ်ပြလျက်။ နိဿယဆင်ပြီးလျှင် စီရင်ရေးသား အပ်သော။ မင်္ဂလာသာရ ဒီပနီကျမ်းကို။ ထုံးတမ်းနယ။ စည်းကမ်းကျလျက်။ ပဒပုဒ်ဆင့်။ ရစ်ပင့်သတ်နေ။ မင်နေမင်စ။ စွန်းစမထင်။ ပြစ်မမြင်အောင်။ သုတ်သင်တည်းပြင်၍လျက်။ ကျောက်ပတ်စွာ ရိုက်နှိပ်လေ့ရှိသောကျွန်ုပ်တို့ဟံသာဝတီသတင်းစာတိုက်က။ နှစ်ခြိုက်စရာ။ အက္ခရာတံဆိပ်။ ယွင်းမလိပ်ဘဲ။ ရိုက်နှိပ်စီရင်ရာ၌။ ပဌမမင်္ဂလာ။ ဒုတိယမင်္ဂလာ။ ဝဏ္ဏလာဝဏ္ဏတွက်။ အချက်ချက်တို့ကို။ နှစ်သက်ရာအလွယ်တကူကြည့်ရှုနိုင်စေခြင်းငှာ။ မာတိကာခေါင်းစဉ်တပ်လျက်။ ကျောက်ပတ်ငွာထားအပ်ပါသည်။ အများလူတို့ကြည့်ရှုဘတ်ရှုတ်ကြစေသတည်း။

---

## ၃၈ ဖြာမင်္ဂလာမာတိကာ။ 

၃၈ ဖြာမင်္ဂလာမာတိကာပြီး၏။

---

# အမှားအမှန်ပြင်ချက်။

| မျက်နှာပါဝင်။ | စာကြောင်းရေ။ | အမှား။ | အမှန်။ |
|---|---|---|---|
| ၂ | ၁၁ | လုနံဆိန္တဆ္တံ | လုနံဆိန္တနံ |
| ၅ | ၂၆ | ထံသမ္ပတ္တိံ | တံသမ္ပတ္တိံ |
| ၈ | ၁၂ | သမ္ဗုဒ္ဓံဝသံ | သမ္ဗုဒ္ဓံပရံ |
| ၁၉ | ၁၄ | ဇွဲလှမ်းသော | ဇွဲလမ်းသော |
| ၂၁ | ၃ | ပူဇယတော | ပူဇယတော |
| ၂၄ | ၁၈ | စေတီတော်ကို | စေတီတော်သို့ |
| ၂၈ | ၁၁ | အပစတော | အပစိတော |
| ၃၇ | ၁၂ | အရှေမျက်နှာ၌ | အရှေ့အရပ်မျက်နှာ၌ |
| ၄၁ | ၂၀ | သွန်းသည့်ရှိသော် | သွန်းကျန်သည့်ရှိသော် |
| ၄၆ | ၂၃ | မင်း၍ | မင်း၏ |
| ၆၆ | ၂၀ | လူ့ပြည်၌ | လူတို့ပြည်၌ |
| ၈၄ | ၂ | ဖိန်းမကိုချစေ၍ | ဖိန်းမကိုခေါင်းချကိုချစေ၍ |
| ၈၈ | ၁၀ | ရှိခိုးကျန်အပ်၏ | ရှိခိုးအပ်၏ |
| ၉၅ | ၁၀ | လွှတ်ကုန်သော | လွှတ်ကုန်သော |
| ၁၂၃ | ၂၁ | ရှရှား | ရှစ်ရှား |
| ၁၃၄ | ၂၀ | ဂါရဟောသု | ဂါရဝဟောသု |
| ၁၃၄ | ၂၄ | ဂါရဟောသု | ဂါရဝဟောသု |
| ၁၃၈ | ၂၄ | မလိုက်ပါနိုင်ခြင်း | မလိုက်မပါနိုင်ခြင်း |
| ၁၄၇ | ၂ | သိတာဘုတာ | သိတာဘူယာ |
| ၁၄၇ | ၃ | အသိတာဘုတာ | အသိတာဘူယာ |
| ၁၄၇ | ၁၄ | ပဒုပမင်းသား | ပဒုမမင်းသား |
| ၁၅၂ | ၃ | ငွတ်ပြီး | ဗိုငွတ်ပြီး |
| ၁၆၄ | ၂၃ | သူနာပရက္ခ | သုနာပရက္ခ |
| ၁၆၅ | ၇ | သူနာပရက္ခ | သုနာပရက္ခ |

# အမှားအမှန်ပြင်ချက်။

| စာမျက်နှာ။ | စာကြောင်းရေ။ | အမှား။ | အမှန်။ |
|---|---|---|---|
| ၁၆၈ | ၄ | ထိုအခါသင့်ကို | ထိုအခါ၌သင့်ကို |
| ၁၇၃ | ၅ | နစေဝပဏ္ဏဗ္ဗံ | နစေဝဝဏ္ဏဗ္ဗံ |
| ၁၇၆ | ၁၇ | ဒုဗ္ဗစပုဂ္ဂိုလ် | ဒုဗ္ဗစပုဂ္ဂိုလ် |
| ၁၇၆ | ၁၉ | ဒုဗ္ဗစပုဂ္ဂိုလ် | ဒုဗ္ဗစပုဂ္ဂိုလ် |
| ၂၃၈ | ၁၆ | ဆေဏ္ဍာသည် | ဆဏ္ဍာသည် |
| ၂၃၉ | ၁ | ဖျော့စွာသော | ချမ်းဖျော့စွာသော |
| ၂၄၀ | ၃ | ဒေါသံကို | ဒေါသကို |
| ၂၄၀ | ၁၂ | တောဝေဘွယ် | တွေဝေဘွယ် |
| ၂၅၆ | ၂၈ | တဿာသမိပေ | တသ္မိံသမိပေ |
| ၂၅၇ | ၉ | ဣဿရနှင့် | ဣသရနှင့် |



# မင်္ဂလာသာရဒီပနီကျမ်း။

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

၁။ နာထံဒေဝိန္ဒံဒယာဉာဏံ။ ပဏ္ဍာနံဟိတမင်္ဂလံ။ ဓမ္မံမင်္ဂလုနံ ဝန္ဒေ။ ဂဏမ္ပိဝုတ္တိမင်္ဂလံ။ ၂ ။ဍူရာတိတိက္ခဓာရိဝါ။ တိတိက္ခဉာဏသူရတ္တာ။ မောဝ်ခူတိဝ္ဝယနာမေန။ သဒ္ဓမ္မဒီပကာမေန။ ၃ ။ဓမ္မနိဿယဘူတေန။ လဒ္ဓါဝိဟာနလေခေန။ ပုဗ္ဗဍ္ဍာနေဒနံရညာ။ သက္ကစ္စံအဘိယာစိတော။ ၄ ။ရတနသာရဂန္ထေစ။ ယန္တော ဓာနနလေခနေ။ သန္တေပိတတ္ထ ဒုညာတာ။ နေဝဘူဍ္ဍိတ္တံနုရာ။ ၅ ။ မင်္ဂလသာရပိဋကေ။ သဒ္ဒတ္ထနယဓာနနေ၊ သုတ္တေ သန္တေပိဒုညာတာ။ နဟိဘုဍ္ဍိတ္တံမန္တာ။ ၆ ။အတ္ထိမာစရိယောဝိရော။ တဿ နိဿာယယောပဒေသံ။ ဂန္တတော ရတနသာရံ။ နရာနံပိယဒဿနော။ ၇ ။ဟာရံပိဋကတောသာရံ။ မင်္ဂလာသာရဒီပနိံ။သုဝိနိစ္ဆယံကရိဿံ။တံနိသာမေထသါဓဝေါ။ ၈ ။ သမ္ပတ္တိယာ လောကေမူလံ။ နရာနံပနမင်္ဂလံ။ နိဗ္ဗာနန္တါရသော ပါဏံ။နုတံလဘန္တိတံပိနာ။ ၉ ။နစရန္တိဓယောသာရံ။ နဟိပိဋ္ဌတိသမ္ပဒံ။အပ္ပံစရန္တိတံသာရံ။အပ္ပံပိဋ္ဌတိသမ္ပဒံ။ ၁၀။ပါယံစရန္တိတံသာရံ။ ပါယံပိဋ္ဌတိသမ္ပဒံ။ သဗ္ဗံစရန္တိတံသာရံ၊ ယန္တိခေမံ သုခံပဒံ။ ၁၁ ။ဧဝမတ္ထံပိသမ္ပဿံ။ သုခတ္ထိကောစတံသာရံ။ ဉသာဟံဓာနနံကတွာ။သက္ကစ္စံစရပဏ္ဍိတော။

၁။ အဟံ။ခန္တာဝါးတန်။ချုပ်နာမ်နှစ်ရပ်။ပရမတ်ကို။ပညတ်သမုတ်။ နှုတ်မင်္ဂလာ။ ဝေါဟာရမရှေ့။ အခလေ့ဖြစ်သောဝါ

သည်။ ဒယာဥာဏံ။ မဟာကာရုဏာ သမာပတ်။ သဗ္ဗညုတဥာဏ်တော်မြတ်သည်။ ပဋ္ဌာနံ။ ပြဋ္ဌာန်းသည်။ တနည်းကား။ ပဋ္ဌာနံပုဗ္ဗင်္ဂမံ။ ရှေ့သွားသည်။ ဟုတ္တွာ။ ဖြစ်၍။ ဟိတမင်္ဂလံ။လူနတ်နိဗ္ဗာန် သုံးတန်ချမ်းသာ။စီးပွါးရာအကြောင်း။ကောင်းမြတ်သော မင်္ဂလာ တရားတော်ကို။ နရာနံ။ လူနတ်တို့အား။ ဒေသ္တုံ။ ပေးသနားတော်မူတတ်သော။ နာထံပိ။ ဘုံသုံးခွင်၌။ကျင်လည်ရှာ။ဝေနေယျာ၏။ ချမ်းသာစီးပွါး။တရားအမြစ်။အနှစ်ရသော။ မင်္ဂလာကို။ကာရုဏာရှေ့ရှု၊ ဟောဝင့်တတော်မူတတ်သော။မြတ်စွာဘုရားကိုလည်း။ ဝန္ဒေဝန္ဒာမိ။ ညွှတ်တွားကြည်စွာ။ ရှိခိုးပါ၏။ ဝန္ဒိတွာ။ ကြည်လင်ညွှတ်နူးရှိခိုးပြီး၍။ မင်္ဂပါပံ။ သဘောညစ်ကျူ။မကောင်းမှုကို။လုန်ဆိတ္တန့်တော်။တဒင်္ဂဝိက္ခမ္ဘန၊ သမုစ္ဆေဒ။ ပဋိပဿဒ္ဓိ၊ နိဿရဏပဟာန်ဖြင့်။ ပယ်ဖျက်ချိုးဖြတ်တော်မူတတ်သော။ဓမ္မံပိ။အပါယဘယ။ဝဋ်ဒုက္ခ၌။မကျချစေမူ။ဆောင်ယူတော်မူတတ်သော။ မင်္ဂလေးဝ။ဖိုလ်လေးတန်။နိဗ္ဗာန်ပရိယတ်။ တရားမြတ်ကိုလည်း။ ဝန္ဒေဝန္ဒာမိ။ ကာယဝါစာ။ မနသာဖြင့်။ ကြည်စွာမြတ်နိုး။ရှိခိုးပါ၏။ ဝန္ဒိတွာ။ကြည်စွာမြတ်နိုးရှိခိုးပြီး၍။ ပုဋ္ဌံ မင်္ဂလံ။အနိဋ္ဌဖလ။ဒုက္ခအကြောင်း။ မကောင်းညစ်ကျေးကို။ ဆေးကြောသုတ်သင်သည်၏အဖြစ်ကြောင့်။ ကြီးပွါးသောမင်္ဂလာ ရှိတော်မူသော။ ဂဏမ္ပိ။ ကလျာဏပုထုဇဉ်နှင့်တကွ ရှစ်ယောက်။ကိုးယောက်သော။ သံဃာတော်မြတ်ကိုလည်း။ ဝန္ဒေဝန္ဒာမိ။သဒ္ဓါရွှင်လန်း။ ပီတိဖျန်းလျက်။ ရှိုင်းဖွမ်းမြတ်နိုးရှိခိုးပါ၏။ဝန္ဒိတွာ။ သဒ္ဓါရွှင်လန်း။ပီတိဖျန်းလျက်။ ရှိုင်းဖွမ်းကြည်နူး။ရှိခိုးပြီး၍။ ( အပဟံ။နရာနံ။ ဟုတွာ။ ဤပါဌ်တို့ကား။ ပါဌသေသပါဌ်။ ။ဒယာသဒ္ဒါကို။ ။ဒယာယ သရုသာဟိတမာနသော။ဟူသောပါဌ်၌။ဒယာသဒ္ဒါကဲ့သို့။ကာရုဏာဟောဟုမှတ်။ ဤပဌမဂါထာ၌။ ဝန္ဒေဟူသောပါဌ်ဖြင့်ရတနတ္တယပဏာမကိုပြ၏။ နာထံ။ ဓမ္မံ။ဂဏမ္ပိဟူသောပါဌ်တို့ဖြင့် ပဏာမိတဗ္ဗကိုပြ၏။ ဖြွင်းကုန်သော ပါဌ်တို့ဖြင့်။ ဤဂချမ်း အားဖျော်သော။ပ

ဏာသမာရပဟာဘောဂဏ်ကိုပြ၏။ ဤသို့အနက်သုံးပါးသဒ္ဒါသုံးမျိုး
ပြားသည်ကိုလည်းပိုင်းခြား၍သိအပ်၏။)

ပဌမဂါထာပါဠ်ဖြင့်။ ရတနတ္တယပဏာမ၊ ပဏာမိတဗ္ဗ၊ ပ
ဏာမာရပဟာဘောဂဏ်ဟု ဆိုအပ်သော။ အနက်သုံးပါးကိုပိုင်း
ခြားပြပြီး၍။ ။အဘိယာစန။အဘိယာစကပုဂ္ဂိုလ်။ ထိုပုဂ္ဂိုလ်
၌ထိုက်သော။ ဂုဏ်ဝိသေသဟု ဆိုအပ်သော။ အနက် သုံးပါး
ကိုပြခြင်းငှါ။ ဒုတိယ။ တတိယနှစ်ဂါထာကို မိန့်အပ်၏။ ။
ရညာ။ ဥရောပ။ဏ္ဍမ္ဗိယ။ ရာမညအသျှင်။ဘုရင်မင်းမြတ်သည်။
ပုဗ္ဗဏှာနေ။ ရွှေနေတော်ရာထူး၌။ ဒဓိဒဓနွော။ ချီးမြှောက်ပေးသ
နား တော်မူအပ်သည်ဖြစ်၍။ လဒ္ဓါဝိဟာနလေခနစ။ ရအပ်ပြီး
သော။ တံဆိပ်အာဏာစာချွန်တော်လည်း ရှိထသော။ဝါ။ အာ
ဏာတော်တံဆိပ်ဖြင့်။ကွပ်နှိပ်အပ်သောအမိန့်တော်စာချွန်လည်း
ရထသော။ ဓမ္မနိ ဿယ ဘူတေန။ တရားဆုံးဖြတ်ရာ လွှတ်ရုံး
တော် သဘင်၌ ထင်ရှားသော ဂုဏ်ထူးလည်း ရှိထ သော။
သဒ္ဓမ္မဒိပ္ပကာမေနစ။သူတော်ကောင်းတရား၏စည်ကားတော်ံ
ပခြင်းကို လိုချင် တောင့်တသော နှလုံးရှိထသော။ ခူရော။သင်
တုန်းထားသည်။အတိတိက္ခဓါရော။ အလွန်ထက်မြက်သောအ
သွားရှိသည်။ ဟောတိဏ္ဍဝ။ ဖြစ်သကဲ့သို့။ အတိတိက္ခဥာဏာသူ
ရတ္တာ။ အလွန်ထက်သောဥာဏ်၊ ထက်သော ရဲရင့်ခြင်း သူရ
သတ္တိရှိသည်၏အဖြစ်ကြောင့်။ မောင်ခူတိ၄ယနာမေန။မောင်ခူ
ဟူ၍။ခေါ်ဝေါ်ပညတ်အပ်သော။နွတ်မင်္ဂလာ။သညာအမည်ထူး
ရှိသော။ရွှေနေတော်မင်းသည်။ သက္ကစ္စံ။ရိုသေစွာ။အဘိယာစိ
တော။ရွှေရှုကော်ရော်။ချီငေါ်တောင်းပန်အပ်သည်ဖြစ်၍။ ။
(ဤနှစ်ဂါထာ၌။စသဒ္ဒါကိုလုတ္တနိဒ္ဒိဋ္ဌဟုမှတ်။ ။ရာဇာနော။ဟု
သာမည ဟောတော်မူအပ်သော သဒ္ဒါ၏အနက်ကို။ ။ဓေ
သန္တရ။ကာလန္တရ။ စသည်ကိုထောက်၍။ ။ရာဇာနောတိဏ္ဍုဒံ
ဗိမ္ဗိသာရံပေယ၀သန္တာယရတ္တံ။ ဟုအဋ္ဌကထာ၌ ဝိသေသဖွင့်အပ်
သကဲ့သို့။ထိုအတူ။ဤဂါထာ၌။ရညာဟူသော။ သာမညသဒ္ဒါ၏

၏အနက်ကိုလည်း။ဒေသန္တရ။ကာလန္တရ။ စသည်တို့ကိုထောက်၍။ ။ရညာတိကူဒံ ဥရောပ ဇုန္တြယ ရာမညာသာဝမိ ဝိတ္ထိရိပသာ သန္တာယရတ္တံ။ဟုဖွင့်အပ်၏။ ။ဤနှစ်ဂါထာတွင်။ သက္ကတွံအဘိယာဝိတော။ဟူသောပါဌ်ဖြင့်။အဘိယာစနကိုပြ၏။ မောင်ခူတိဝှယံနာမေန။ ဟူသောပါဌ်ဖြင့်။ အဘိယာစက ပုဂ္ဂိုလ်ကိုပြ၏။ ကြွင်း ကျန်သော ပါဌ်တို့ဖြင့်။ အဘိယာစက ပုဂ္ဂိုလ်၏ ဂုဏ်ဝိသေသတို့ကိုပြ၏။)

ဤအနက်သုံးပါးကိုပြပြီး၍။ ။ပဋိညာ။ ပဋိညာတဗ္ဗ။ ပဋိညာပေတာ။ အဘိဓေယျ။ကာရဏာပ္ပကာရ။ ပကာရဏာဘိဓာန။ ဥပယောဇဉ်ဟုဆိုအပ်သော။ ဤ ၇ ပါးသောအနက်တို့ကိုပြခြင်းငှါ။ရတနာသာရဂဏ္ဌေ။ အစရှိသော လေးဂါထာပါဌ်တို့ကိုမိန့်အပ်၏။ ။ရတနာသာရဂဏ္ဌေ။ရတနာစစ်ရသာနှစ်ရှိသောအွေ တိုက်၌။ယန္တေ။ ယန္တရားသော့တံကျင်တို့ကို။ ဇာနနလေခနေ။သိကြောင်းဖြစ်သော ကမ္မည်းစာသည်။ သန္တေပိ။ ရှိသော်လည်း။ တသာ။ထိုကမ္မည်းစါ၏။ဒုညါတာ။ဖြုံဖြင်သဖြင့်သိအပ်သည်၏ အဖြစ်ကြောင့်။ဝါ။သိနိုင်ခဲသည်၏အဖြစ်ကြောင့်။နရာ။ လူနတ်တို့သည်။တံ။ထိုရတနာနှစ်ရသာကို။နဘုဉ္ဇန္တိဣဝ။ မသုံးဆောင်နိုင်ကျန်သကဲ့သို့။ဧဝံ။ဤအတူ။မဂ်လာသာရပိဋကေ။ မဂ်လာစစ်ရဲသာနှစ်ရှိသော ပိဋကတ်သုံးပုံ၌။ သဒ္ဒတ္ထနယဇာနနေ။ သဒ္ဒနယ။ အတ္ထနယတို့ကိုသိကြောင်းဖြစ်သော။သုတ္တေ။သုတ်သည်။ သန္တေပိ။ရှိသော်လည်း။တသာသုတ္တသာ။ ထိုသုတ်၏။ဒုညာတာ။ဖြုံဖြင်သဖြင့်သိအပ်သည်၏အဖြစ်ကြောင့်။ဝါ။ သိနိုင်ခဲသည်၏အဖြစ် ကြောင့်။မန္ဒာ။ မန္ဒပုဂ္ဂိုလ်တို့သည်။တံ။ထိုမဂ်လာနှစ်ရသါကို။ပဋိ ပဇ္ဇာ။အကြွင်ကြောင့်။နဘုဉ္ဇန္တိ။မသုံးဆောင်နိုင်ကျန်။ ။တသ္မာ။ ထိုကြောင့်။မိရော။မြဲမြံတည်ကြည်သော။သီလသမာဓိပညာရှိတော်မူသော။မေ မမ။ငါအား။ ဝါ။ ငါ၏။ အာစရိယော။ သိရိမင်္ဂလကာရဟာ။နာမပညတ်သမုတ်အပ်သောဆရာမြတ်သည်။ အဏ္ဏိမှိ၏။တသာ။ထိုဆရာမြတ်၏။ဥပဒေသံ။ဥပဒေသနည်းနယ

ကို။နိဿာယ။ အဖို့ပြု၍။ဂဏ္ဍတော။ ရတနာဍ္ဍေတိုက်မှ။ ဟာရဟာ ရနေ္တာ။ထုတ်ဆောင်၍။ရတနာသာရ၏။ ရတနာစစ်။ ဥစ္စာနှစ်ကို။ နရာနံ။လူနတ်တို့အား။ဒဿေနေ္တာဝိယ။ပြသကဲ့သို့။ဝေံ။ဤအတူ။ ပိဋကတော။ ပိဋကတ်သုံးပုံတည်းဟူသောဍ္ဍေတိုက်မှ။ သာရ၏။ မင်္ဂလာနှစ်ရသာကို။ ဟာရဟာရနေ္တာ။ထုတ်ဆောင်၍။သုဝိနိစ္ဆယံ။ သန္နိါအနက်။ မပျက်သန့်ရှင်းကင်းသောအခမ္ဘဝါဒရှိသည်၏ အ အဖြစ်ကြောင့်။မင်္ဂလာသါရဒီပနီ။မင်္ဂလါသာရဒီပနီမည်သော ကျမ်းကို။ကရိဿံကရိဿာမိ။ ရေးစီရင်ပေအံ့။ တံပကရဏံ။ ထိုကျမ်းကို။သာဓဝေါ။သူတော်ကောင်းတို့သည်။နိသာမေထ။ နှစ်လုံး၌သိုမှီးကြကုန်။ဤလေးဂါထာ ပါဌ်တို့တွင်။ကရိဿံ။ဟူ သောပါဌ်ဖြင့်။ ပဋိညာဉ်ကိုပြ၏။ မင်္ဂလာသာရဒီပနီ ဟူသော ပါဌ်ဖြင့်။ပဋိညာတဗ္ဗ။အဘိဓေယျ။ပကရဏာဘိဓာန။ဤအနက် သုံးပါးကိုပြ၏။စတုတ္ထ၊ ပဥ္စမ၊ ဂါထာပါဌ်တို့ဖြင့်။ ပဋိညာဟေ တုကိုပြ၏။တံနိသာမေထသာဓဝေါ။ဟူသောပါဌ်ဖြင့်။ဥယျော ဇဉ်ကိုပြ၏။။စသန္နိါကိုပဒပူရဏာဟုမှတ်။

ဤ ၇ ပါးသောအနက်တို့ကိုပြပြီး၍။ထိုမင်္ဂလာအနှစ်အရသာ ကိုသင်ခြင်း။ကျင့်ဆောင်းခြင်း။အကျိုးအာနိသင်ဟုဆိုအပ်သော ပယောဇဉ်ကို ပြခြင်းငှာ။ သမ္ပတ္တိယာလောကေ။ အစရှိသော လေးဂါထာတို့ကိုမိန့်အပ်၏။ ။ပန။ဆက်၍ကွန့်မြူး။အကျိုးထူး ကို။ ဆိုလိုက်ဦးအံ့။လောကေ။သတ္တလောက၌။မင်္ဂလံ။မင်္ဂလာတ ရားတော်မြတ်သည်။နရာနံ။လူနတ်တို့၏။ သမ္ပတ္တိယာ။လူ့ချမ်း သာ၊နတ်ချမ်းသာ၊ နိဗ္ဗာန်ချမ်းသာမြတ်၏။မူလဥ္စ။ အမြစ်အရင်း သည်လည်း။ ဟောတိ။ ဖြစ်၏။နိဗ္ဗာနဥ္စါရသောပါဏာဥ္စ။ နိဗ္ဗာန် သို့ ဝင်ရောက်ခါး၊ နိဗ္ဗာန်သို့ တက်ရာ စောင်းတန်းနှင့် တူသည် လည်း။ ဟောတိ။ ဖြစ်၏။ တံ။ ထိုမင်္ဂလာတရားမြတ်ကို။ဝိနာ။ ကြဉ်၍။ တံသမ္ပတ္တိံ။ ထိုချမ်းသာ သုံးပါးကို။ နရာ။ လူနတ်တို့ သည်။နလဘန္တိ။မရကုန်။ဟိသစ္စံ။ထိုစကားသည်မှန်၏။ဣဓဘာ ဝေ။ ဤပစ္စုပ္ပန္နဘဝ၌။ ယေနရာ။အကြင်သူတို့သည်။ သာရ၏။ မင်

လာနှစ်ရသာကို။ နစရန္တိ။ မကျင့်ကုန်။ တေသံ။ ထိုသူတို့အား။ သမ္ဗန်။ စည်းစိမ်ချမ်းသာသည်။ နဝိဇ္ဇတိ။ မရှိ။ ယေ။ အကြင်သူတို့သည်။ အပ္ပံ။အနည်းငယ်။တံသာရံ။ ထိုမင်္ဂလာနှစ်ရသာကို။ စရန္တိ။ကျင့်ကုန်၏။ တေသံ။ ထိုသူတို့အား။အပ္ပံ။ အနည်းငယ်။ သမ္ဗန်။ စည်းစိမ်ချမ်းသာသည်။ ဝိဇ္ဇတိ။ရှိ၏။ ယေ။ အကြင်သူတို့သည်။ပါယံ။များစွာ။တံသာရံ။ ထိုမင်္ဂသာနှစ်ရသာကို။ စရန္တိ။ ကျင့်ကုန်၏။တေသံ။ထိုသူတို့အား၊ ပါယံ။များစွာ။ သမ္ဗန်။စည်းစိမ်ချမ်းသာသည်။ဝိဇ္ဇတိ။ရှိ၏။ ယေ။အကြင်သူတို့သည်။သဗ္ဗံ။အလုံးစုံသော။တံသာရံ။ထိုမင်္ဂလာနှစ်ရသာကို။ စရန္တိ။ကျင့်ကုန်၏။တေ။ ထိုသူတို့သည်။ သုခံပဒံ။ ချမ်းသာကိုပေးတတ်သော။ ခမံ။ ဘေးခပ်သိမ်းတို့၏ကင်းငြိမ်းရာဖြစ်သောနိဗ္ဗာန်သို့။ ယန္တိ။ ရောက်ကြကုန်၏။ ။ဇိဝံပိ။ ဤဆိုအပ်ခဲ့ပြီးသည့်လည်း ဖြစ်သော။ အတ္တံ။အကျိုးစီးပွါးကို။ သမ္ပဿံသမ္ပဿာ ဉ္ဏာ။ကောင်းစွာမြင်သော။ သုခတ္တိကော။ ချမ်းသာသုံးပါးကို အလိုရှိသည်လည်းဖြစ်သော။ပဏ္ဍိတော။ ပညာရှိသည်။တံသာရံ။ထိုမင်္ဂလာနှစ်ရသာကို။ ဓာနန်ဓာန နုတ္တာယ။ သိခြင်းအကျိုး၄။ ဝါ။ သိအောင်။ဥဿာဟံ။ အားထုတ်ခြင်းကို။ ကတွာ။ ပြု၍။သက္ကစ္စံ။ရိုသေစွာ။စရေ။ကျင့်လေလော့။

၁။ ၂။ ဗာလာသေဝနမင်္ဂလာ။ပဏ္ဍိတသေဝနမင်္ဂလာ။
လူမိုက်ကိုမမှီဝဲခြင်း၊ ပညာရှိကိုမှီဝဲ
ခြင်း၌အပြစ်အကျိုးကိုပြခြင်း
အကြောင်း။။

ဤသို့ တဆဲ့ လေးပါး ကုန်သော။ အနက် တို့ကို ပြတတ်သော။ တဆဲ့တဂါထာပါဌ်တို့ဖြင့်။ တန်းဆာဆင်အပ်သည်ဖြစ်၍။ ဝန်ခံအပ်သော။ မင်္ဂလာသာရ ဒီပနီမည်သော။ သံဝဏ္ဏနာကျမ်း၏ သံဝဏ္ဏေတဗ္ဗ ဖြစ်သော။ သုံးဆဲ့ ရှစ်ပါး ကုန်သော မင်္ဂလာ တရားမြတ်တို့တွင်။ ဗာလနာသေဝနမင်္ဂလာ။ ပဏ္ဍိတ

သောဝန မင်္ဂလာ နှစ်ပါးတို့၏။ အနှစ်ရသာစစ်ကား။ သူမိုက်ကို မှီဝဲခြင်းကြောင့်ဖြစ်သောအာဒီနဝအပြစ်။ ။ပညာရှိကိုမှီဝဲခြင်း ကြောင့်ရအပ်သော အာနိသံသအကျိုး ဆက်တို့ကို။ သတ္တိဂုမ္ဗ၊ ပုပ္ဖက။ ကျေးညီနောင် စသည်တို့၏၊ ထုံးပုံ အာဂုံဥပက တို့ ဖြင့်သိအပ်၏။ ။ထုံးပုံအာဂုံဥပကကား။ ထိုကျေးသားငယ် ညီနောင်နှစ်ခုတို့သည်။ ပျံသွားကြလေရာ။ လေဝန်းခတ်၍။ ထို ကျေးသား ငယ်တို့သည် အသီးအခြား ကွဲပြားရာ၊ တခုသော ကျေးသားငယ်သည်။ သူခိုးတို့ရွာလက်နက်ကြားသို့ကျလေ၏။ ထို့ကြောင့်ခိုးသားတို့က။ သတ္တိဂုမ္ဗဟုအမည်မှည့်၍ မွေးမြူကြီး ရလေ၏။ ။တခုသောကျေးသားသည် လည်း ရသေ့ကျောင်း အပြင် ပန်းကြား၌ ကျလေ၏။ ထို့ကြောင့် ရသေ့တို့က ပုပ္ဖက ဟုအမည်မှည့်၍မွေးမြူကြီးရလေ၏။ တရံရောအခါပဉ္စာလမင်း ကြီးသည်။တောကြူး၍ သွားရာ။ ခိုးသားရွာသို့ခိုးသားတို့လှည့် လည်သွား၍ရွာတွင်မရှိခိုက်။ သတ္တိဂုမ္ဗမည်သောကျေးသား အ နီးသို့ရောက်လေ၏။ ထိုအခါကျေးသားသည်။လူတို့၏ ဘာသာ ဖြင့်။မင်းကြီးကိုသတ်၍မင်း၏တန်းဆာကိုယူရအံ့ဟု။ခိုးသားတို့ အလေ့အကျင့်ဖြင့်။ထမင်းချက်သောသူကိုတိုင်ပင်ငံလေလျှင်။ ထို စကားကိုမင်းကြီးကြား၍။ ခိုးသူတို့ရွာမှန်းသိလေလျှင်။ အလွန် ထိတ်လန့်လျက် ပြေးလေသော်။ ရသေ့တို့ကျောင်းသို့။ ရသေ့ တို့မရှိခိုက်ရောက်လေလျှင်။ပုပ္ဖကမည်သောကျေးသားငယ်က အာဂန္တုဝတ်ဖြစ်သောခရီးဦးကြို၍ မင်းကြီးလာခြင်း ကောင်း စွတကား။ မင်းကြီး၏ လာခြင်းကား အပြစ်မရှိသော လာခြင်း တည်း။ဤသို့သိမ်မွေ့နူးညံ့လှသော ကျေးသား၏စကားကိုကြား လျှင်ထိုကျေးသား၏။ပဋိသန္ဓာရ၌အလွန်ကြည်ညို၍။ဤဌက်ကား ကောင်းပေစွတကား။ အလွန်တရားကျင့်ပေစွတကား။ ဤမှတ ပါး။ ခိုးသူရွာတွင် တွေ့ခဲ့သော ဌက်ကား။ အလွန်ရုန့်ရင်း ကြန် သောစကားတို့ကိုဆိုတတ်၏တကားဟု။ ပုပ္ဖကကျေးသား ကို ချီးမွမ်း၍။ သတ္တိဂုမ္ဗကျေးသားကို ကဲ့ရဲ့၏။ ကိုစကားကို ပုပ္ဖက

ကျေးသားကြား၍။မင်းကြီး။ ငါသည်ထိုကျေးသားနှင့်တမိသား ချင်းပင်တည်း။ထိုကျေးသားသည်။ မသူတောင်တို့အထံ၌ကြီးရ၍။ ခိုးသားတို့သည်မိမိတို့ အလေ့အကျင့်တို့ဖြင့် ဆုံးမသွန်သင် အပ်သောငှက်ဖြစ်၍။ အလွန်ကြမ်းတမ်းသောစိတ်ရှိ၏။ ငါ့မှာမူ ကား။သူတောင်ကောင်းတို့ဆုံးမသွန်သင်အပ်သောငှက်ဖြစ်၏။ထို ကြောင့်နှစ်ဦးကျန်သော သူတို့သည် အကျင့်အားဖြင့် မတူကြ ကုန်ဟုဆို၍။မင်းကြီးအား တရားဟောလိုရကား။

ယံယံဟိရာဇဘဇတိ။ သတံဝါယဒိဝါအသတံ။ သီလဝန္တံဝိ သီလံဝါ။ဝသံတဿေဝဂစ္ဆတိ။ ။ယာဒိသံကုရုတေမိတ္တံ။ယာ ဒိသဉ္စုပသေဝတိ။ သောပိ တာဒိသ ကော ဟောတိ။ သဟဝါ သောပိ တာဒိသော။ ။သေဝမာနော သေဝမာနံ။ သမ္ဖုဋ္ဌော သမ္ဖုဋ္ဌံပရံ။သရောဒိဒ္ဓေါကလာပံဝ။အလိတ္တမုပလိမ္ပတိ။ ။ဥပ လေပဘယာဓီရော။ နေဝပါပသခါသိယာ။ ။ပူတိမစ္ဆံကု သဂ္ဂေန။ယောနရောဥပနယှတိ။ကုသာပိပူတိဝါယန္တိ။ဧဝံဗာလူ ပသေဝနာ။ ။တဂ္ဂရဉ္စပလာသေန။ယောနရောဥပနယှတိ။ပတ္တာ ပိသုရဘိဝါယန္တိ။ဧဝံဓီရူပသေဝနာ။ ။တသ္မာပတ္တပုဋဿေဝ။ ဉတွာသမ္ပာကမတ္တနော။အသန္တောနုပသေဝေယျ။သန္တောသေ ဝေယျပဏ္ဍိတော။ အသန္တော နိရယံနေတိ။ သန္တော ပါပေန္တိ သုဂ္ဂတိံ။

ရာဇ ။မင်းမြတ်၊ ယောနရော။ အကြင် သူသည်။ သတံဝါ။ ကောင်းသည်လည်းဖြစ်သော။ယဒိ။ထိုမှို့။အသတံဝါ။ မကောင်း သည်လည်းဖြစ်သော။သီလဝန္တံဝါ။သီလရှိသည်လည်းဖြစ်သော။ ဝိသီလံဝါ။သီလမရှိသည်လည်းဖြစ်သော။ယံယံ။အကြင်အကြင် အဆွေခင်ပွန်းကို၊ဘဇတိ၊ဆည်းကပ်၏။သောနရော။ထိုသူသည်၊ တဿေဝ။ ထိုအဆွေခင်ပွန်း၏သာလျှင်။ ဝသံ။ အလိုနိုင်ငံသို့ ဂစ္ဆတိ။လိုက်၏။ ။ယောနရော။အကြင်သူသည်၊ ယာဒိသံ။အ ကြင်သို့သဘောရှိသော။ မိတ္တံ။ အဆွေခင်ပွန်းကို။ ကုရုတေ။ပြု ၏။ယာဒိသဉ္စ။အကြင်သို့သဘောရှိသောသူကိုလည်း။ဥပသေဝ

တံ၊ မှိုဝဲ၏။ သောပိ။ ထိုမှိုဝဲတတ်သောသူသည်လည်း။ တာဒိ
သကော။ ယိုမှိုဝဲအပ်သောသူနှင့်တူသည်။ ဟောတိ။ ဖြစ်၏။ သ
ဟာဝါသောပိ။ တကွနေတတ်သောသူသည်လည်း။ တာဒိသော။
ထိုတကွနေအပ်သောသူနှင့်တူသည်။ ဟောတိ။ ဖြစ်၏။ ။ ဒိဋ္ဌေါ
သရော။ ဆိပ်လူးမြားသည်။ ကလာပံ။ တောင့်ကို။ ဥပလိမ္ပတိဣဝ။
ဆိပ်ဖြင့်လိမ်းကျံသကဲ့သို့။ သေပမာနော။ မှိုဝဲအပ်သော ဆရာ
သည်။ အလိတ္တံ။ မကောင်းမှုဖြင့်မလိမ်းကျံသော။ သေဝမာနံ။ မှိုဝဲ
တတ်သောတပည့်ကို။ သမ္ဖုဋ္ဌော။ ပေါင်းဘော်အပ်သောဆရာ
သည်။ အလိတ္တံ။ မကောင်းမှုဖြင့်မလိမ်းကျံသော။ ပရံ။ တပါး
သော။ သမ္ဖုဋ္ဌံ။ ပေါင်းဘော်တတ်သောတပည့်ကို။ ဥပလိမ္ပတိ။
မကောင်းမှုဖြင့်လိမ်းကျံတတ်၏။ ဥပလေပဘယာ၊ မကောင်းမှု
ဖြင့်လိမ်းကျံအံ့သည်မှကြောက်သဖြင့်။ ဓီရော။ ပညာရှိသည်။
ပါပသခေါ။ ယုတ်မာသော အဆွေခင်ပွန်းရှိသည်။ နေဝသိယာ။
မဖြစ်ရာသလျှင်ကတည်း။ ။ ယောနရော။ အကြင်သူသည်။ ပူ
တိမစ္ဆံ။ ပုပ်သောငါးကို။ ကုသဂ္ဂေန။ သမန်းမြက်ဖျားဖြင့်။ ဥပနယှ
တိ။ ဘွဲ့၏။ ကုသာပိ။ သမန်းမြက်တို့သည်လည်း။ ပူတိံ။ ပုပ်ခြင်း
သို့။ ဝါယန္တိ။ ရောက်ကုန်၏။ ဧဝံ၊ ဤအတူ။ ဗာလူပသေဝနာ။ သူ
မိုက်ကိုမှိုဝဲကုန်သောသူတို့သည်။ ဟောန္တိ။ ဖြစ်ကုန်၏။ ။
ယောနရော။ အကြင်သူသည်။ တဂ္ဂရဉ္စ။ တောင်ဇလပ်ကိုလည်း။
ပလာသေန။ ဘက်ဖြင့်။ ဥပနယှတိ။ ထုပ်၏။ ပတ္တာပိ။ ဘက်တို့
သည်လည်း။ သုရဘိံ။ မွှေးခြင်းသို့။ ဝါယန္တိ။ ရောက်ကုန်၏။ ဧဝံ။
ဤအတူ။ ဓီရူပသေဝနာ၊ ပညာရှိကိုမှိုဝဲကုန်သောသူတို့သည်။
ဟိယာသွာ။ အကြင်ကြောင့်။ ဟောန္တိ။ ဖြစ်ကုန်၏။ တသ္မာ။ ထို
ကြောင့်။ ပတ္တပုဋဿ။ တောင်ဇလပ်ကို ထုပ်သောဘက်၏။
ပါကံဣဝ။ အကျိုးကိုကဲ့သို့။ အတ္တနော။ မိမိ၏။ သမ္ပာကံ။ ကောင်း
သောအကျိုးကို။ ဉတွာ။ သိ၍။ ပဏ္ဍိတော။ ပညာရှိသည်။ အ
သန္တေ။ မသူတော်တို့ကို။ နုပသေဝေယျ။ မမှိုဝဲရာ။ သန္တေ။ သူ
တော်ကောင်းတို့ကို။ သေဝေယျ။ မှိုဝဲရာ၏။ အသန္တော။ မသူ

တော်တို့သည်။ နိရယံ။ ငရဲသို့။ နေန္တိ။ ဆောင်တတ် ကုန်၏။ သဂ္ဂေ၁။ သူတော်ကောင်းတို့သည်။ သုဂတိံ။ သုဂတိသို့။ ပါ ပေန္တိ။ရောက်စေတတ်ကုန်၏။ ။ဤသို့ပုဗ္ဗကကျေးသားသည် ပဥ္စာလမင်းကြီးအား တရားဟောသည်ရှိသော်။ ပဥ္စာလ မင်း ကြီးသည် ကျေးသား၏တရား၌ အလွန် ကြည်ညို ခြင်းဖြစ်၍။ ကျေးသား ဆရာရသေ့တို့နှင့်တကွ တိုင်းပြည်သို့ ပင့် ပြီးလျှင်၊ ဥယျာဉ်၌ နေစေ၍ ကျေးသား အပေါင်းတို့အား ဘေးမဲ့ပေးပြီး လျှင်။ ရသေ့တို့ထံ ဆည်းကပ်လုပ်ကျွေးမွေးမြူလျက် အသက် ထက်ဆုံးအားထုတ်လေသည်။

ဗာရာဏသီပြည်၌ဒဓိဝါဟနမင်းကြီးစိုက်ပျိုးသော အလွန် ချိုမြိန်စွာသောအရသာကိုဆောင်သောသရက်ပင်သည်။ တ မာပင်တို့နှင့်ရောရှက်မှီ၍ထိုသရက်သီး၏ အရသာခါးသောအ ကြောင်းကို။ ဘုရားလောင်းအမတ်က ထိုမင်းကြီးအား ကြား လျှောက်လိုသောကြောင့်။ ။ဟောတော်မူသောဂါထာကား။ ။ ပုစိမန္ဒပရိဝါရော။ အမ္ဗောတေဒဓိဝါဟန။ မူလံမူလေနသံသဋ္ဌံ။ သာခံသာခါနိသေဝရေ။အသာတသန္နိဝါသေန။ တေနမ္ဗောက ဋုကပ္ဖလော။ ။ဟူသောဂါထာကိုဆို၏။ ။ဒဓိဝါဟန။ နို့ ဓမ်းစစ်သည်ရှိသောမင်းမြတ်။တေ။သင်မင်းကြီး၏။အမ္ဗော။သ ရက်ပင်ကို။ ပုစိမန္ဒပရိဝါရော။ တမာပင်သည်ခြံရံအပ်၏။ မူလံ။ သရက်မြစ်ကို။မူလေန။တမာမြစ်သည်။ သံသဋ္ဌံ။ ရောရှက်အပ် ၏။သာခံ။သရက်ခက်ကို။သာခါ။ တမာခက်တို့သည်။ နိသေဝ ရေ။မှီဝဲကုန်၏။တေန။အသာတသန္နိဝါသေန။ ထိုမသာယာအပ် သောတမာပင်နှင့်ပေါင်းဘော်ခြင်းကြောင့်။ အမ္ဗော။ သရက် ပင်သည်။ ကဋုကပ္ဖလော။ ခါးသောအသီးရှိ၏။ ။ထိုစကား ကိုကြား၍မင်းကြီးသည်တမာခွေးတောက်ပင်တို့နှင့်တကွ။ခါး သောမြေတို့ကိုတူးပယ်စေ၍ ကောင်းသောမြေတို့နှင့်။ နို့ရည် သကာနံ့သာရည်တို့ကိုသရက်ပင်မြစ်ရင်းသို့လောင်းစေ၏။ထို

အခါသရက်ပင်သည်အချိန့်နှင့်ပေါင်းဘော်မိ၍။ တဘန်ချိုသော အသီးရှိသည်ဖြစ်လေ၏။

တနည်းလည်းသူမိုက်တို့သည် သန်လျက်လက်စွဲသောရန် သူတို့နှင့်တူကုန်၏။ ပညာရှိတို့သည်ချစ်လှစွာသောအဆွေအမျိုး တို့နှင့်တူ၏ဟုသဗ္ဗညုရှင်တော်ဘုရားဟောတော်မူလို၍။ ဓမ္မပဒ သုခဝဂ်သဂ္ဂဏ္ဏကဋ္ဌကထာ၌။ ။ဗာလသင်္ဂတစာရီဟိ။ဒီဃမဒ္ဓါနံသော စတိ။ဒုက္ခောဗာလေဟိသံဝါသော။အမိတ္တေနေဝသဗ္ဗဒါ။ ။ဓိ ရောစသုခသံဝါသော။ ဉာတီနံဝသမာဂမော။ တသ္မာဟိ ဓီရံ ပညဉ္စ။ ဗဟုဿုတဉ္စ ဓောရယှံ။ ။သီလဗ္ဗတ ဝန္တမရိယံ။ တထာဒိသံသပ္ပုရိသံ။သုမေဓံဘဇေထ။နက္ခတ္တပထံဝစန္ဒိမာ။ ။ ဟူသောဂါထာကိုဟောတော်မူ၏။ ။ဟိသစ္စံ။ မှန်၏။ ဗာလ သင်္ဂတစာရီ။သူမိုက်နှင့်တကွပြုလေ့ကျင့်လေ့ရှိသောသူသည်။ ဒီဃံ။ရှည်စွာသော။အဒ္ဓါနံ။ကာလပတ်လုံး။သောစတိ။ စိုးရိမ်ရ ၏။ အမိတ္တေန။ ရန်သူနှင့်။ သံဝါသော။ပေါင်းဘော်ခြင်းသည်။ သဗ္ဗဒါ။အခါခပ်သိမ်း။ဒုက္ခောဣဝ။ဆင်းရဲသကဲ့သို့။ ဗာလေဟိ။ သူမိုက်တို့နှင့်။ သံဝါသော။ ပေါင်းဘော်ခြင်းသည်။ ဒုက္ခော။ ဆင်းရဲ၏။ ။ဉာတီနံ။ချစ်စွာကုန်သောအဆွေအမျိုးတို့၏။ သ မာဂမော။ပေါင်းဘော်ခြင်းသည်။ သုခေါဣယ။ ချမ်းသာသကဲ့ သို့။ဓီရောစ။ပညာရှိသည်လည်း။ သုခသံဝါသော။ ချမ်းသာကို ဖြစ်စေတတ်သောပေါင်းဘော်ခြင်းရှိသည်။ ဟိယသ္မာ။အကြင် ကြောင့်။ ဟောတိ။ ဖြစ်၏။ တသ္မာ။ထိုကြောင့်။ စန္ဒိမာ။ လမင်း သည်။ နက္ခတ္တပထံ။ နက္ခတ်တို့လမ်းဖြစ်သောကောင်းကင်သို့။ ဘဇတိဣဝ။ ဆည်းကပ်သကဲ့သို့။ ဓီရဉ္စ။ တည်ကြည်သည် လည်းဖြစ်ထသော။ ပညဉ္စ။ လောကီ လောကုတ္တရာ ပညာရှိ သည်လည်းဖြစ်ထသော။ ဗဟုဿုတဉ္စ။ ပရိယတ်ပဋိပတ်ပဋိ ဝေဓဟူသော များသော အကြားအမြင်ရှိသည် ဖြစ်ထသော။ ဓောရယှံသီလဗ္ဗတဝန္တံ။အရဟတ္တဖိုလ်သို့ရောက်ခြင်းဟူသော ဝန်ကိုဆောင်ခြင်းသီလဝတ္တင်ဟူသောအကျင့်ရှိသော။ အရိယံ။

ကိလေသာတို့မှဝေးသော။ တာဒိံ။သည်းခံခြင်းရှိသော။သုမေဓံ။ ကောင်းသော ပညာရှိသော။ တံသပ္ပုရိသံ။ ထိုသူတော်ကောင်းကို။ဘဇေထ။မှီဝဲဆည်းကပ်ကျန်လေ့။

တနည်းလည်းဘုရားလောင်းရသေ့သည်ဟိမဝန္တာတော၌နေစဉ်။ မိမိသားရသေ့ငယ်သည် လူတို့အရပ်သို့သွားလိုသောကြောင့်။မိမိသားရသေ့ငယ်ကိုဆုံးမပေးလိုရကား။ ။ယဿကာယေနဝါစာယ။မနသာနတ္ထိဒုက္ကဋံ။ဥရသိဝပတိဋ္ဌာယ။ တံဘဇေဟိဣတောဂတော။ ။ယောစဓမ္မေနစရတိ။ စရန္တောပိနမညတိ။ ဝိသုဒ္ဓကာရိံသပ္ပုညံ၊ တံဘဇေဟိဣတောဂတော။ ။ဟာလိဒ္ဒိရာဂံကပိစိတ္တံ။ ပုရိသံရာဂရာဂိနံ။ တာဒိသံ တာတမာသေဝိ။နိမ္မနုဿံပိစေသိယာ။ ။အာသိဝိသံဝကုပိတံ။မိဠ္ဟလိတ္တံမဟာပထံ။ အာရကာပရိဝဇ္ဇေဟိ။ ယာနီဝဝိသမံပထံ။ ။အနတ္ထာတာတဝဍ္ဎန္တိ။ ဗာလံအစ္စုပသေဝတော။ မာသုဗာလေနသင်္ဂစ္ဆိ။ အမိတ္တေနေဝသဗ္ဗဒါ။ ။တံတာဟံတာတယာစာမိ။ ကရဿုဝစနံမမ။ မာသုဗာလေနသင်္ဂစ္ဆိ။ ဒုက္ခော ဗာလေဟိသင်္ဂမော။ ။ဟူသောဂါထာကိုဆို၍။ ။တာတ။ ချစ်သား။ယဿ။အကြင်သူအား။ကာယေန။ကိုယ်ဖြင့်လည်းကောင်း။ ဝါစာယ။နှုတ်ဖြင့်လည်းကောင်း။ မနသာ။ စိတ်ဖြင့်လည်းကောင်း။ဒုက္ကဋံ။မကောင်းမှုကိုပြုခြင်းသည်။ နတ္ထိ။မရှိ။ ဥရသိ။အမိရင်၌ဇာတော။ဖြစ်သော။ပုတ္တော။သားသည်၊ မာတရံ။အမိကို။ဘဇတိဣဝ။ဆည်းကပ်သကဲ့သို့။ ဣတော။ ဤဟိမဝန္တာအရပ်မှ။ ဂတော။သွားသော။တွံ။ သင်သည်။ တံ။ထိုမကောင်းမှုမရှိသောသူကို။ ပတိဋ္ဌာယ။အမိအရာ၌ထား၍။ဘဇေဟိ။ဆည်းကပ်လေလော့။ ။ယောစ။အကြင်သူသည်လည်း။ဓမ္မေန။သုစရိုက်တရားဖြင့်။စရတိ။ကျင့်၏။ စရန္တောပိ။ တရားကျင့်ပြားသော်လည်း။နမညတိ။ ငါတရားကျင့်သောသူဟူ၍မာန်မထောင်လွှား။ဝိသုဒ္ဓကာရိံ။ စင်ကြယ်သော ကုသလကမ္မပထဆယ်ပါးကိုပြုတတ်သော။သပ္ပုညံ။ပညာရှိသော။တံ။ထိုသူကို။ဣတော။ဤဟိမဝန္တာ

အရပ်မှ။ဂတော။သွားသော။ တွံ။သင်သည်။ ဘဇေဟိ။ ဆည်း
ကပ်လေလော့။ ။တာတ။ချစ်သား။ ဇမ္ဗုဒီပတလံ။ဇမ္ဗုဒိပ်အ
ပြင်သည်။နိမ္မနုဿံပိ။လူမရှိသည်မူလည်း။စေဘိယာ။ အကယ်
၍ဖြစ်စေကာမူ။ ဟာလိဒ္ဒိရာဂံ။ မမြဲသောစိတ်ရှိသည်၏ အဖြစ်
ကြောင့်နနွင်းဆိုးရည်နှင့်တူသော။ကပိစိတ္တံ။ မျောက်ကဲ့သို့လျှပ်
ပေါ် တုန်လှုပ်သောစိတ်ရှိသော။ ရာဂရာဂိနံ။ ရာဂစိတ်ဖြင့် ချစ်
လွယ်မုန်းလွယ်ခြင်း စိတ်ရှိသော။ တာဒိသံပုရိသံ။ ထိုသို့သ
ဘောရှိသောပုဂ္ဂိုလ်ကို။တွံ။သင်ချစ်သားသည်။မာသေဝိ။မမှီဝဲ
လေလင့်။ ။ကုဇ္ဈိတံ။အမျက်ထွက်သော။ အာသိဝိသံဝ။ လျှင်
သောအဆိပ်ရှိသောမြွေကဲ့သို့လည်းကောင်း။ မိဠ္ဌလိတ္တံ။ မစင်
လိမ်းကျံသော။မဟာပထံဝ။ခရီးမကဲ့သို့လည်းကောင်း။ ယာနီ။
ယာဉ်ဖြင့်သွားသောသူသည်။ဝိသမံ။မညီမညွတ်သော။ ပထံ။ခ
ရီးကို။ဝဇ္ဇေတိဣဝ။ ကြဉ်သကဲ့သို့လည်းကောင်း။ တာဒိသံပုရိ
သံ။ထိုသို့သဘောရှိသောပုဂ္ဂိုလ်ကို။တွံ။သင်သည်။ အာရကာ။
ဝေးစွာ။ပရိဝဇ္ဇေဟိ။ကြဉ်လေလော့။ ။တာတ။ ချစ်သား။ ဗာ
လံ။သူမိုက်ကို။အစ္ဆုပသေဝတော။မှီဝဲသောသူအား။ အနတ္ထော။
အကျိုးမဲ့တို့သည်။ ဝဍ္ဎန္တိ။ပွါးကုန်၏။တွံ။သင်သည်။ ဗာလေန။
သူမိုက်နှင့်။ မာသုသင်္ဂစ္ဆိ။ မပေါင်းဘော်လေနှင့်။ တာတ။ချစ်
သား။ အမိတ္တေန။ ရန်သူနှင့်။ သမာဂမော။ ပေါင်းဘော်ခြင်း
သည်။သဗ္ဗဒါ။အခါခပ်သိမ်း။ ဒုက္ခောဣဝ။ဆင်းရဲသကဲ့သို့။ ဗာ
လေဟိ။ သူမိုက်တို့နှင့်။ သမာဂမော။ ပေါင်းဘော်ခြင်းသည်။
ဒုက္ခော။ဆင်းရဲ၏။ တံတသ္မာကာရဏာ။ ထိုကြောင့်။ အဟံ။ငါ
သည်။တံ။သင့်ကို။ ယာစာမိ။တောင်းပန်၏။ တွံ။သင်သည်။ ဗာ
လေန။သူမိုက်နှင့်။ မာသုသင်္ဂစ္ဆိ။ မပေါင်းဘော်လေလင့်။ ။
ရသေ့သည်မိမိသားရသေ့ငယ်ကို ဆုံးမကြောင်းကိုနဝနိပါတ်
ဟာလိဒ္ဒိရာဂဇာတ်၌။ ဘုရားဟောတော်မူသော ဂါထာပါဌ်၌ အန
က်တည်း။

တနည်းလည်း သူမိုက်တို့ကိုအမှီပြု၍ပရိသတ်၄ပါးတို့သည်

ဘေးဥပဒ္ဒဝေါအငြိအတွယ်ရေခံသည်ကို အင်္ဂုတ္တိုရ်ပဌမ သုတ်
၌။ ။ဘိက္ခဝေ။ရဟန်းတို့။နဠာဂါရာဝါ။ကျူဖြင့်မိုးရံအပ်သော
အိမ်မှလည်းကောင်း။ တိဏာဂါရာဝါ။ မြက်ဖြင့်မိုးရံအပ်သော
အိမ်မှလည်းကောင်း။ အဂ္ဂိမတ္တော။ စ၍လောင်သော အနည်း
ငယ်သောမီးမျှသည်။ ဥလ္လိတ္တာဝလိတ္တာနိ။ အတွင်းအပလိမ်းကျံ
အပ်ကုန်သော။ နိဝါတာနိ။ လေတိတ်ကုန်သော။ ဖုသိတဂ္ဂဠာ
နိ။ စေ့စပ်ကုန်သောတံခါးမတံခါးရွက်ရှိကုန်သော။ ပိဟိတဝါ
တပါနာနိ။ ကောင်းစွာထားအပ်သော လေသွန်တံခါး ရှိကုန်
သော။ ကူဋာဂါရာနိပိ။ ရှလစ်မွန်းချွန်တပ်ကုန်သောအိမ်တို့ကို
လည်း။ဒဟတိ။သေယျထာပိ။လောင်သကဲ့သို့။ ဘိက္ခဝေ။ရဟန်း
တို့။ ဧဝမေဝခေါ။ ဤအတူပင်လျှင်။ ယာနိကာနိစိဘယာနိ။ ခပ်
သိမ်းကုန်သောဘေးတို့သည်။ ဥပ္ပဇ္ဇန္တိ။ဖြစ်ကုန်၏။ သဗ္ဗာနိ။ခပ်
သိမ်းကုန်သော။တာနိ။ ထိုဘေးတို့သည်။ ဗာလတော။ သူမိုက်
ကြောင့်။ ဥပ္ပဇ္ဇန္တိ။ဖြစ်ကုန်၏။ ပဏ္ဍိတတော။ ပညာရှိကြောင့်။
နောဥပ္ပဇ္ဇန္တိ။မဖြစ်ကုန်။ယေကေစိ။ခပ်သိမ်းကုန်သော။ ဥပဒ္ဒဝါ။
ဥပဒ္ဒဝေါတို့သည်။ ဥပ္ပဇ္ဇန္တိ။ဖြစ်ကုန်၏။ သဗ္ဗေ။ ခပ်သိမ်းကုန်
သော။တေ။ထိုဥပဒ္ဒဝေါတို့သည်။ဗာလတော။ သူမိုက်ကြောင့်။
ဥပ္ပဇ္ဇန္တိ။ဖြစ်ကုန်၏။ပဏ္ဍိတတော။ပညာရှိကြောင့်။နောဥပ္ပဇ္ဇန္တိ။
မဖြစ်ကုန်။ ယေကေစိ။ ခပ်သိမ်းကုန်သော။ ဥပသဂ္ဂါ။ အငြိအ
တွယ်တို့သည်။ဥပ္ပဇ္ဇန္တိ။ဖြစ်ကုန်၏။ သဗ္ဗေ။ခပ်သိမ်းကုန်သော။
တေ၊ ထိုအငြိအတွယ်တို့သည်။ ဗာလတော။ သူမိုက်ကြောင့်။
ဥပ္ပဇ္ဇန္တိ။ ဖြစ်ကုန်၏။ ပဏ္ဍိတတော။ ပညာရှိကြောင့်။ နော
ဥပ္ပဇ္ဇန္တိ။မဖြစ်ကုန်။ ဘိက္ခဝေ။ရဟန်းတို့။ ဣတိခေါ။ ဤသို့လျှင်။
ဗာလော။သူမိုက်သည်။ သပ္ပဋိဘယော။ ဘေးရှိ၏။ပဏ္ဍိတော။
ပညာရှိသည်။ အပ္ပဋိဘယော။ဘေးကင်း၏။ ဗာလော။သူမိုက်
သည်။သဥပဒ္ဒဝေါ။ဥပဒ္ဒဝေါရှိ၏။ ပဏ္ဍိတော။ပညာရှိသည်။ အ
နုပဒ္ဒဝေါ။ ဥပဒ္ဒဝေါကင်း၏။ ဗာလော။ သူမိုက်သည်။ သဥပ
သဂ္ဂေါ။ အငြိအတွယ်ရှိ၏။ ပဏ္ဍိတော။ ပညာရှိသည်။ အနုပ

သင်္ဂေါ။အပြုအတွယ်မရှိ။ ဘိက္ခုဝေ။ရဟန်းတို့။ ပဏ္ဍိတတော။
ပညာရှိကြောင့်။ ဘယံ။ဘေးသည်။ နတ္ထိ။မရှိ။ ပဏ္ဍိတတော။
ပညာရှိကြောင့်။ ဥပဒ္ဒဝေါ။ ဥပဒ္ဒဝေါသည်။ နတ္ထိ။မရှိ။ ပဏ္ဍိတ
တော။ပညာရှိကြောင့်။ ဥပသင်္ဂေါ။အပြုအတွယ်သည်။ နတ္ထိ။မ
ရှိ။ ။ဤသို့ဟောတော်မူ၏။ ထိုကြောင့်မီးလောင်သောအိမ်ကို
ကဲ့သို့သူမိုက်ကိုမှတ်အပ်ကုန်၏။ ။သက်ငယ်ကျူဝါးနီးသား
ဖျာရိုင်စသောလောင်စာ။ အဘိုးမထိုက်အမှိုက်ရ အိမ်ဆိုးအိမ်
ပျက်တို့ကိုအမှီပြု၍။ ခေါင်မိုးကြမ်းပြင်ဘုရင်မှန်စီဗုလစ်မွန်းချွန်
အမွန်းရုပ်ပုံ ပန်းအုံ ပန်းကြွ တို့ဖြင့် ပြီးစေ အပ်သော အထည်
ကောင်းအထည်ခန့်တို့သည်ပျက်စီးရသကဲ့သို့။ သူမိုက်တို့ကိုမှီ
ဝဲပေါင်းဘက်ရခြင်းသည်။ ယခုဒိဋ္ဌဓမ္မဒုက္ခ။ သမ္ပရာယိကဒုက္ခ
ကိုရ၍အမှန်ကေန်မချွတ်တွေ့ရမည်ကို သိတတ်သောသူသည်
ပညာရှိကိုသာ မြဲစွာမှီဝဲပေါင်းဘော်အပ်၏ဟု။ အင်္ဂုတ္တိုရ်ပဋ္ဌမ
သုတ်၌ဟောတော်မူ၏။

တနည်းလည်းခုဒ္ဒကမ္မဋေရ်ကိုဆုံးမတော်မူလိုသော်။ မြတ်
စွာဘုရားသည်။ဓမ္မပဒပဏ္ဍိတဝဂ်၌။ ။နဘဇေပါပကေမိတ္တေ။
နဘဇေပုရိသာဓမေ။ဘဇေထမိတ္တေကလျာဏေ။ဘဇေထပုရိ
သုတ္တမေ။ ။ပါပကေ။ ယုတ်မာကုန်သော။ မိတ္တေ။အဆွေခင်
ပွန်းတို့ကို။နဘဇေ။မဆည်းကပ်ရာ။ ပုရိသာဓမေ။ ယောကျ်ား
ယုတ်တို့ကို။ နဘဇေ။မဆည်းကပ်ရာ။ ကလျာဏေ။ ကောင်း
ကုန်သော။ မိတ္တေ။အဆွေခင်ပွန်းတို့ကို။ ဘဇေထ။ ဆည်းကပ်
ရာ၏။ပုရိသုတ္တမေ။ယောကျ်ားမြတ်တို့ကို။ဘဇေထ။ဆည်းကပ်
ရာ၏။

တကြိမ် မှုသော် လည်း ပညာရှိနှင့် ပေါင်း ဘော် ရခြင်း
သည်။ များ စွာ စောင့် ရှောက် ပေတတ်၏။ သူမိုက် တို့နှင့်
ချစ်ခင် ငြားလျက် များစွာ ရှည်ကြာ သဖြင့် ပေါင်း ဘော် ရ
သော်လည်း။ချမ်းသာခြင်းသို့ရောက်စေခြင်းငှါမစောင့်ရှောက်
နိုင်။ ။ထိုတရားကို နန္ဒပုဏ္ဏားသည်။ ဇာနုဿောဏိပုဏ္ဏား ရဲ့ပြည်သို့

ရောက်၍မဟာသုတသောမမင်းအားဟောကြောင်းကို။ မဟာသုတသောမဇာတ်၌။ မြတ်စွာဘုရား ဟောကြားတော်မူသောဂါထာကား။ ။သကိံ ဒေဝ သုတသောမ။ သဗ္ဘိ ဟောတိ သမာဂမော။ သာနံ သင်္ဂတိ ပါလေတိ။ နာသဗ္ဘိ ဗဟုသင်္ဂမော။ ။ ရင်းပါဌ်။ ။သုတသောမ။ သုတသောမမင်းကြီး။ သဗ္ဘိ။ သူတော်ကောင်းတို့နှင့်။ သကိံ ဒေဝ။ တကြိမ်သာလျှင်။ သမာဂမော။ ပေါင်းဘော်ခြင်းသည်။ ဟောတိ။ ဖြစ်၏။ သာ သင်္ဂတိ။ ထိုတကြိမ်မျှပေါင်းဘော်ရခြင်းသည်လည်း။ နံ။ ထိုသူကို။ ပါလေတိ။ စောင့်ရှောက်ပေတတ်၏။ အသဗ္ဘိ။ မသူတော်တို့နှင့်။ ဗဟုသင်္ဂမော။ များစွာပေါင်းဘော်ခြင်းသည်။ နံ။ ထိုသူကို။ န ပါလေတိ။ မစောင့်ရှောက်။ ။ ထိုကြောင့်ပညာရှိတို့ကိုသာမှီဝဲဆည်းကပ်ရာ၏။ သူမိုက်တို့ကိုမမှီဝဲမပေါင်းဘော်ရာ။

ဝင်စစ်သော်ကား။ သူတော်ကောင်းတို့နှင့် ပေါင်းဘော်ရခြင်း သူမိုက်တို့နှင့်မပေါင်းဘော်ရစေခြင်းကို။ တစုံတရာသောကုသိုလ်ကောင်းမှုပြုရာ၌လည်းဆုတောင်းသင့်သည်ကို။ မြတ်စွာဘုရားတေရသနိပါတ် အကိတ္တိဇာတ်၌။ အကိတ္တိရှင်ရသေ့ဆုတောင်းဘူးကြောင်းကိုဟောတော်မူသောဂါထာကား။ ။ ဗာလံ န ပဿေ န သုဏေ။ န စ ဗာလေန သံဝသေ။ ဗာလေနာလာပ သလ္လာပံ။ န ကရေ န စ ရောစယေ။ ။ဗာလံ။ သူမိုက်ကို။ န ပဿေ။ မမြင်ရလို။ န သုဏေ။ ဤမည်သောအရပ်၌နေ၏ဟုမကြားရလို။ ဗာလေန။ သူမိုက်နှင့်။ န စ သံဝသေ။ အတူတကွလည်းမနေရလို။ ဗာလေန။ သူမိုက်နှင့်။ အာလာပ သလ္လာပံ။ ရှေးဦးစွာပြောဆိုခြင်း အဘန်တလဲလဲပြောဆိုခြင်းကိုလည်း။ န ကရေ။ မပြုရလို။ န စ ရောစယေ။ သူမိုက်နှင့်ပြောဆိုခြင်းကိုလည်းမနှစ်သက်ရလို။ ။ ထိုဆုတောင်းစကားကို သိကြားမင်းကြားလေ၍ အရှင်ရသေ့။ ထိုသူမိုက်ကို မမြင်လို ခြင်း၌ အကြောင်းကို မေးလို၍ ဂါထာဖြင့်ဆိုလေ၏။ ။ကိန္နုတေ အကရံ ဗာလော။ ဝဒ ကဿပ ကာရဏံ။ ကေန ကဿပ ဗာလဿ။ ဒဿနံ နာဘိကင်္ခသိ။ ။

ကဿပ။ကဿပအနွယ်ဖြစ်သောရှင်ရသေ့။ ဗာလော။သူမိုက်သည်။ ဝေ။ သင်၏။ ကိံ အကာရံ၊ အဘယ်အကျိုးမဲ့ကိုပြုဘူးသနည်း။ တွံ။သင်သည်။ ကာရဏံ။အကြောင်းကို။ ဝဒ။ဆိုလော့။ ကဿပ။ ကဿပအနွယ်ဖြစ်သောရှင်ရသေ့။ တွံ။ သင်သည်။ ကေန။အဘယ့်ကြောင့်။ ဗာလသ။သူမိုက်အား။ ဒဿနံ။မြင်ခြင်းကို။နာဘိကင်္ခသိ။ အလိုမရှိသနည်း။ ။အကိတ္တိရှင်ရသေ့သည်။သိကြားမင်းအားအကြောင်းကိုကြားလို၍။ ။အနယံနယတိဒုမ္မေဓော။ အဓုရာယံနိယုဉ္ဇတိ။ ဒုန္နယောသေယျသောဟောတိ။သမ္မာဝုတ္တောပကုပ္ပတိ။ဝိနယံသောနဇာနာတိ။သာဓုတဿ အဒဿနံ။ ။ဟူသောဂါထာကိုဆို၏။ ။ဒုမ္မေဓော။ ပညာမရှိသောသူသည်။ အနယံ။ ချမ်းသာခြင်း၏ အကြောင်းမဟုတ်သည်ကို။ နယတိ။ ချမ်းသာခြင်း၏အကြောင်းဟုယူ၏။ အဓုရာယံ။မဆောင်သင့်သည်၌။နိယုဉ္ဇတိ။ဆောင်တတ်၏။တဿ။ထိုပညာမရှိသောသူအား။ ဒုန္နယော။ဒုဂ္ဂတိသို့ဆောင်တတ်သောအကျင့်သည်။သေယျသော။ မြတ်သောအားဖြင့်။ ဟောတိ။ဖြစ်၏။ တနည်းကား။ ဒုမ္မေဓော။ပညာမရှိသောသူသည်။ သေယျသော။ အစီးအပွါးရှိသောမြတ်သောအကျင့်အားဖြင့်။ဒုန္နယော။ဆောင်ခြင်းငှါမတတ်ကောင်းသည်။ ဟောတိ။ဖြစ်၏။ သမ္မာ။ အသင့်အားဖြင့်။ဝုတ္တောပိ။ဆိုပါသော်လည်း။ ကုပ္ပတိ။အမျက်ထွက်၏။ သော။ထိုပညာမရှိသောသူသည်။ဝိနယံ။အဆုံးအမကို။ နဇာနာတိ။မသိ။ တေန။ထိုကြောင့်။ တဿ။ ထိုသူမိုက်ကို။ အဒဿနံ။မမြင်ရခြင်းသည်။ သာဓု။ ကောင်း၏။ ။ထိုရှင်ရသေ့သည်တဖန်ဆုပယူလိုရကား။ ။ဓီရံပဿေသုဏေဓီရံ၊ ဓီရေနသဟသံဝသေ။ ဓီရေနာလာပသလ္လာပံ။တံကရေတဉ္စရောစယေ။ ။ဟူသောဂါထာကိုဆို၏။ ။ဓီရံ။ပညာရှိကို။ ပဿေ။ မြင်ရလိုလို၏။ ဓီရံ။ ပညာရှိကို။ သုဏေ။ ဤမည်သောအရပ်၌နေ၏ဟုကြားရလို၏၊ဓီရေန။ပညာရှိနှင့်။သဟ။တကွ။ သံဝသေ။ ပေါင်းဘော်ရလို၏။ဓီရေန။ပညာရှိနှင့်။ အာလာပသလ္လာပံ။ ရှေးဦးစွာ

ပြောဆိုခြင်းအဘန်တလဲလဲပြောဆိုခြင်းဟူသော။ တံ။ ထိုအမှု ကို။ကရေ။ပြုရလို၍။ တဒ္ဓ။ထိုပညာရှိနှင့်ပြောဆိုရခြင်းအမှုကို လည်း။ ရောစယေ။ နှစ်သက်ရလို၍။ ။သိကြားမင်းသည် ကဿပ အနွယ်ဖြစ်သော ရှင်ရသေ့။ အဘယ်အကျိုး အလို့ငှါ ပညာရှိကိုတွေ့မြင်ချင်ပေါင်းချင်ရသနည်းဟုမေး၍။ ရှင်ရသေ့ သည်။ ။အနယံနနယတိဓီရော။ အဓိရာယံနာနုယုဥ္ဇတိ။သုန ယောသေယျသော ဟောတိ။ သမ္မာဝုတ္တောနကုပ္ပတိ။ ဝိနယံ သောပဇာနာတိ။သာဓုတေနသမာဂမော။ ။ဟူသောဂါထာ ကိုဆို၍။ ။ဓီရော။ ပညာရှိသည်။ အနယံ။ ချမ်းသာခြင်း၏အ ကြောင်းမဟုတ်သည်ကို။နနယတိ။ ချမ်းသာခြင်း၏အကြောင်း ဟူ၍မယူ။ အဓိရာယံ။ မယှဥ်သင့်သည်၌။ နာနုယုဥ္ဇတိ။မယှဥ်။ တဿ။ ထိုပညာရှိအား။ သုနယော။ သုဂတိသို့ဆောင်သောအ ကျင့်သည်။သေယျသော။အမြတ်အားဖြင့်။ ဟောတိ။ဖြစ်၏။တ နည်းကား။ ဓီရော။ ပညာရှိသည်။ သေယျသော။ အစီးအပွါးရှိ သော မြတ်သော အကျင့်အားဖြင့်။ သုနယော။ ဆောင်လွယ် သည်။ ဟောတိ။ဖြစ်၏။သမ္မာ။အသင့်အားဖြင့်။ ဝုတ္တော။ဆိုအပ် သည်ရှိသော်။ နကုပ္ပတိ။ အမျက်မထွက်။ သော။ ထိုပညာရှိ သည်။ဝိနယံ။အဆုံးအမကို။ပဇာနာတိ။သိ၏။တသ္မာ။ထိုကြောင့်။ တေန။ထိုပညာရှိနှင့်။ သမာဂမော။ ပေါင်းဘော်ရခြင်းသည်။ သာဓု။ ကောင်း၏။ ။ပညာရှိတို့ကိုဘူးမြင်ရခြင်းသည်လည်း ချမ်းသာ၏။ သူမိုက်တို့ကိုမြင်ရခြင်းသည်တမူကား ဆင်းရဲ၏။ ထိုကြောင့်ဘုရားသဗ္ဗညုသည်သက္ကဝဂ္ဂ၌။ ။သာဟုဒဿန မရိယာနံ။သန္နိဝါသောသဒါသုခေါ။ အဒဿနေနဗာလာနံ။ နိစ္စ မေဝသုခီသိယာ။ ။ဟူ၍ဟောတော်မူ၏။ ။အရိယာနံ။ ဘုရား အစရှိကုန်သော ပညာရှိတို့ကို။ ဒဿနံ။ ဖူးမြင်ရခြင်း သည်။ သာဟု။ကောင်း၏။ သာဟု။ ချမ်းသာ၏။ သန္နိဝါသော။ ဘုရားအစရှိသောပညာရှိတို့နှင့်အတူတကွနေရခြင်းသည်။ သ ဒါ။အခါခပ်သိမ်း။သုခေါ။ချမ်းသာ၏။ ဗာလာနံ။သူမိုက်တို့ကို။အ

ဒုသသနေန။မပြင်ခြင်းကြောင့်။နိဗ္ဗမေဝ။အမြဲသာလျှင်။သုခီ။ချမ်းသာရှိသည်။သိယာ။ဖြစ်ရာ၏။ ။ထိုစကားသင့်၏။ သူမိုက်ကိုရှုလေ့ရှိသောသူသည်သူမိုက်တို့၏စကားကိုလိုက်နာ၍ ဆင်းရဲခြင်းသို့ရောက်၏။ ပညာရှိကိုရှုလေ့ရှိသောသူသည် ပညာရှိတို့၏စကားကိုလိုက်နာ၍ ချမ်းသာခြင်းသို့ ရောက်၏။ သူမိုက်တို့သည်မိမိတို့ဖွဲ့လှမ်းအပ်သော မကောင်းသောအယူဖြင့် မိမိကိုယ်ကိုဂုဏ်း။ မိမိစကားကိုလိုက်နာကုန်သောသူတို့ကိုဂုဏ်း ဖျက်ဆီးတတ်ကုန်၏။ အဘယ်သူကဲ့သို့နည်းဟူမူကား။ ဒေဝဒတ်အစရှိသောသူတို့ကဲ့သို့တည်း။ ။အဇာတသတ် မင်းသည်လည်း ဒေဝဒတ်ကိုမှီ၍ပိတုဃာတကကံကိုပြုခြင်းကြောင့်။ မျက်မှောက်သောကိုယ်၏အဖြစ်၌ရအပ်သောသောတာပတ္တိမဂ်၏ဥပနိဿယကိုဖြတ်၍ ကြီးစွာသောပျက်စီးခြင်းသို့ရောက်လေ၏။ ။တနည်းလည်းလွန်လေပြီးသောအခါ။ ဒီဃဝိတ၏အစ်ကိုသည်သည်းမိမိမကောင်းသဖြင့် ဖွဲ့လှမ်းသောအယူကြောင့်။ ဘုရားလေးဆူတို့၏အကြားပတ်လုံး။ ယူဇနာခြောက်ဆယ်အတိုင်းအရှည်ရှိသောကိုယ်ဖြင့်ပက်လက်ပြိတ္တာဖြစ်၍ရဲကြီးဒွိခံရ၏။ ထိုသူ၏အယူကိုနှစ်သက်လိုက်နာကုန်သော ငါးရာသောအမျိုးတို့သည်။ ထိုသူ၏သာလျှင် အပေါင်းအဘော်ဖြစ်ကုန်၍ ကြီးစွာသောဆင်းရဲရှိသော ငရဲကြီး၌ခံရကုန်၏။ ။(သုတ္တနိပါတ်၌မင်္ဂလသုတ်အဋ္ဌကထာလာဝတ္ထု။)

ပညာရှိတို့ သည်ကား မိမိ၏ ကောင်းသော အယူဖြင့် မိမိကိုယ်ကိုလည်းကောင်း။ မိမိစကားကိုလိုက်နာကုန်သောသူတို့ကိုဂုဏ်းမဖျက်ဆီးကုန်။ စီးပွါးခြင်းသို့သာရောက်စေကုန်၏။ အဘယ်သူကဲ့သို့နည်းဟူမူကား။ ဘုရားအစရှိကုန်သောပညာရှိတို့ကဲ့သို့တည်း။ ။သဗ္ဗညုဘုရားရှင်တော်သည်။ ကိုယ်တော်၏ကောင်းသော အယူရှိတော်မူလျက်။ အလုံးစုံသောကျေးဇူးတို့ဖြင့်တန်းဆာဆင်အပ်သော သဗ္ဗညုတဉာဏ်သို့ရောက်တော်မူ

လျှင်။ ထိုအတူအရှင်သာရိပုတ္တရာ အစရှိကုန်သော ပညာရှိတို့သည်လည်း၊ မိမိတို့၏ကောင်းသောအယူဖြင့် သာဝကပါရမီဉာဏ် အစရှိသော ကျေးဇူးအပေါင်းသို့ သဗ္ဗညုတ ဉာဏ်တော်ကိုအမှီပြု၍ ရောက်ကုန်၏။ သဗ္ဗညုတ ဘုရားရှင်ကိုစွဲ၍ကား။ အတိုင်းအရှည်မရှိကုန်သောလူနတ်တို့သည် အာသဝေါကုန်ခြင်းသို့လည်း ရောက်ကုန်၏။ ဗြဟ္မာ့ပြည် နတ်ပြည် သို့လည်းလားရလေကုန်၏။ အရှင်သာရိပုတ္တရာမထေရ်၏အဆုံးအမကိုလိုက်နာကြ၍ ရှစ်သောင်းသောအမျိုးတို့သည် နတ်ပြည်၌ဖြစ်ကုန်၏။ ထိုအတူအရှင်မဟာမောဂ္ဂလာန်၊ အရှင်မဟာကဿပအစရှိကုန်သော မဟာသာဝကတို့၌စိတ်ကိုကြည်ညိုစေ၍ အဆုံးအမကိုခံယူကြသော ရှစ်သောင်းသောအမျိုးသားတို့သည်လည်းနတ်ပြည်၌ဖြစ်ကုန်၏။ ။အသေဝနာစဗာလာနံ။ ပဏ္ဍိတာနဉ္စသေဝနာ။ ဟူသောမင်္ဂလာနှစ်ပါးတို့၏အနှစ်ရသာကားပြီး၏။

---

### ၃။ ပူဇော်ထိုက်သူကိုပူဇော်ခြင်း။ပူဇနေယျ ပူဇာမင်္ဂလာ။

ပူဇော်ထိုက်သောဘုရား၊ ပစ္စေကဗုဒ္ဓါ၊ သီလဝန်ဖြစ်သောရဟန်းပုဏ္ဏား ဆရာ မိဘတို့အား ပူဇော်ခြင်းသည်။ အကျိုးကြီးမြတ်သောကြောင့်မင်္ဂလာမည်၏။ ထိုမင်္ဂလာကိုပြု၍အကျိုးကြီးမြတ်သည်ကိုရဘူးသေါထုံးပုံကား။ လွန်လေပြီးသောအခါ၌သုခါပိဏ္ဍိယရဟန္တာအလောင်းလုပ်သည်။ သိဒ္ဓတ်ဘုရားရှင်၏ခြေတော်တို့ကို။ ကိုးကွယ်ရန်စေတီစီရင်အပ်သော ခြေတော်တိုက်၌နှစ်ခုသောအပိုင်းအခြားတို့၏အလယ်၌ တခုသောအက်တေပိုင်ကိုလိမ်းကျံဘူးသတတ်။ ထိုအမျိုးသားသည်ထိုကောင်းမှုကြောင့်ကိုးဆဲ့လေးကမ္ဘာပတ်လုံး နတ်ပြည်လူ့ပြည်တို့၌သာကျင်လည်၍၊ ဤဂေါတ္တမြတ်စွာဘုရားလက်ထက်တော်၌။ သုခ

ပဋိဇ္ဇိယမထေရ်ဟုရဟန္တာထင်ရှားဖြစ်လေ၏။ မိမိ၏ရှေးအကျင့်ဖြစ်သောအကြောင်းကိုဟောပြလိုရကား။ ။ပူဇာရဟေပူဇယတော။ ဗုဒ္ဓေဝါ ယဒိဝါသာဝကေ။ ပပဉ္စသမတိက္ကန္တေ။ တိဏ္ဏသောကပရိဒ္ဒဝေ။ ။တေတာဒိသေပူဇယတော။နိဗ္ဗုတေအကုတောဘယေ။နသက္ကာပုညံသင်္ခါတုံ။ဣမေတ္တမပိကေနစိ။ ။စတုန္နံပိစဒီပါနံ။ဣဿရံယောစကာရယေ။ဧတိဿာပူဇနာယေတံ။ ကလံနဂ္ဃတိသောဠသိံ။ ။သိဒ္ဓတ္ထဿနရဂ္ဂဿ။ စေတိယေဗလိတန္တရေ။သုဓာပိဏ္ဍောမယာဒိန္နော။ဝိပ္ပသန္နေနစေတသာ။ ။စတုန္နဝုတေဣတောကပ္ပေ။ ယံကမ္မမကရိံတဒါ။ ဒုဂ္ဂတိံနာဘိဇာနာမိ။ ပဋိသင်္ခါရဿိဒံဖလံ။ ။ဣတောတိံသတိကပ္ပမှိ။ပဋိသင်္ခါရသဝှယာ။သတ္တရတနသမ္ပန္နာ။ တေရသစက္ကဝတ္တိနော။ ။ပဋိသမ္ဘိဒါစတဿော။ဝိမောက္ခာပိစအဋ္ဌိမေ။ဆဠဘိညာသစ္ဆိကတာ။ ကတံဗုဒ္ဓဿသာသနံ။ ။ဟူကုန်သောဂါထာတို့ကိုဟောတော်မူ၏။ ။ပူဇာရဟေ။ ပူဇော်ခြင်းငှါထိုက်ကုန်သော။ပပဉ္စသမတိက္ကန္တေ။တဏှာမာနဒိဋ္ဌိတို့ဟူကုန်သောပပဉ္စတရားတို့ကိုလွန်တော်မူကုန်ပြီးသော။သောကပရိဒ္ဒဝေ။စိုးရိမ်ခြင်းငိုကြွေးခြင်းတို့ကို။တိဏ္ဏေ။ကူးမြောက်တော်မူကုန်ပြီးသော။ဗုဒ္ဓေဝါ။ ထင်ရှားရှိကုန်သောဘုရားပစ္စေကဗုဒ္ဓါတို့ရှင်း။ ယဒိ။ ထိုမြို့။သာဝကေဝါ ထင်ရှားရှိကုန်သောသာဝကတို့ကိုရှင်း။ ပူဇယတော။ ပူဇော်သောသူ၏ရှင်း။ နိဗ္ဗုတေ။ ငြိမ်းကုန်ပြီးသော။အကုတောဘယေ။တစုံတခုမှဘေးမရှိကုန်သော။ တာဒိသေ။ ထိုသို့သဘောရှိကုန်သော။ တေ။ထိုလွန်ကုန်ပြီးသောဘုရားပစ္စေကဗုဒ္ဓါသာဝကတို့ကိုရှင်း။ ပူဇယတော၊ ပူဇော်သောသူ၏ရှင်း။ ပုညံ။ ကောင်းမှုကို။ ဣမံ။ ဤကောင်းမှုသည်။ ဧတံ။ဤမျှရှိ၏။ ဣတိ။ဤသို့။ ကေနစိအပိ။တစုံတယောက်သောသူသည်လည်း။ သင်္ခါတုံ။ရေတွက်ခြင်းငှါ။နသက္ကာ။မတတ်ကောင်း။ ။ယောစ။ အကြင်သူသည်လည်း။စတုန္နံပိဒီပါနံ။ကျွန်းကြီးလေးကျွန်းတို့ကိုလည်း။ဣဿရံ။အစိုးရ

သောစကြဝတေးမင်း၏အဖြစ်ကို။ကာရယော။ပြုရာ၏။ တသာ။
ထိုသူ၏၊ ဇေတ်ကြာသရံ။ ထိုစကြဝတေးမင်း အဖြစ်သည်။ ဇ
တိသာသပုဇနာသယ။ထိုစေတီတော်ဓါတ်တော်တိုက်၌တရသေါ
အကော်တေစိုင်လိမ်းကျံခြင်းဟူသော ပူဇော်ခြင်း၏။ သောဠသိံ။
တဆဲ့ခြောက်ခုတို့၏ပြည့်ကြောင်းဖြစ်သော။ ကလံ။တဆဲ့ခြော်
စိတ်တွင်တစိတ်ကို။တနည်းကား။ သောဠသိံကလံ။နှစ်ရာ့ငါး
ဆဲ့ခြောက်စိတ်တွင်တခုသောအစိတ်ကို။ နဉ္ဃတိ။မထိုက်။ ။
မယာ။ ငါသည်။ ဝိပ္ပသန္နေန။ အထူးသဖြင့်ကြည်ညိုစွာသော။
စေတသာ။စိတ်ဖြင့်။သိဒ္ဓတ္ထသာ။သိဒ္ဓတ်အမည်တော်ရှိသော။န
ရဂ္ဂသာ။လူတို့ထက်မြတ်သောဘုရားရှင်၏။ စေတိယေ။စေတီ
တော်၌။ ဓါတုဂဗ္ဘမှိ။ ဓါတ်တော်တိုက်၌။ သုဓါကမ္မေ။ အကော်
တေလိမ်းကျံသောအမှုကို။ ကရိယမာနေ။ ပြုသည့်ရှိသော်။ ဗ
လိတန္တွာရေ။ နှစ်ခုသောအပိုင်းအခြားတို့၏အလယ်၌။ တနည်း
ကား။ဗလိတန္တွာရေ။ ပန်းတင်၏အလယ်၌။ သုဓါပိဏ္ဍော။အကော်
တေစိုင်ကို။ဒိန္နော။လိမ်းကျံဘူး၏။ ။အဟံ။ငါသည်။ဣတော။
ဤဘဒ္ဒကပ်ကမ္ဘာမှ။ စတုန္နဝုတေကပ္ပေ။ ကိုးဆဲ့ လေးကမ္ဘာ
ထက်ဖြစ်သော။ တဒါ။ထိုအခါ၌။ ယံကမ္မံ။ အကြင်စေတီတော်
အားအပြေအပြစ်ပြုခြင်းဟူသောအမှုကို။ အကရိံ။ ပြုဘူး၏။ဒုဂ္ဂ
တိံ။ဒုဂ္ဂတိကို။နာဘိဇာနာမိ။မသိရ။ဣဒံ။ ဤအကျိုးသည်ကား။ပ
ဋိသင်္ခါရသာ။ စေတီတော်အား အပြေအပြစ်ပြုခြင်းဟူသော
ကောင်းမှု၏။ဖလံ။အကျိုးတည်း။ ။ဣတော။ဤဘဒ္ဒကပ်ကမ္ဘာမှ။
တိံသတိကပ္ပမှိ။၃၀မြော်ဖြစ်သောကမ္ဘာ၌။ပဋိသင်္ခါရသဝှယာ။
အပြေအပြစ်ပြုခြင်းနှင့်တူသော အမည်ရှိကုန်သော။ သတ္တရတန
သမ္ပန္နာ။ရတနာ၇ ပါးနှင့်ပြည့်စုံကုန်သော။စက္ကဝတ္တိနော။စကြဝ
တေးမင်းတို့သည်။တေရသ။၁၃ကြိမ်။အဟုမှာ။ဖြစ်ဘူးကုန်၏။ ။
မယာ။ငါသည်။စတသောပဋိသမ္ဘိဒါ။ လေးပါးသောပဋိသမ္ဘိဒါ
တို့ကိုရင်း။ အဋ္ဌ။ ရှစ်ပါးကုန်သော။ ဣမေဝိမောက္ခာပိစ။ ဤဝိ
မောက္ခတရားတို့ကိုရင်း။ဆဠဘိညာ။ခြောက်ပါးကုန်သောအ

ဘိညာဥ်တို့ကိုရင်း။ သန္တိကတာ။ မျက်မှောက်ပြုအပ်ကုန်ပြီ။ ဗုဒ္ဓသာ။မြတ်စွာဘုရား၏။သာသနံ။အဆုံးအမတော်ကို။ ကတံ။ ပြုအပ်၏။ (။အပဒါန်ဆယ်ချမြောက်ဖြစ်သောဝင်္ဂလာသော သုဓာပိဏ္ဍိယမထေရ်ဝတ္ထု။)

သီတင်းသည်မတယောက်သည် မြတ်စွာဘုရားကို အလွန် ကြည်ညိုသော စိတ်ရှိသည်ဖြစ်၍။ မိမိကိုယ်ကို သန့်ရှင်း စင်ကြယ်စေပြီးလျှင်။ သပွတ်ပွင့်လေးပွင့်ကိုယူဆောင်၍ မြတ်စွာဘုရား၏ခြေတော်မွေးတော်တည့်ရာအရပ်သို့သွားလေလျှင်။ ခရီးအကြား၌သားသည်မိန္မွားမသည့်ဖွေ၍သေလေ၏။ ထိုခဏ၌လျှင်တာဝတိံသာနတ်ပြည်၌နတ်သမီးဖြစ်လေ၍။ သိကြားမင်းသည် ဥယျာဥ်ကစားစဉ် မိမိအခြံအရံအတွင်း ထင်ရှားဖြစ်လာသောနတ်သမီး၏အံ့ဘွယ်သရဲ ရူချင်ဘွယ်ရှိသည်တို့ကို မြင်လေလျှင်။ ထိုနတ်သမီး၏အခြင်းအရာတို့ကိုမေးလိုရကား။ ။ပီတဝဏ္ဏေပီတဓဇေ။ပီတာလင်္ကာရဘူသိတေ။ပီတစန္ဒနလိတ္တင်္ဂေ။ပီတဥပ္ပလဓာရိနိ။ ။ပီတပါသာဒသယနေ။ပီတာသနေပီတဘာဇနေ။ပီတစ္ဆတ္တေပီတရထေ။ပီတသေပီတဗီဇနေ။ ။ကိံကမ္မံကရိဘဒ္ဒေ။ ပုဗ္ဗေမာနုသကေဘဝေ။ ဒေဝတေပုစ္ဆိတာစိက္ခ။ ကိဿကမ္မဿိဒံဖလံ။ ။ဟူသောဂါထာတို့ကိုဆို၏။ ။ပီတဝဏ္ဏေ။ ရွှေအဝတ်ရှိသော။ပီတဓဇေ။ ရွှေတန်းခွန်ရှိသော။ပီတာလင်္ကာရဘူသိတေ။ ရွှေတန်းဆာတို့ဖြင့် ဆင်ယင်ထသော။ ပီတစန္ဒနလိတ္တင်္ဂေ။ ရွှေအဆင်းနှင့်တူသော စန္ဒကူးတို့ဖြင့်လိမ်းကျံသောကိုယ်ရှိသော။ပီတဥပ္ပလဓာရိနိ။ရွှေကြာပန်းကိုဆောင်ထသော။ ပီတပါသာဒသယနေ။ ရွှေပြာသာဒ် ရွှေနေရာတို့နှင့်ပြည့်စုံကသော။ပီတာသနေ။ ရွှေနှင့်တူသောအစာရှိထသော။ပီတဘာဇနေ။ရွှေခွက်ရှိထသော။ ပီတစ္ဆတ္တေ။ ရွှေထီးရှိထသော ပီတရထေ။ရွှေရထားရှိထသော။ပီတသေ။ရွှေမြင်းရှိထသော ပီတဗီဇနေ။ရွှေယပ်ရှိထသော။ ဘဒ္ဒေ။ကောင်းမြတ်သော။ဒေဝတေ။နတ်သမီး။တွံ။သင်သည်။ ပုဗ္ဗေမာနုသကေဘဝေ။ ရှေးလူ

ဖြစ်သောဘဝ၌။ကိံ ကမ္မံ။အဘယ်ကောင်းမှုကို။အကာရိ။ ပြုခဲ့သနည်း။ပုဏ္ဏိတာ။မေးအပ်သော။တွံ။သင်နတ်သမီးသည်။ အာစိက္ခ။ကြားလော့။ဣဒံ။ဤကောင်းကျိုးသည်ကား။ ကိဿကမ္မဿ။အဘယ်ကောင်းမှု၏။ဖလံ။ အကျိုးနည်း။ ။ထိုအခါသိကြားမင်းအား။ ထိုနတ်သမီးသည်ကြားလိုရကား။ ။ကောသာဍကီလတာဘဏ္ဍေ။ တိတ္တိကာအနုဘိစ္ဆိတာ။ တဿာ စတ္တာရိ ပုပ္ဖါနိ။ ထူပံအဘိဟရိံ အဟံ။ ။သတ္ထု သရီရံ ဥဒ္ဒိဿ။ ဝိပ္ပသန္နေန စေတသာ။ နဿမဂ္ဂံ အဝေက္ခိဿံ။ တဒင်္ဂမနသာ သတီ။ ။တတော မံ အဝဓီ ဂါဝီ။ ထူပံ အပတ္တမာနသံ။ တံ စာဟံ အဘိသဉ္စေယျံ။ ဘိယျော နူန ဣတော သိယာ။ ။တေနကမ္မေနဒေဝိန္ဒ။ မာဃဝါဒေဝကုဉ္ဇရ။ပဟာယမာနုသံဒေဟံ။ တဝသဟဗျတံအာဂတာ။ ။ဟူသောဂါထာကိုဆို၏။ ။ဘဏ္ဍေ။အရှင်သိကြားမင်း။ တိတ္တိကာ။ ခါးသော။ အနဘိစ္ဆိတာ။ အလိုမရှိအပ်သော။ ကောသာဍကီလတာ။သပွတ်နွယ်သည်။ အတ္ထိ။ရှိ၏။ တဿာ။ ထိုသပွတ်ခါးနွယ်၏။ စတ္တာရိပုပ္ဖါနိ။ လေးပွင့်ကုန်သောပန်းတို့ကို။အဟံ။ ငါသည်။ သတ္ထု၊သရီရံ။ မြတ်စွာဘုရားသရီရဓာတ်တော်ကို။ဥဒ္ဒိဿ။ရည်မှတ်၍။ ဝိပ္ပသန္နေန။ ကြည်ညိုစွာသော။ စေတသာ။စိတ်ဖြင့်။ ထူပံ။ စေတီတော်ကို။ အဘိဟရိံ။ရှေးရှုဆောင်၍။အဟံ။ငါသည်။ တဒင်္ဂမနသာ။ ထိုဘုရားရှင်၏သရီရဓာတ်၌လှူဒါန်းလိုသောစိတ်ရှိသည်။သတီ။ဖြစ်၍။ အဿ။ထိုနွားအပေါင်း၏။မဂ္ဂံ။လာလတ့်သောခရီးကို။ နအဝေက္ခိဿံ။ မဆင်ခြင်မိ။တတော။ထိုကြောင့်၊ထူပံ။စေတီတော်သို့။အပတ္တမာနသံ။ ကိုယ်တိုင်မရောက်သောအလိုဆန္ဒရှိသော။မံ။ငါ့ကို။ဂါဝီ။နွားမသည်။အဝဓိ။သတ်၏။အဟံ။ငါသည်။တံ။ထိုပန်းဖြင့်ပူဇော်ခြင်းကောင်းမှုကို။ စေအဘိသဉ္စေယျံ။ အကယ်၍စေတီတော်သို့ရောက်၍အလိုအတိုင်းဆည်းပူးမိငြားအံ့။ ဣတော။ ဤစည်းစိမ်ထက်။ ဘိယျော။ လွန်ကဲသောစည်းစိမ်သည်။ သိယာနူန။ ဖြစ်လေရာ၏ဟုထင်မိ၏။ ။မာဃဝါ။ မာဃအနွယ်ဖြစ်သော။ ဒေ

ဝကာုဋ္ဌရ။ နတ်တို့ထက်မြတ်သော။ ဒေဝိန္ဒ။ နတ်မင်း။ အဟံ။ငါ
သည်။တေနကမ္မေန။ထိုကောင်းမှုကံကြောင့်။ မာနုသံ။လူ၌ဖြစ်
သော။ဒေဟံ။ခန္ဓာကိုယ်ကို။ပဟာယ။စွန့်၍။ တဝ။သင်၏။သဟ
ဗျတံ။အပေါင်းအဘော်၏အဖြစ်သို့။အာဂတာ။လာ၏။

ထိုစကားကိုကြား၍ သိကြားမင်းသည်မာတလိနတ်သားအ
မှူးရှိသောနတ်အပေါင်းတို့အားတရားဟောလိုသည်ဖြင့်၍။ ။
ပဿမာတလိအစ္ဆေရံ။စိတ္တံကမ္မဖလံဣဒံ။အပ္ပကမ္ပိကတံဒေယျံ။
ပုညံဟောတိမဟပ္ဖလံ။ ။နတ္ထိစိတ္တေပသန္နမှိ။ အပ္ပကာနာမ
ဒက္ခိဏာ။တထာဂတေစသမ္ဗုဒ္ဓေ။အထဝါတဿသာဝကေ။ ။
ဧဟိမာတလိအမှေပိ။ဘိယျောဘိယျောမဟေမသေ။ တထာဂ
တဿဓာတုယော။ သုခေါပုညာနမုစ္စယော။ ။တိဋ္ဌန္တေနိဗ္ဗု
တေစာပိ။ သမေစိတ္တေသမံဖလံ။ စေတောပဏိဓိ ဟေတူဟိ။
သတ္တာဂစ္ဆန္တိသုဂ္ဂတိံ။ ။ဗဟူနံဝတအတ္ထာယ။ဥပ္ပဇ္ဇန္တိတထာ
ဂတာ။ ယတ္ထကာလံကရိတွာန။ သဂ္ဂံဂစ္ဆန္တိဒါယကာ။ ။ဟူ
သောဂါထာတို့ကိုဆို၏။ ။မာတလိ။ မာတလိ။ အစ္ဆေရံ။ အံ့
ဘွယ်သရဲရှိသော။စိတ္တံ။ဆန်းကြယ်သော။ဣဒံကမ္မဖလံ။ဤကံ၏
အကျိုးကို။ပဿ။ ရှုလော့။ အပ္ပကမ္ပိ။ အနည်းငယ်လည်း ဖြစ်
သော။ဒေယျံ။ဒါနဝတ္ထုကို။ကတံ။ပူဇော်သော။ ပုညံ။ကောင်း
မှုသည်။မဟပ္ဖလံ။အကျိုးကြီးသည်။ ဟောတိ။ဖြစ်၏။ တထာဂ
တေ။ ဧရှေး ဘုရားတို့ကဲ့သို့ ကောင်းသော လာ ခြင်း ရှိသော။
သမ္ဗုဒ္ဓေစ။သဗ္ဗညုဘုရားရှင်၌၎င်း။ အထဝါ။ထိုမြို့။ တဿ။ထို
ဘုရားရှင်၏။ သာဝကေစ။ တပည့်၌၎င်း။ စိတ္တေ။စိတ်သည်။ ပ
သန္နမှိ။ကြည်ညိုသည်ရှိသော်။ ဒက္ခိဏာ။အလှူသည်။ အပ္ပကာ
နာမ။နည်းသောမည်သည်။နတ္ထိ။မရှိ။ ။မာတလိ။ မာတလိ။ဧ
ဟိ။လာလော့။အမှေပိ။ငါတို့သည်လည်း။တထာဂတဿ။မြတ်
စွာဘုရား၏။ဓာတုယော။ဓါတ်တော်တို့ကို၊ဘိယျောဘိယျော။
လွန်စွာလွန်စွာ။မဟေမသေ။ပူဇော်ကုန်အံ့။ ပုညာနံ။ကောင်းမှု
တို့ကို။ဥစ္စယော။ဆည်းပူးခြင်းသည်။သုခေါ။ ချမ်းသာခြင်း၏အ

ကြောင်းဖြစ်၏။ ။တိဋ္ဌန္တေစာပိ။ သက်တော်ထင်ရှားရှိသော ဘုရားရှင်၌၎င်း။ နိဗ္ဗုတေစာပိ။ နိဗ္ဗာန်ပြုပြီးသောဘုရားရှင်၌၎င်း။ စိတ္တေ။ စိတ်သည်။ သမေ။ တူမျှသည်ရှိသော်။ ဖလံ။ ကောင်းကျိုး သည်။ သမံ။ တူမျှ၏။ စေတော ပဏိဓိ ဟေတူဟိ။ စိတ်ကို ကောင်းစွာ ထားခြင်း ဟူကုန်သော အကြောင်း တို့ ကြောင့်။ သတ္တာ။ သတ္တဝါတို့သည်။ သုဂ္ဂတိံ။ သုဂတိသို့။ ဂစ္ဆန္တိ။ လားရ ကုန်၏။ ။ယသ္မိံ။ အကြင်ဘုရားရှင်၌။ ဒါယကာ။ လှူဒါန်းကုန် သောသူတို့သည်။ ကာလံကရိတွာန။ စုတေ၍။ သဂ္ဂံ။ နတ်ပြည် သို့။ ဂစ္ဆန္တိ။ သွားရကုန်၏။ ဝတ။ စင်စစ်။ တထာဂတာ။ ဘုရားရှင် တို့သည်။ ဗဟူနံ။ များစွာကုန်သောသူတို့၏။ အတ္ထာယ။ အကျိုး ငှါ။ ဥပ္ပဇ္ဇန္တိ။ ဖြစ်ကုန်၏။ ။ဤသို့နတ်အပေါင်းတို့ကိုတရား ဟော၍မိမိဥပျော်ကစားခြင်း၌အားထုတ်ခြင်းကိုငြိမ်းစေ၍။ ရှုဋ္ဌာမဏိဘုရားစေတီတော်၌ခုနစ်ရက်ပတ်လုံးပူဇော်လေ၏။ ဤ အကြောင်းကို ရဟန္တာအရှင်နာရဒမထေရ်နတ်ပြည်သို့ကြွတော် မူလာ၍ လျှောက်ထားသောကြောင့် သင်္ဂါယနာသို့ တင်လေ ကုန်၏။ (။ပီတဝိမာနဝတ္ထု၌လာသော ကောသာဒုကီနတ် သမီးဝတ္ထု။) ။ဤသို့ဘုရားအားပူဇော်ခြင်းသည်။ ရှည်မြင့်စွာ သောကာလပတ်လုံးစီးပွါးချမ်းသာကိုဆောင်၏။

တနည်းလည်း။ အရှင်သာရိပုတ္တရာမထေရ်၏ဦးရီးဖြစ်သော ပုဏ္ဏားသည်။ တက္ကတွန်းတို့အားအလှူပေးလျှင်။ ဗြဟ္မာ့ပြည်သို့ ရောက်၏သင်မှတ်၍တက္ကတွန်းတို့အားများစွာသောအလှူတို့ကို ပေး၏။ အရှင်သာရိပုတ္တရာသည် ဦးရီးဖြစ်သောပုဏ္ဏားကြီးကို မြတ်စွာဘုရားအထံတော်သို့ ခေါ်သွားလေ၍။ ဤအကြောင်းကို လျှောက်ကြားပြီးလျှင်ဘုန်းတော်ကြီးလှသောဘုရား။ ဤပုဏ္ဏား အားသနားတော်မူပါ၍ ဗြဟ္မာ့ပြည်သို့ လမ်းပြတော်မူပါဘုရား ဟုလျှောက်၏။ မြတ်စွာဘုရားလည်းပုဏ္ဏား၏ တရားအလုံးကို မြင်တော်မူ၍။ ။မာသေမာသေသဟဿေန။ ယောယဇေထ သတံသမံ။ ဧကဉ္စဘာဝိတတ္တာနံ။ မုဟုတ္တမပိပူဇယေ။ သာယေဝ

ပူဇနာသေယျော။ယဉ္စေ၀ဿသတံဟုတံ။ ။ဟူသောဂါထာ
ကိုဟောတော်မူ၏။ ။ဗြဟ္မဏာ။ ပုဏ္ဏား။ ယော။ အကြင်သူ
သည်။ မာသေမာသေ။ လတိုင်းလတိုင်း။ သဟဿေန။ တ
ထောင်သောဥစ္စာဖြင့်။ သတံသမံ။ အနှစ်တရာပတ်လုံး။ ယဇေ
ထ။လှူများအပေါင်းအားအလှူပေးရာ၏။ဝဿသတံ။အနှစ်တရာ
ပတ်လုံး။ ယံဟုတံ။အကြင်ပူဇော်ခြင်းသည်။ သိယာစ။ ဖြစ်စေ
ကာမူ။ တတော။ထိုအနှစ်တရာပူဇော်ခြင်းထက်။ ဘာဝိတတ္တာ
နံ။ဂုဏ်ကျေးဇူး၏အစွမ်းအားဖြင့် ပွါးစေအပ်သောစိတ်ရှိသော။
ဧကဉ္စ။တယောက်သောငါဘုရားတပည့်ကိုလည်း။မုဟုတ္တမပိ။
တခဏာမျှလည်း။ပူဇယေ။ပူဇော်ငြားအံ့။သာယေဝပူဇနာ။ ထိုငါ
ဘုရားတပည့်အားပူဇော်ခြင်းသည်သာလျှင်။ သေယျော။ မြတ်
၏။ ။ဤဂါထာကိုဟောတော်မူသည့်၏အဆုံး၌ပုဏ္ဏားသည်
သောတာပန်ဖြစ်၏။ ။ဤသို့လျှင်ရှေးဦးစွာအာမိသဖြင့်ပူဇော်
ခြင်းသည်အကျိုးကြီးကုန်သေး၏။ အကျင့်ဝတ်ဖြင့် ပူဇော်ခြင်း
သည်ကားအဘယ်ဆိုဘွယ်ရှိအံ့နည်း။ ။အကြင်အမျိုးကောင်း
သားတို့သည်။ သရဏာဂုံသိက္ခာပုဒ်ကိုယူခြင်း ဥပုသ်ဆောက်
တည်ခြင်းဟူကုန်သော မိမိဂုဏ်ကျေးဇူးတို့ဖြင့်၎င်း။ စတုပါရိ
သုဒ္ဓိသီလအစရှိကုန်သောမိမိဂုဏ်ကျေးဇူးတို့ဖြင့်၎င်း။ မြတ်စွာ
ဘုရားကိုပူဇော်ကုန်၏။ ထိုအမျိုးကောင်းသားတို့၏ပူဇော်ခြင်း
ကိုကား။ အဘယ်သူတို့သည်ချီးမွမ်းနိုင်ကုန်အံ့ဟုဟောတော်မူ
၏။ ။မြတ်စွာဘုရားပရိနိဗ္ဗာန်ပြုတော်မူမည်ရှိရာညောင်စောင်း
ထက်၌လျောင်းတော်မူ၏။ ထိုအခါတသောင်းသောစကြာဝဠာ၌
ရှိကုန်သောနတ်တို့သည်။ဤစကြာဝဠာ၌စည်းဝေးကုန်၍နတ်ပန်း
အစရှိသည်တို့ဖြင့်မြတ်စွာဘုရားကိုပူဇော်ကုန်၏။ ထိုအခါမြတ်
စွာဘုရားသည်လျောင်းတော်မူလျက်လျှင်။ မြေအပြင်မှ စကြာ
ဝဠာအဝန်းတိုင်အောင်၎င်း။ဗြဟ္မာပြည်တိုင်အောင်၎င်း၊စည်းဝေး
သော ပရိသတ်သည် ကြီးစွာသော အားထုတ် ခြင်းဖြင့် ပြုအပ်
သောများစွာသောပူဇော်သက္ကာကိုမြင်တော်မူ၍။အရှင်အာနန္ဒာ

မထေရ်အား မဟာ ပရိနိဗ္ဗာနသုတ်၌ ဟောတော်မူအပ် သော နည်းဖြင့်၊ ထိုများစွာသောပူဇော်သက္ကာရကိုပြတော်မူ၍၊ ထို များစွာသောပူဇော်သက္ကာရဖြင့်လည်း ကိုယ်တော်အားပူဇော် ခြင်းမမည်သည်ကိုလျှင် ဟောပြတော်မူလိုရကား၊ ။နခေါ အာနန္ဒ ဧတ္တာဝတာ တထာဂတော သက္ကတောဟောတိ ဂရုက တော မာနိတောပူဇိတောအပစိတော။ ပ။ ။ဟုဟောတော် မူ၏။ ။အာနန္ဒ။အာနန္ဒာ။ခေါ။စင်စစ်။ဧတ္တာဝတာ။ ဤမျှအတိုင်း အရှည်ရှိသောများစွာသောပူဇော်ခြင်းဖြင့်။တထာဂတော။ ငါ ဘုရားကို။သက္ကတော။ကောင်းစွာပြုအပ်သည်။ ဂရုကတော။အ လေးအမြတ် ပြုအပ်သည်။ မာနိတော။ မြတ်နိုးအပ်သည်။ ပူဇိ တော။ပူဇော်အပ်သည်။အပစိတော။ အရိုအသေပြုအပ်သည်။န ဟောတိ။မဖြစ်။ ။အဓိပ္ပါယ်ကား။အာနန္ဒာ။ ငါဘုရားသည် ဒီ ပင်္ကရာမြတ်စွာဘုရားခြေရင်းတော်၌လျှောင်းသဖြင့် ပန်းနံ့သာ စည်စောင်းညင်းတို့ဖြင့်ပူဇော်ခြင်းတို့၏ အကျိုး၌ါဘုရားဆုကို တောင်းတော် မူသည်မဟုတ်၊ ထိုအာမိသ ပူဇော်ခြင်းကို ခံ တော်မူအံ့၌ ပါရမီတို့ကို ဖြည့်တော်မမူ၊ ထိုကြောင့် စင်စစ် လျှင်ထိုပန်းအစရှိသောပူဇော်ခြင်းဖြင့် ငါဘုရားကိုပူဇော်ခြင်း သည်၊ ငါဘုရားကိုပူဇော်သည်မမည်ဟု ဆိုသတည်း။ ။ သဗ္ဗညုဘုရားရှင်သည်တပါးသောသုတ်၌တပွင့်သောအောင်မဲ ညိုပန်းကိုမျှသည်းယူ၍၊ဘုရားကျေးဇူးတော်တို့ကိုဆင်ခြင်၍ပြု အပ်သောပူဇော်ခြင်း၏အကျိုးကို၊ဘုရားဉာဏ်ဖြင့်လည်းမပိုင်း ခြားအပ်ဟု ချီးမွမ်းတော်မူ၍၊ ဤမဟာပရိနိဗ္ဗာနသုတ်၌ ဤသို့ ကြီးစွာသောပူဇော်ခြင်းကို အဘယ့်ကြောင့် ပယ်တော်မူလေ သနည်းဟူမူကား၊ပရိသတ်တို့အား ချီးမြှောက်တော်မူလိုသော ကြောင့်ရင်း၊ သာသနာတော်၏ကြာမြင့်စွာတည်ခြင်းကို အလို တော်ရှိသည်၏အဖြစ်ကြောင့်ရင်းပယ်တော်မူသတည်း။ မြတ် စွာဘုရားသည်အကယ်၍ ဤသို့ပယ်တော်မမူငြားအံ့၊ နောင်အ ခါ၌သီလသမာဓိတို့ကိုမဖြည့်ကျန်ဘဲ၊ ပိပသသနာတို့ကိုမယူ

ကုန်သဲအလုပ်အကျွေးတို့ကိုနှိုးဆော်၍ ပူဇော်ခြင်းကို သာလျှင်ပြုကုန်လျက်နေကုန်လတ့ံ။ဤအာမိသဖြင့်ပူဇော်ခြင်းမည်သည်လည်းသာသနာတော်ကို ယာဂုတကြိမ်သောက်သောကာလမျှလည်းတည်စေခြင်းငှါမစွမ်းနိုင်။ထိုစကားမှန်၏။မဟာဝိဟာရနှင့်တူသောကျောင်းတထောင်ကိုဇင်း။မဟာစေတီနှင့်တူသောစေတီတထောင်ကိုဇင်း တည်ထား ဆောက်လုပ်သော်လည်း။ သာသနာတော်ကို တည်စေခြင်းငှါ မတတ်နိုင်။ အကြင် သူသည်ပူဇော်ခြင်းကိုပြု၏ထိုသူသာလျှင်ဖြစ်၏။ ကောင်းသောအကျင့်သည်တမူကား။ မြတ်စွာဘုရားအား လျှောက်ပတ်သောပူဇော်ခြင်းဖြစ်၏။ ထိုစကားမှန်လှ၏။ ကောင်းသောအကျင့်ကိုမြတ်စွာ ဘုရား တောင့်တတော် မူအပ် သည် လည်း ဖြစ်၏။ ကောင်းသောအကျင့်သည် သာသနာတော်ကို တည်စေခြင်းငှါလည်းစွမ်းနိုင်၏။ ထိုကြောင့်အာမိသဖြင့်ပူဇော်ခြင်းကို ပယ်တော်မူ၍။ပဋိပတ်ဖြင့်ပူဇော်ခြင်းကိုခွင့်ပြုတော်မူလိုရကား။ ။ယောခေါအာနန္ဒဘိက္ခုဝါ ဘိက္ခုနီဝါ ဥပါသကောဝါ ဥပါသိကာဝါဓမ္မာနုဓမ္မပဋိပန္နောဝိဟရတိသာမီစိပဋိပန္နောအနုဓမ္မစာရီသောတထာဂတံ သက္ကရောတိဂရုံကရောတိ မာနေတိ ပူဇေတိပရမာယပူဇာယ။ တသ္မာတိဟအာနန္ဒဓမ္မာနုဓမ္မပဋိပန္နာဝိဟရိဿာမ သာမီစိပဋိပန္နာအနုဓမ္မစာရိနောတိ။ ဧဝဉှိဝေါအာနန္ဒသိက္ခိတဗ္ဗံ။ ။ဟုဟောတော်မူ၏။ ။အာနန္ဒ။ အာနန္ဒာ။ ခေါ။ စင်စစ်။ ယောဘိက္ခုဝါ။ အကြင်ရဟန်းယောကျ်ားသည်ဇင်း။ ယာဘိက္ခုနီဝါ။အကြင်ရဟန်းမိန်းမသည်ဇင်း။ယောဥပါသကောဝါ။အကြင်သီတင်းသည်ယောကျ်ားသည်ဇင်း။ ယာဥပါသိကာဝါ။ အကြင်သီတင်းသည်မိန်းမသည်ဇင်း။ ဓမ္မာနုဓမ္မပဋိပန္နော။ ကိုးပါးသောလောကုတ္တရာတရားအား သင့်တင့်သော အကျင့်ကိုကျင့်၍။သာမီစိပဋိပန္နော။ ကိုးပါးသောလောကုတ္တရာတရားအားလျော်သောအကျင့်ကိုကျင့်၍။ အနုဓမ္မစာရီ။ ကိုးပါးသောလောကုတ္တရာတရားအားလျှောက်ပတ်သော အကျင့်ကိုကျင့်၍။

ဝိဟာရတိ။ နေ၏။ သော။ ထိုရဟန်းယောကျ်ားရဟန်းမိန်းမသိ တင်းသည့်ယောကျ်ား သိတင်းသည့်မိန်းမသည်။ တထာဂတံ။ မြတ်စွာဘုရားကို။ ပရမာယ။မြတ်သော။ ပူဇာယ။ ပူဇော်ခြင်း ဖြင့်။ သက္ကရောတိ။ အရိုအသေပြု၏။ ဂရုံကရောတိ။ အလေးအ မြတ်ပြု၏ မာနေတိ။မြတ်နိုး၏။ ပူဇေတိ။ပူဇော်၏။ အာနန္ဒ။ အာ နန္ဒာ။တသ္မာ။ထိုကြောင့်။ဣဟ။ဤသာသနာတော်၌။ ဓမ္မာနုဓမ္မပ ဋိပန္နာ။ ကိုးပါးသောလောကုတ္တရာတရားအားသင့်တင့်သောအ ကျင့်ကိုကျင့်ကုန်၍။ သာမိစိပဋိပန္နာ။ ကိုးပါးသောလောကုတ္တ ရာဘရားအားလျော်သော အကျင့်ကိုကျင့်ကုန်၍။ အနုဓမ္မစာရိ နော။ကိုးပါးသောလောကုတ္တရာတရားအားလျောက်ပတ်သော အကျင့်ကိုကျင့်ကုန်၍၊ဝိဟာရိဿာမ။နေကုန်အံ့။ဣတိ။ ဤသို့။မန သိကာတဗ္ဗံ။နှလုံးသွင်းအပ်၏။ဟိသစ္စံ။ မှန်၏။ အာနန္ဒ။အာနန္ဒာ။ဧဝံ။ ဤသို့နှလုံးသွင်း၍၊ဝေါ။သင်တို့သည်။ သိက္ခိတဗ္ဗံ။ ကျင့်အပ် ၏။ ။မဟာပရိနိဗ္ဗာနသုတ်ပါဠိတော်။ ။ဤပါဠိတော်၌ကိုး ပါးသော လောကုတ္တရာတရားအား လျော်သော အကျင့်မည် သည်ကား။ သီလ အာစာရ ပညတ်တော်ရှုတင်ကို စောက် တည်ခြင်း ဝေါဟာရတိုင်အောင်သော အကျင့်တည်း။ ထိုအ ကျင့်ကိုအကြင်သူသည်ကျင့်၏ဖြည့်၏။ထိုသူကိုဓမ္မါနုဓမ္မပဋိပန္န ဟူ၍၎င်း။ သာမိစိပဋိပန္နဟူ၍၎င်း။ အနုဓမ္မစာရိဟူ၍၎င်းဆိုအပ် ၏။ ထိုကြောင့် ခြောက်ပါး ကုန်သော အဂါရဝတို့၌ တည်၍ ပညတ်တော်ကိုလွန်၍။ ပန်းပေးခြင်း သစ်သီးပေးခြင်း အစရှိ သောအနေသနဖြင့် အသက်မွေးခြင်းကိုပြုသော ရဟန်း သည် ဓမ္မာနုပဋိပန္နမမည်။ အလုံးစုံ ပညတ်တော်မှုအပ်သော သိက္ခာ ပုဒ်ကိုအနုမြူမျှသည်းမလွန်မူ၍ဘရားသဖြင့် အသက်မွေးသော ရဟန်းသည်ဓမ္မာနုဓမ္မပဋိပန္နမည်၏။ လူတို့အားလည်း ဤသို့သိ အပ်၏၊ ပါဏာတိပါတအစရှိသောငါးပါးသောရန်။ ဆယ်ပါး သောကမ္မပထတို့ကိုပြုလေ့လွန်ကျူးလေ့ရှိသောသူသည်ဓမ္မါနု ဓမ္မပဋိပန္နမမည်။ အကြင်သူသည်ကား၊ သရဏဂုံ သီလတို့၌

ဖြဉ့်လေ့ကျင့်လေ့ရှိ၍။ တလ၌လေးဥပုသ်ရှစ်ဥပုသ်တို့ကိုသုံး၍။ အလှူပေး၍။နံ့သာပန်းပူဇော်၍။ အမိအဘတရားစောင့်သောရဟန်းပုဏ္ဏားတို့ကိုလုပ်ကျွေး၍။ ဤသူသည်ဓမ္မာနုဓမ္မပဋိပန္နမည်၏။ပရမာယပူဇာယဟုဟောတော်မူသောဘုရားသဗ္ဗညုသည်။ နိရာမိသအကျင့်ဖြင့်ပူဇော်ခြင်းသည်ကား။ ငါဘုရားသာသနာတော်ကိုတည်စေခြင်းငှါစွမ်းနိုင်၏။ ထိုစကားသည်မှန်၏။ အကြင်မျှလောက်သောကာလပတ်လုံး။ ဤလေးပါးကုန်သောပရိသတ်တို့သည်။ ငါဘုရားကိုဤအကျင့်ဝတ်ဖြစ်သောပူဇော်ခြင်းတို့ဖြင့်ပူဇော်ကုန်လတ္တံ့။ ထိုမျှလောက်သောကာလပတ်လုံး။ ငါဘုရားသာသနာတော်သည်ကောင်းကင်လယ်၌လပြည့်ဝန်းကဲ့သို့တင့်တယ်လတ္တံ့။ဤသို့သောအနက်ကိုပြတော်မူသတည်း။ ။ မဟာပရိနိဗ္ဗာနသုတ်အဋ္ဌကထာနည်းတည်း။

တနည်းလည်း။ ဓမ္မာနုဓမ္မပဋိပတ်ဖြင့်ပူဇော်ခြင်းအကျိုးထူးသည်၏အဖြစ်ကိုဟောတော်မူလို၍။ ။ပဝိဝေကရသံပိတွာ။ ရသံဥပသမဿစ။ နိဒ္ဒရောဟောတိနိပ္ပါပေါ။ ဓမ္မပီတိ ရသံပိဝံ။ ။ဟူသောဂါထာကိုဟောတော်မူ၏။ ။ပဝိဝေကရသဉ္စ။အကုသိုလ်တို့မှဆိတ်ခြင်းကြောင့်ဖြစ်သောရသကို၎င်း။ဥပသမဿ။နိဗ္ဗာန်၏။ရသဉ္စ။အရသာကို၎င်း။ ပိတွာ။သောက်၍။ ဓမ္မပီတိရသံ။ လောကုတ္တရာတရားကြောင့်ဖြစ်သော ပီတိဟူသောရသကို။ ပိဝံပိဝန္တော။ သောက်သောသူသည်။နိဒ္ဒရော။ပူပန်ခြင်းမရှိသည်။နိပ္ပါပေါ။မကောင်းမှုမရှိသည်။ ဟောတိ။ဖြစ်၏။ ။ဤဂါထာကို ဟောတော်မူသည်၏အဆုံး၌။ တိဿမထေရ်သည် အရဟတ္တဖိုလ်သို့ ရောက်လေ၏။ (။တိဿမထေရ်ဝတ္ထု။)

တနည်းလည်း အတ္တဒတ္ထမထေရ်ကိုအကြောင်းပြု၍ပန်းအစရှိသည်တို့ဖြင့်ပူဇော်ကုန်သောသူတို့သည်လည်း။ ငါဘုရားကိုပူဇော်သည်မမည်ကုန်။ ကိုးပါးသောလောကုတ္တရာတရားအားလျော်သော ကျင့်ဝတ်ကိုကျင့်ကုန်သော သူတို့သည်ကား။ ငါ

ဘုရားကိုပူဇော်သည်မည်ကုန်၏ဟု မိန့်တော်မူ၍ ဓမ္မပဒအဋ္ဌ ဝဂ်၌။ ။အတ္တဒတ္ထံပရတ္ထေန။ ဗဟုနာပိနဟာပယေ။အတ္တဒတ္ထ မဘိညာယ။ သဒတ္ထပသုတောသိယာ။ ။ဟူသောဂါထာကို ဟောတော်မူ၏။ ။ပုဂ္ဂလော။ ပုဂ္ဂိုလ်သည်။ ဗဟုနာပိ။ များ သည်လည်းဖြစ်သော။ပရတ္ထေန။သူ့အကျိုးကြောင့်။အတ္တဒတ္ထံ။ မိမိအကျိုးကို။နဟာပယေ။မယုတ်စေရာ။ဘိက္ခု။ ရဟန်းသည်။ အတ္တဒတ္ထံ။မိမိအကျိုးကို။အဘိညာယ။သိ၍။သဒတ္ထပသုတော။မိ မိအကျိုး၌ လေ့ကျက်သည်။သိယာ။ဖြစ်ရာ၏။ ။ဤဂါထာကို ဟောတော်မူသည်၏အဆုံး၌ အတ္တဒတ္ထမထေရ်သည်လည်းအ ရဟတ္တဖိုလ်သို့ရောက်၏။ (။အတ္တဒတ္ထဝတ္ထု။)

ဤသို့ပဋိပတ်ဖြင့် ပူဇော်ခြင်းသည်သာလျှင်။ ဘုရားချီးမွမ်း အပ်သောပူဇော်ခြင်းလည်းမည်၏။မြတ်သောပူဇော်ခြင်းလည်း မည်၏။ ။နံ့သာပန်းအစရှိသော အာမိသဖြင့်ပူဇော်သောရ ဟန်းသည် ဓမ္မာနုဓမ္မပဋိပန္နမမည်သကဲ့သို့။ ပန်းနံ့သာစသော အာမိသဖြင့် ပူဇော်သော လူတို့သည် ဓမ္မာနုဓမ္မပဋိပန္န မမည် သည်မဟုတ်။ မည်သည်သာလျှင်ဖြစ်၏။ ထို့ကြောင့်မဟာပရိ နိဗ္ဗာနသုတ်၌။ လူ၏ဓမ္မာနုဓမ္မပဋိပန္နအကျိုးကို။ ။ဒါနံဒေတိဂန္ဓ ပုပ္ဖံမာလာပူဇဉ္စကရောတိ။ ။ဟူ၍ဟောတော်မူ၏။ ထိုစကား မှန်၏။ နံ့သာစသောအာမိသဖြင့်ပူဇော်သောလူတို့သည်မိမိမိမိ တို့အားဘုရားရှင်သည်အကြင်အဆုံးအမကိုပေး၏။ ထိုအဆုံးအ မကိုပြုသည်မည်၏။ အဆုံးအမကို ပြုသောသူသည်လည်း ပူ ဇော်သည်မည်၏။ထို့ကြောင့်ထိုသူသည်ဘုရားရှင်၏အဆုံးအမ အားလျော်စွာပြုအပ်သော အာမိသဖြင့်ပူဇော်ခြင်းဟူသောမိမိ ကျေးဇူးဖြင့် ဘုရားရှင်ကိုပူဇော်သည်မည်၏ဟု ဟောတော်မူ ၏။ဤသို့ပစ္စည်းဖြင့်၎င်း။ အကျင့်တရားဖြင့်၎င်းပူဇော်ခြင်းသည် ပစ္စုပ္ပန်သံသရာနှစ်ပါးကြီးပွါးကြောင်း၏အဖြစ်ကြောင့်မင်္ဂလာ မည်၏။ ။ပူဇာစပူဇနေယျာနံဟူသောမင်္ဂလာကထာပြီး၏။

အပြားရှိသောသူ့ရိက်တို့ကိုမမှီဝဲခြင်း ပညာရှိတို့ကိုမှီဝဲခြင်းကြောင့်အစဉ်သဖြင့် ပူဇော်အပ်သည့်၏အဖြစ်သို့ရောက်ကုန်၍ မြတ်သောဘုရားအစရှိကုန်သောသူတော်ကောင်းတို့ကိုပူဇော်၏။ အရိုအသေပြု၏။ ချီးမွမ်း၏။ ထိုသူသည်စီးပွါးချမ်းသာသို့ရောက်၏။ အကြင်သူသည်သူ့ယုတ်တို့နှင့်အတူပေါင်းဘော်၏၊ သူမိုက်သူယုတ်တို့၏အလိုနိုင်ငံသို့လိုက်နာ၏။ ထိုသူသည် အာမိသအဖြစ်ဖြင့်ပူဇော်ခြင်း ဓမ္မာနုဓမ္မပဋိပန္နအဖြစ်ဖြင့်ပူဇော်ခြင်း အဖြစ်သို့မရောက်နိုင်။ ဗာလုပသေဝနအဖြစ်ဖြင့်သာလျှင်မပူဇော်အပ်မကိုးကွယ်အပ်သော ယုတ်မာသော ဒုစ္စရိတ တရားဖြင့် သာလျှင်ပူဇော်ခြင်းအဖြစ်ကိုသာရ၏။ ထိုသူသည်ယခုပစ္စက္ခလောကဥ္စရအပ်သောဒိဋ္ဌဓမ္မဒုက္ခတမလွန်လောကဥ္စရအပ်သောသမ္ပရာယိက ဒုက္ခကို ရချဆတ်ဆတ်တွေ့မည်ဟူသော အကြောင်းကို။ ။အထေစသာအဂါရာနိ။အဂ္ဂိဒယှတိပါဝကော။ကာယဿဘေဒါဒုပ္ပညော။ နိရယံသောပပဇ္ဇတိ။ ။ဟူသောဂါထာကိုထောက်၍ရဟန်းရှင်လူတို့သည်သိအပ်ကုန်သတည်း။

---

## ၄။ သင့်တင့်လျောက်ပတ်သောအရပ်၌နေရခြင်း ပတိရူပဒေသဝါသမင်္ဂလာ။

အကြင်အရပ်၌လေးပါးသောပရိသတ်တို့သည်ကျင်စား၏ ဒါနအစရှိကုန်သောပုညကြိယာဝတ္ထုတို့သည်ဖြစ်ကုန်၏။ ကိုးပါးသော အင်္ဂါရှိသော မြတ်စွာဘုရား သာသနာ တော်သည် ထွန်းပ၏။ ထိုသို့သဘောရှိသောအရပ်၌နေရခြင်းကိုသတ္တဝါတို့၏ပုညကြိယာအကြောင်းဖြစ်သောကြောင့် သင့်တင့်လျော်ပတ်သောပတိရူပဒေသမင်္ဂလာဟူ၍ဆိုအပ်၏။ ။ထိုစကား၌ဤဝတ္ထုကိုထောက်၍သိအပ်၏။ သာဝတ္ထိပြည်၌ အရိယာမည်သောတယောက်သော တံငါသည်နေသတတ်။ ထိုတံငါသည်တနေ့သ၌ငါးမျှားချိတ်ဖြင့်ငါးတို့ကိုဘမ်းစဉ်။ သာဝတ္ထိပြည်၏

မြောက်မျက်နှာ တံခါးရှာ၍ ဆွမ်းခံသွား၍ သဃ်ာအပေါင်းခြံရံ လျက်ထိုရွာမှ ကြွလာတော်မူသောဘုရားရှင်ကိုမြင်၍ ငါးမျှား ချိတ်တံကိုချထား၍ရပ်၏။ မြတ်စွာဘုရားသည် တံငါ၏အနီး၌ ရပ်တော်မူ၍။ သင်ကားအဘယ်အမည်ရှိသနည်း။သင်ကားအ ဘယ် အမည်ရှိသနည်းဟု အရှင်သာရိပုတ္တရာ အစရှိသော မ ထေရ်တို့ကို မေးတော်မူ၏။ မထေရ်တို့သည်လည်း အကျွန်ုပ် သည်သာရိပုတ္တရာအမည်ရှိ၏။ အကျွန်ုပ်သည် မောဂ္ဂလာန်အ မည်ရှိ၏။ ဤသို့အစရှိသည်ဖြင့် မိမိမိမိတို့၏အမည်တို့ကိုကြား လျှောက်ကုန်၏။ တံငါသည်လည်း သဗ္ဗညုဘုရားရှင်ကား ခပ် သိမ်းသောသူတို့၏ အမည်ကိုမေးတော်မူ၏။ ငါ၏ အမည်ကို လည်း မေးတော်မူအံ့သည်ထင်၏ဟုကြံ၏။ ဘုရားရှင်သည်တံ ငါ၏စိတ်ကိုသိတော်မူ၍။ဥပါသကာသင်ကားအဘယ်အမည်ရှိ သနည်းဟုမေးတော်မူ၏။ အရှင်ဘုရား။ အကျွန်ုပ်ကားအရိယာ မည်၏ဟု တံငါလျှောက်လေ၏။ ထိုအခါတံငါအား ဘုရား သဗ္ဗညုသည်။ ဥပါသကာ သူ၏အသက်ကို သတ်တတ် ကုန် သောသူတို့သည် အရိယာမမည်ကုန်။ အရိယာတို့ သည်ကား သတ္တဝါတို့ကိုမညှဉ်းဆဲသောအဖြစ်၌တည်ကုန်၏ဟု မိန့်တော် မူ၍တရားဟောတော်မူလိုရကား။ဓမ္မပဒဓမ္မဋ္ဌဝဂ်၌။ ။နတေန အရိယောဟောတိ။ယေနပါဏာနိဟိံသတိ။ အဟိံသာသဗ္ဗပါ ဏာနံ။အရိယောတိပဝုစ္စတိ။ ။ဟူသောဂါထာကိုဟောတော် မူ၏။ ။ဥပါသက။ ဥပါသကာ။ ယော။အကြင်သူသည်။ယေန။ အကြင်ကြောင့်။ပါဏာနိ။သတ္တဝါတို့ကို။ဟိံသတိ။ ညှဉ်းဆဲ၏။ သော။ထိုသူသည်။ တေန။ထိုကြောင့်။ အရိယော။အရိယာမည် သည်။နဟောတိ။မဖြစ်။သဗ္ဗပါဏာနံ။ ခပ်သိမ်းကုန်သောသတ္တ ဝါတို့ကို။ အဟိံသာ။မညှဉ်းဆဲခြင်းကြောင့်။အရိယောတိ။ အရိ ယာဟူ၍။ ပဝုစ္စတိ။ ဆိုအပ်၏။ ။တံငါဝတ္ထု၊ဓမ္မပဒဓမ္မဋ္ဌဝဂ်၌ ဟောတော်မူ၏။ ။ထိုဂါထာ၏အဆုံး၌တံငါသည်သောတာ ပန်ဖြစ်၏။

တနည်းလည်း။ သာဝတ္ထိပြည်ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးတော်မူသော ဘုရားရှင်ကိုယ်တော်မှု၏။ ၀က္ကလိအမည်ရှိသော မင်းညီမင်းသားသည် မြတ်စွာဘုရား၏ ရုပ်အဆင်းတော်ကို ဖူးမြင်ရ၍ ကြည်ညိုသဖြင့် ရဟန်းပြုလေ၏။
တနည်းလည်း။ သာဝတ္ထိပြည်၌ဇာတိဖြစ်သောဝက္ကလိမည်သော ပုဏ္ဏားသည်နေသတတ်။ ထိုဝက္ကလိပုဏ္ဏားသည် တရံရောအခါသာဝတ္ထိပြည်၌ ဆွမ်းခံကြွတော်မူသော ဘုရားရှင်ကိုမြင်၍။ မြတ်စွာဘုရားအဆင်းတော်ကိုဖူးမြင်သဖြင့် မရောင့်ရဲရကား။ ဘုရားရှင်နှင့် အတူတကွသာလျှင် ဇေတဝန် ကျောင်းတော်သို့ သွား၍ ဘုရားတရားတော်ကိုနာရလျှင်။ သဒ္ဓါတရားကိုရ၍ငါသည် အမြဲ ဘုရားရှင်ကို ဖူးမြင်ခြင်းငှါရပေအံ့ဟု ဘုရားအထံတော်၌ရဟန်းပြု၍ အာဟာရကိုစားသောကာလမှတပါးသောကာလသည်။ အကြင်အရပ်၌ရပ်၍ဘုရားရှင်ကိုဖူးမြင်ရ၏။ ထိုအရပ်၌ရပ်၍သရဇ္ဈာယ်ခြင်း ကမ္မဋ္ဌာန်းနှလုံးသွင်းခြင်းအစရှိသည်တို့ကို စွန့်၍ ဘုရားရှင်ကိုသာ ဖူးမြင် လျက်နေ၏။ ဘုရားရှင်သည် ဝက္ကလိ၏ဉာဏ်ရင့်ခြင်းကို ငံ့တော်မူ၍ ကြာမြင့်စွာသော ကာလပတ်လုံး တစုံတခုကိုမျှမဆိုမူ၍။ ဝက္ကလိမထေရ်သည် ဉာဏ်ရင့်သည်ရှိသော်။ ဝက္ကလိရှုကြည့်အပ်သော ဤပုပ်သောကိုယ်ဖြင့်သင့်အားအဘယ်အကျိုးရှိအံ့။ ဝက္ကလိအကြင်သူသည်တရားကိုမြင်၏။ ထိုသူသည်ငါဘုရားကိုမြင်၏။ အကြင်သူသည် ငါဘုရားကိုမြင်၏။ ထိုသူသည်တရားကိုမြင်၏။ ။ဝက္ကလိ။ ထိုစကားမှန်၏။ တရားကို ရှုသော သူ သည် ငါ ဘုရားကို ရှု၏။ ငါ ဘုရားကို ရှုသောသူသည် တရား ကို ရှု၏ဟု မိန့်တော် မူ၏။ ဝါကပ် အံ့သော အခါ နီး သည် ရှိသော် ရာဇဂြိုဟ် ပြည်သို့ကြွတော်မူ၍ဝါကပ်သောနေ့၌။ ဝက္ကလိဘဲလေလော့ဟု ဝက္ကလိကိုနှင်တော်မူ၏။ ဝက္ကလိမထေရ်လည်းအထံတော်၌တည်အံ့သောငှါမတတ်နိုင်ရကား။ အကြင်ငါသည်ဘုရားရှင်ကိုဖူးမြင်

ခြင်း၌မရ။ ထိုငါအားအသက်ရှင်သဖြင့် အဘယ်အကျိုး ရှိအံ့
နည်းဟု တောင်ထိပ်မှကိုယ်ကိုချအံ့သော၌။ ဂိဇ္ဈကုဋ် တောင်
ထွတ်သို့တက်လေ၏။ ဘုရားသဗ္ဗညုသည်ထိုအကြောင်းကိုသိ
တော်မူလျှင်။ ဤဝက္ကလိသည် ငါဘုရားအထံတော်မှသက်သာ
ရာကိုမရသော်မဂ်ဖိုလ်၏ဥပနိဿယကိုဖျက်ဆီးရာ၏ဟု။ ဝေ
ဠုဝန်ကျောင်းတော်၌နေတော်မူလျက်အရောင်အဝါကိုလွှတ်သ
ဖြင့်ကိုယ်တော်ကိုပြတော်၍ဝက္ကလိမထေရ်အား။အားရှိသောပီ
တိကိုဖြစ်စေလျက်။ဓမ္မပဒဘိက္ခုဝဂ်၌။ ။ပါမောဇ္ဇဗဟုလော
ဘိက္ခု။ပသန္နောဗုဒ္ဓသာသနေ။ အဓိဂစ္ဆေပဒံသန္တံ။သင်္ခါရူပသ
မံသုခံ။ ။ဟုဟောတော်မူ၏။ ။ဝက္ကလိ။ဝက္ကလိ။ ဗုဒ္ဓသာသ
နေ။ငါဘုရားသာသနာတော်၌။ ပါမောဇ္ဇဗဟုလော။ ဝမ်းမြောက်
ခြင်းများသော။ပသန္နော။ကြည်ညိုသော။ ဘိက္ခု။ရဟန်းသည်။
သန္တံ။ငြိမ်သက်သော။သင်္ခါရူပသမံ။ သင်္ခါရတို့၏ငြိမ်းရာဖြစ်
သော။သုခံ။အလွန်မြတ်သောချမ်းသာဖြစ်သော။ ပဒံ။နိဗ္ဗာန်ကို။
အဓိဂစ္ဆေ။ရ၏။ ။ဤဂါထာကိုဟောတော်မူ၍။ သဗ္ဗညုဘုရား
ရှင်သည်လက်တော်ကိုဆန့်၍ ဝက္ကလိလာလော့မကြောက်လင့်
ဟုမိန့်တော်မူ၏။ ဝက္ကလိမထေရ်သည်ငါကားဘုရားရှင်ကိုမြင်
ရပြီ။လာလော့ခေါ်တော်မူခြင်းကိုလည်း ရပေပြီဟုအားရှိသော
နှစ်သက်ခြင်းကိုဖြစ်စေ၍။အဘယ်မှသွားရအံ့နည်းဟုမိမိ၏သွား
သင့်သောသဘောကိုလည်းမသိမူ၍လျှင်။ မြတ်စွာဘုရား၏ရှေ့
တော်မှကောင်းကင်၌သွားသည်ရှိသော် ပဌမခြေဖြင့် တောင်
ပေါ်၌ရပ်လျက်လျှင် ဘုရား သဗ္ဗညုသည် ဟောတော် မူအပ်
သောဂါထာကိုဆင်ခြင်၍ကောင်းကင်၌သာလျှင်ပီတိကိုခွါ၍ပ
ဋိသမ္ဘိဒါတို့နှင့်တကွအရဟတ္တဖိုလ်သို့ရောက်၍။ဘုရားရှင်ကိုရှိ
ခိုးလျက်သာလျှင်ကောင်းကင်မှဆင်းသက်၏။ (။ဓမ္မပဒ၌လာ
သောဝက္ကလိမထေရ်ဝတ္ထု။) ။ဤသို့ဝက္ကလိ မထေရ် သည်
ဘုရားသဗ္ဗညု၏သီတင်းသုံး နေတော်မူရာအရပ်၌နေခြင်းသည်
မြတ်စွာဘုရား၏အဆင်းတော်ကိုဖူးမြင်ရခြင်းဟူသောဒဿနာ

နုဿရိယ။ မြတ်စွာဘုရား၏တရားတော်ကိုနာရခြင်းဟူသောသဝနာနုဿရိယ။ မြတ်စွာဘုရား၌သဒ္ဓါခြင်းတရားကိုရခြင်းဟူသောလာဘာနုဿရိယ။ သိက္ခာသုံးပါးကို ဖြည့်ကျင့်ရခြင်း ဟူသောသိက္ခာနုဿရိယ။ မြတ်စွာဘုရားအားလုပ်ကျွေးခြင်းဟူသောပါရိစရိယာနုဿရိယ။ သဗ္ဗညုဘုရားရှင်၏ ဂုဏ်ကျေးဇူးတော်ကိုအောက်မေ့ရခြင်းဟူသောအနုဿတာနုဿရိယ။ ဟူကုန်သောခြောက်ပါးကုန်သော အနုဿရိယတို့ကို ရခြင်း၏ အကြောင်းကြောင့်။ သဗ္ဗညုဘုရားရှင်ရှိတော်မူရာ အရပ်မှစ၍ သာသနာတည်ထွန်းပရာအရပ်သည်ပတိရူပဒေသမင်္ဂလာမည်၏။

တနည်းလည်း။ မဇ္ဈိမဒေသမည်သော ဇမ္ဗုဒ္ဒီပ၌နေရခြင်းသည်လျောက်ပတ်သောအရပ်၌နေရခြင်းမည်၏။ မဇ္ဈိမဒေသဇမ္ဗုဒ္ဒီပ်ကိုကားဤသို့ပိုင်းခြားအပ်၏။ အရှေ့မျက်နှာ၌ဂဇင်္ဂလမည်သောနိဂုံးသည်ရှိ၏။ ထိုနိဂုံးမှအပ၌အင်ကြင်းပင်ကြီးသည်ရှိ၏။ ထိုအင်ကြင်းပင်ကြီး၏အပကားပစ္စန္တရာဇ်။ အတွင်းကားမဇ္ဈိမဒေသ။ အနောက်သို့သားသော်ရုနမည်သောပုဏ္ဏားရွာရှိ၏၊ ထိုရွာမှ အပကားပစ္စန္တရာဇ်။ အတွင်းကားမဇ္ဈိမဒေသ။ မြောက်သို့သွားသော်ဥသိရဒ္ဓဇမည်သောတောင်သည်ရှိ၏။ ထိုတောင်မှအပကားပစ္စန္တရာဇ်။ အတွင်းကားမဇ္ဈိမဒေသ။ တောင်အရပ်သို့သွားသော်။ သေတကဏ္ဏိကမည်သောနိဂုံးသည်ရှိ၏၊ ထိုနိဂုံး၏ အပကား ပစ္စန္တရာဇ်။ အတွင်းကား မဇ္ဈိမဒေသ။ အရှေ့တောင်ထောင့်၌ကား သလ္လဝတီမည်သောမြစ်သည်ရှိ၏။ ထိုမြစ်မှ အပကားပစ္စန္တရာဇ်။ အတွင်းကား မဇ္ဈိမဒေသ။ ။ စမ္မက္ခန္ဓကပါဠိတော်။ ။မဇ္ဈိမဒေသဇမ္ဗုဒ္ဒီပ်သည် မုရိုးစည်သဏ္ဌာန်ရှိသည်ဖြစ်၍ မြေမျက်နှာအလွန်ညီညွတ်၏။ အဖြောင့်အားဖြင့်အချို့သောအရပ်၌ ယူဇနာရှစ်ဆယ်ရှိ၏။ အချို့သောအရပ်၌ယူဇနာတရာရှိ၏။ အချို့သောအရပ်၌ယူဇနာနှစ်ရာရှိ၏။ အလယ်၌ကားယူဇနာသုံးရာရှိ၏၊ ထက်ဝန်းကျင် အဝန်း အားဖြင့်ကားယူဇနာကိုးရာရှိ၏။ ။ဇာနီပါတ်အဂ္ဂိုတ္တိုဂ်အဋ္ဌကထာ။

၏မဇ္ဈိမ ဒေသ၌ ဘုရားပစ္စေကဗုဒ္ဓါ အရှင်သာရိပုတ္တရာအရှင်မောဂ္ဂလာန် အစရှိသော မဟာသာဝက ဘုရားအလုပ်အကျွေးတော်။ဘုရားမယ်တော်ဘုရားခမည်းတော်စကြဝတေးမင်းတို့သည်ဖြစ်ကုန်၏။ ထိုမဇ္ဈိမ ဒေသ၌ သတ္တဝါ တို့သည် စကြဝတေးမင်း၏အဆုံးအမကိုယူကုန်သဖြင့် သီလ၌တည်ကုန်၍နတ်ပြည်သို့သွားကုန်၏။ ထိုအတူပစ္စေကဗုဒ္ဓါ၏ အဆုံးအမ၌တည်ကုန်၍နတ်ပြည်သို့သွားရကုန်၏။ ဘုရားတပည့်၏ အဆုံးအမ၌တည်ကုန်သောသူတို့သည်ကား နိဗ္ဗာန်သုဂတိသို့ လားရကုန်၏။ ထိုကြောင့် မဇ္ဈိမဒေသ၌နေရခြင်းသည် ဆိုအပ်ပြီးသောပြည့်စုံခြင်းတို့၏အကြောင်းဖြစ်သောကြောင့်။ပတိရူပဒေသမင်္ဂလာမည်သတည်း။

တနည်းကား။ ထောက်၍ထောက်၍လည်းမဇ္ဈိမဒေသကိုရအပ်၏။ထိုစကားမှန်၏။အလုံးစုံသောဇမ္ဗူဒိပ်သည်လည်းမဇ္ဈိမဒေသမည်၏။ ၏မှကြွင်းကုန်သောထိုထိုသောကျွန်းတို့သည်ပစ္စန္တရာဇ်မည်ကုန်၏။ သိဟိုဠ်ကျွန်း၌အနုရာဓပြည်သည် မဇ္ဈိမဒေသမည်၏။ ကြွင်းကုန်သောအရပ်တို့သည်ပစ္စန္တရာဇ်မည်ကုန်၏။၏သို့ကောနိပါတ်အဋ္ဌကထာ၌ဆိုကုန်၏။ ထိုစကားသည်သင့်၏။သင့်ကြောင်းကိုဆိုအံ့။အနုရာဓပြည်၌မုဋသိဝမင်း၏ ဒုတိယသားဖြစ်သော ဒေဝါနံပိယတိဿ မည်သောမင်းသည် အရှင်မဟာမဟိန္ဒမထေရ်၏အဆုံးအမ၌တည်၍ များစွာကုန်သော ကောင်းမှုတို့ကိုပြု၍ အနှစ်လေးဆယ်တို့ပတ်လုံးမင်းပြု၍သေလွန်သော်။ တာဝတိံသာ နတ်ပြည်၌ဖြစ်၏။ ထိုနောင်မှ မုဋသိဝမင်း၏ ဥတ္တိယမည်သော စတုတ္ထသားသည်ဆယ်နှစ်တို့ပတ်လုံးမင်းပြု၏။ ထိုအတူထိုမင်း၏ညီငယ်မဟာသိဝမည်သော ပဉ္စမသားသည် ဆယ်နှစ်တို့ပတ်လုံးမင်းပြု၏။ ထိုနောင်မှထိုမင်း၏ညီငယ် သူရတိဿမည်သောသတ္တမသားသည်ဆယ်နှစ်တို့ပတ်လုံးမင်းပြု၏။ထိုအခါမှ သေနမည်သောကျည်းမင်း။ ဂုတ္တမည်သောကျည်းမင်း၏ကျည်းမင်းနှစ်ယောက်တို့သည်

သူရတိဿမင်းကိုပယ်၍အနုရာဓပြည်၌တဆဲ့နှစ်နှစ်တို့ပတ်လုံးမင်းပြုကြန်၏။ ထိုအခါမုဋသိဝမင်း၏အသေလမည်သောနဝမသားသည် သေနမင်းဂုတ္တမင်းတို့ကိုပယ်၍ ဆယ်နှစ်တို့ပတ်လုံးမင်းပြု၏။ ထိုအခါဠေဠာရမည်သော ကျည်းမင်းသည် အသေလမည်သောမင်းကိုပယ်၍ လေးဆဲ့လေးနှစ်တို့ပတ်လုံး မင်းပြု၏။ ထိုအခါ ဒေဝါနံပိယတိဿမည်သောမင်း၏မြေး ကာကဝဏ္ဏတိဿမည်သောမင်း၏သားဖြစ်သော ဒုဋ္ဌဂါမဏိအဘယမည်သောမင်းသည် ဠေဠာရမင်းကို သတ်၍ သီဟိုဠ်ကျွန်း အနုရာဓပြည်၌ဧကရာဇ်ဖြစ်၏။ ဤသို့ဒုဋ္ဌဂါမဏိအဘယမင်းသည်ဒေဝါနံပိယတိဿမင်း၏ သေသောနှစ်မှ နောက်ကိုးဆဲ့ခြောက်နှစ်ထက်၌မင်းပြု၏။ ထိုအခါဒေဝါနံပိယတိဿမင်းနတ်သားသည်။ ထိုမိမိနတ်အဖြစ်မှ သင်္ခါရတို့၏ မမြဲသော အဖြစ်ကိုရှု၍ စိတ်ညွတ်သောစုတေခြင်းဖြင့် တာဝတိံသာနတ်ပြည်မှ စုတေ၍ သီဟိုဠ်ကျွန်းဝယ်သူဌေးအမျိုး၌ဖြစ်၏။ ခုနစ်နှစ်ရှိသောကာလမှ ရဟန်းပြု၍ရဟန္တာဖြစ်လေ၏။ ထိုသီဟိုဠ်ကျွန်း၌သာသျှင်နေကြန်၍မဂ်ဖိုလ်သို့ ရောက်ကြန်သောတပါးကြန်သော ထေရ်မွန် တို့သည်လည်း ရေတွက်ခြင်း၏လမ်းခရီးကိုလွန်လေကြန်ပြီ။ ။

ဤသို့သင့်တင့်လျောက်ပတ်ကောင်းမြတ်သော ပတိရူပအရပ်၌နေရခြင်းသည်။ ပစ္စုပ္ပန် သံသရာ နှစ်ပါး ကြီးပွါး ခြင်း၏ အကြောင်း၏အဖြစ်ကြောင့်မင်္ဂလာမည်၏။ပတိရူပကထာ မင်္ဂလာကားပြီး၏။

---

၅။ ရှေးဘဝ၌ပြုအပ်ပြီးသောကောင်းမှုရှိခြင်း
ပုဗ္ဗေကတပုညတာမင်္ဂလာ။

လွန်လေပြီးသော ဘဝ၌ ဘုရားပစ္စေကဗုဒ္ဓါ ရဟန္တာတို့ကိုအာရုံပြု၍ဆည်းပူးအပ်သောကုသိုလ်ရှိသော ပြုအပ်ပြီးသောအဓိကာရရှိသောသူသည် ပုဗ္ဗေကတပုညမည်၏။ ထိုစကားမှန်

၏။ ဤသို့သဘောရှိသောသူသည်ပြန့်ပြောသောကုသိုလ်မူလရှိသည်ဖြစ်၍။ ထိုကုသိုလ် မူလဖြင့်လျှင် ဘုရား၏ရင်း ဘုရားတပည့်၏ရင်းတရားတော်ကိုနာရ၍ အရဟတ္တဖိုလ်သို့ရောက်၏။ ဥပမာကား ကပ္ပိန္နမင်းအစရှိကုန်သောသူတို့သည် အရဟတ္တဖိုလ်သို့ ရောက်ကုန်သကဲ့သို့တည်း။ ထိုကြောင့် ဤသို့ သဘောရှိသောသူ၏ရှေးဘဝ၌ပြုအပ်ပြီးသော ကောင်းမှုရှိသည်၏အဖြစ်ကိုမင်္ဂလာဟူ၍ဆိုအပ်၏။ ။ထိုစကားမှန်၏။ ထိုစကားဧကန်ပါတ်အင်္ဂုတ္တိုရ်ရအဋ္ဌကထာတို့၌လာသော ကုက္ကုဋဝတီမြို့၌ မဟာကပ္ပိန္နမင်းကြီးအနော်ဇာမိဘုရားတို့မှစ၍ များစွာသောပရိသတ်တို့သည်မြတ်စွာဘုရားအထံတော်သို့ သရဏဂုံကိုအမှီရသဖြင့် ရောက်ကြလေ၍ ချမ်းသာရာအရဟတ္တဖိုလ်သို့ ရောက်လေကုန်သည် ကို ထောက်၍။ ပုဗ္ဗေကတပုည မင်္ဂလာကိုသိအပ်ကုန်၏။

တနည်းလည်း။ အကြင်ကြောင့် ပြုဘူးသော ကောင်းမှုမရှိသောသူသည်။ အာနုဘော်နှင့်ပြည့်စုံသောဝတ္ထုကိုရပါသော်လည်း။ မဟာကပ္ပိန္နမင်းကြီး အနော်ဇာမိဘုရားတို့သည် ချမ်းသာရာကိုရသကဲ့သို့ ချမ်းသာရာကိုမရ ဆင်းရဲခြင်းကို သာရလေ၏။ပြုခဲ့ဘူးသောကောင်းမှုရှိသောသူသည်သာလျှင်။ မဟာကပ္ပိန္နမင်း အနော်ဇာ မိဘုရားတို့သည်။ ချမ်းသာ သုံးပါး ကိုဆောင်စေတတ်သော သရဏဂုံကိုရသဖြင့် ချမ်းသာသကဲ့သို့ချမ်းသာခြင်းကိုရနိုင်လေ၏။ အကြင်ကြောင့်လည်းပြုဘူးသောကောင်းမှုမရှိသောသူသည်။သူတပါးတို့ကပေးပါသော်လည်းကြက်သရေကိုယူခြင်းငှါမတတ်နိုင်။ ထိုကြက်သရေသည်ပြုဘူးသော ကောင်းမှုရှိသော သူတို့သာလျှင် ရောက်ရာ၏။ ထိုကြောင့်လည်းရှေးဘဝ၌ပြုခဲ့ဘူးသောကောင်းမှုရှိသောသူ၏အဖြစ်ကိုမင်္ဂလာဟူ၍မှတ်အပ်၏။ထိုစကား၌ဤဝတ္ထုတို့ကိုသိအပ်ကုန်၏။ လွန်လေပြီးသောအခါ၌ဗာရာဏသီပြည်တွင်ညီနောင်ဖြစ်ကုန်သော ပုဏ္ဏားလေးယောက်တို့သည်။ ရသေ့ရဟန်းပြု

ကျန်၍ဟိမဝန္တာ၌နေကျန်၏။ ထိုရသေ့တို့တွင်အစ်ကိုကြီးရသေ့သည် သေလွန်၍ သိကြားဖြစ်လေ၏။ ထိုသိကြားသည် သုံးယောက်သောညီရသေ့တို့အဖြစ်ကိုသိ၍တနေ့သ၌။ ရသေ့ကြီးသို့ဆည်းကပ်ရှိခိုးပြီးလျှင်။ အရှင်ရသေ့ အဘယ်သို့သောအသုံးအဆောင်ကိုလိုသနည်းဟုမေး၏။ ထိုရသေ့သည် ဖြော့တော့သော အနာဖွဲ့သည်ဖြစ်၍ မီးကိုအလိုရှိ၏ဟုဆို၏။ အရှင်ဘုရားအကယ်၍ မီးကိုအလိုရှိမူ။ ဤပဲခွပ်ကိုယူ၍ ထင်းတို့ကို မီးဖြစ်ဟုဆိုပါလော့။ ဤပုဆိန် ပဲခွပ်သည် ဆိုတိုင်း ပြီးပါလိမ့်မည်ဟု ဆို၍ ပေး၏။ နှစ် ယောက် မြောက် ရသေ့ ထံသို့ လည်းသွား ၍ ထို အတူ မေး ၏။ ထို့ရသေ့၏ ကျောင်း ၌ ဆင် တို့သည် သွားလမ်းဖြစ်သောကြောင့် အလွန်နှိပ်စက်သည်ဖြစ်၍။ ဆင်တို့ကိုပြေးစေလော့ဟုဆို၏။ သိကြားသည် အရှင်ဘုရားဤဘက်အပြင်ကိုတီးသည်ရှိသော် ရန်သူတို့သည် ပြေးကုန်လတံ့။ ဤဘက်အပြင်ကိုတီးသော်ကားမေတ္တာစိတ်ရှိကြကုန်၍လေးပါးသော စစ်အင်္ဂါတို့နှင့်ပြည့်စုံသော စစ်သည်ခြံရံလျက် အလိုရှိတိုင်းပြီး၏ဟု ရသေ့အားတခုသောစည်ကိုပေး၍။ သုံးယောက်မြောက်သောရသေ့သို့ကပ်ပြီးလျှင်ထိုအတူမေး၏။ရသေ့သည်လည်းငါသည်ဖြော့တော့သောအနာရှိ၍ နို့ဓမ်းကို အလိုရှိ၏ဟုဆိုလေသော်။ သိကြားသည်ထိုရသေ့အားတခုသောနို့ဓမ်းအိုးကိုပေး၍ အရှင်ဘုရား အလိုရှိ၍ ထိုအိုးကို သွန်းသည် ရှိသော်။ မြစ်ကြီးဖြစ်၍ကြီးစွာသော နို့ရည်အယဉ်ဖြစ်စေနိုင်၏။ အရှင်ဘုရားတို့အားမင်းအဖြစ်ကိုပင်ယူ၍ပေးခြင်းငှါစွမ်းနိုင်လတံ့ဟုဆို၍ဘဲလေ၏။ရသေ့တို့သည်လည်းအသီးအသီးသုံးဆောင်ကြလေ၏။ တရံသောအခါ တခုသောဝက်သည် ရွာဟောင်းရာ၌ကျက်စားလတ်သော်။ အာနုဘော်နှင့်ပြည့်စုံသော ပတ္တမြားလုံးကိုမြင်၍ နှုတ်သီးဖြင့်ကိုက်လေလျှင်။ ထိုပတ္တမြားသတ္တိ အာနုဘော်ဖြင့်ကောင်းကင်သို့ပျံပြီးလျှင် မဟာသမုဒ္ဒရာလယ်၌ တခုသောကျွန်းသို့ရောက်၍ တခုသောရေသဖန်းပင်၏အောက်၌ပင်

လျှင်။ ပတ္တမြားလုံးကို မိမိခံတွင်းမှလွှတ်၍ အိပ်ပျော် ခြင်းသို့ ရောက်လေ၏။ ထိုအခါတပါးသော တိုင်း၌နေသော သဘော်သားသည်သမုဒ္ဒရာ၌ သဘော်ပျက်လေလျှင်။ ပျဉ်ချပ်ကို စီး၍ ထိုကျွန်းငယ်သို့ရောက်လေ၍ သစ်သီးကြီးငယ် ရှာလတ်သော်။ ထိုအိပ်ပျော်သော ဝက်ကိုမြင်၍ ဖျည်းညှင်းစွာ သွားပြီး၍ ပတ္တမြားလုံးကိုယူပြီးလျှင်။ ထိုပတ္တမြားလုံးအာနုဘော်ဖြင့် ကောင်းကင်သို့ခွဲ၍ဟိမဝန္တာသို့သွားလေသည်ရှိသော်။ ရသေ့ကြီးအထံသို့ရောက်လေ၏။ ထိုအခါရသေ့ကြီး၏ပဲခွပ်ပုဆိန်အကျိုးကိုသိလျှင်အရှင်ဘုရားအကျွန်ုပ်၏ပတ္တမြားသည်ကောင်းကင်သို့ပျံနိုင်၏။ဤပတ္တမြားကိုယူ၍ပဲခွပ်ကိုပေးလော့ဟုဆိုလေလျှင်။ ရသေ့ကြီးသည် ကောင်းကင်ခရီးသို့ သွားလို၍ လဲလိုက်၏။ ပဲခွပ်ရသောလုင်သည် အတန်ငယ်သွား၍ ရသေ့ကြီး၏ ဦးခေါင်း ကိုဖြတ်ပြီးလျှင် ပတ္တမြားကိုယူခဲ့လော့ဟု ပဲခွပ်ကိုစေခိုင်းလိုက်၏။ ထိုပဲခွပ်လည်းစေတိုင်းပြု၍ပတ္တမြားကိုရလျှင်။ဒုတိယရသေ့ထံကပ်၍ရှေးနည်းအတူ ပတ္တမြားနှင့်စည်ကိုလဲ၍ပဲခွပ်ဖြင့်သတ်ပြီးလျှင်ပတ္တမြားကိုရပြန်၏။တတိယရသေ့ကိုလည်းထိုအတူသတ်၍နို့ခမ်းအိုးကိုယူ၏။ ထိုအခါကောင်းကင်ခရီးဖြင့် သွားပြီးလျှင် ဗာရာဏသီပြည်၏ ကြက်သရေစည်းစိမ်ကိုယူအံ့ဟုကြံစည်၍ ဗာရာဏသီ မင်းကြီးအား စစ်တည်း ထိုးမည်လော။ ပြည်ကိုတည်း ပေးအပ်မည်လောဟု တယောက်သော ယောကျ်ား၏ လက်၌စာပေးလိုက်၏။ မင်းသည်ကြား၍ သူသိုးတို့ကိုဘမ်းအံ့ဟု စေလွှတ်လိုက်သော်။ ထိုယောကျ်ားသည် စည်ကိုတီး၍ လေးပါးသောအင်္ဂါနှင့်တကွ စစ်သည်တို့သည် ခြံရံလျက် ဖြစ်လာ၏။ ထိုပြင်နို့ခမ်းအိုးကိုစောင်းငဲ့လေသော်။ မြစ်ကြီး ကဲ့သို့ရေအယဉ်ဖြစ်၍တပြည်လုံးပင်ကျူးကြွရလေ၏။ထိုအခါပဲခွပ်ကိုစေလွှတ်၍ မင်းကြီးဦးခေါင်းကိုယူစေပြီးလျှင်။ ထိုဗာရာဏသီပြည်တွင်အဘိသိက်ခံ၍ဒဓိဝါဟနမည်သောမင်းဖြစ်လေ၏။ (ဒဓိဝါဟနဇာတ်ပတ္တမြားရသောဝတ္ထု။) ။သို့ကြောင့် ရှေ

ကပြုခဲ့ဘူးသော ကောင်းမှုမရှိသောသူသည် ရှေးဦးစွာ ပဲခွပ်စည်နှိုခမ်းအိုးပတ္တမြားတို့ကို ရသောရသေ့ သုံးယောက်နှင့်တကွ၀က်နှင့်တူလေ၏။ ရှေး၌ပြုဘူးသောကောင်းမှုရှိသော သူတို့သည်။ ပဲခွပ်စည်နှိုခမ်းအိုးပတ္တမြားကို လက်နက်ပြု၍ဗာရာဏသီပြည်ကိုမင်းပြုရသောဒဓိဝါဟနမင်းနှင့်တူသတည်း။

တနည်းလည်း။ သာဝတ္ထိပြည်၌ ကြက်သရေလက္ခဏာကိုတတ်သောတယောက်သော ပုဏ္ဏားသည် တနေ့သ၌ အနာထပိဏ်သူဌေးသည်ဆင်းရဲသည်ဖြစ်ပြီး၍တဘန်အစိုးရပြန်၏။ ငါသည် ထိုအနာထပိဏ် သူဌေး၏ ကြက်သရေ ကိုခိုး၍ ယူရမှုကောင်း၏ဟုကြံ၍ အနာထပိဏ်သူဌေးအိမ်သို့သွား၏။ သူဌေးအားကားရွှေချိုင့်၌ထားအပ်သော ပွတ်သစ်သောခရုသင်းနှင့်အတူကိုယ်လုံးဖြူသောကြက်ရှိ၏။ ထိုကြက်၏အမောက်၌ကြက်သရေသည်တည်၏။ ပုဏ္ဏားသည်ထိုအိမ်သို့သွား၍ သူဌေးသည်ပြုအပ်သောပုဇော်သက္ကာရကိုပြုပြီးလျှင် အဘယ်အကျိုး၌လာသနည်းဟုမေး၏။ ပုဏ္ဏားလည်းကြက်သရေတည်ရာအရပ်ကိုကြည့်သေလျှင်။ ထိုကြက်၏အမောက်၌တည်၏ဟုသိ၍ငါသည်အခါနာရီကိုအမှန်သိလို၍ သင့်အိမ်၌ရှိသောကြက် အခါမှန်တွန်တတ်သည်ဖြစ်၍။ ဤကြက်၏အလို့၌လာ၏။ ဤကြက်ကိုငါ့အားပေးသော့ဟုဆို၏။ ပုဏ္ဏားယူလော့ဟုဆို၏။ ထိုခဏ၌လျှင်ကြက်သရေသည်ကြက်၏ အမောက်မှဘဲ၍ ဦးခေါင်းရင်း၌ထားအပ်သောပတ္တမြား၌တည်၏။ ပုဏ္ဏားသည် ထိုအကြောင်းကို သိ၍ပတ္တမြားကိုတောင်း၏။ ပတ္တမြားကိုငါ့ပေး၏ဆိုသောခဏ၌လျှင်ကြက်သရေသည်ပတ္တမြားမှဘဲ၍သူဌေးသုံးသောတောင်ဝေး၌တည်၏။ ထိုအကြောင်းကိုသိပြန်၍တောင်ဝေးကိုတောင်း၏။ ငါ့ပေး၏ဟု ဆိုသောခဏ၌ ကြက်သရေသည်တောင်ဝေးမှဘဲ၍အနာထပိဏ်သူဌေး၏ ပုညလက္ခဏာ ဒေဝီအမည်ရှိသော မိဘုရားကြီး၏ဦးခေါင်း၌တည်ပြန်၏။ ပုဏ္ဏားသည်ထိုအကြောင်းကိုသိ၍မဝှန့်ကောင်းသော ဥစ္စာဖြစ်၏။ ထိုဥစ္စာကိုတောင်းခြင်း၌

လည်းမတတ်ကောင်းချေဟုကြို၍။ ကြက်သရေကိုခိုးယူခြင်းငှါ
မတတ်နိုင်။ ထိုဥစ္စာတို့သည် သင်၏ ဥစ္စာသာလျှင် ဖြစ်စေသ
တည်းဟုသူခွေးအား ထိုအကြောင်းကိုဟုတ်မှန်တိုင်းကြား၍သွ
လေ၏။ ကြက်သရေမည်သည်ကားအစိုးရသောအဖြစ်တည်း။
အကြင်အစိုးရသောအဖြစ်ကိုရည်၍။ ဒေဝတာသံယုတ်၌ဘုရား
သဗ္ဗညုသည်။ ။သိရိဘောဂါနမာသယောဟောတိ။ ။ဟု
ဟောတော်မူ၏။ ။သိရီ။ အစိုးရခြင်းအဖြစ်ဟူသောကြက်သ
ရေသည်။ ဘောဂါနံ။ စည်းစိမ်တို့၏။ အာသယော။ တည်ရာ
သည်။ဟောတိ။ဖြစ်၏။သိရီတိ။ သိရီဟူသည်ကား။ ဣဿရိယံ။
အစိုးရသည့်၏အဖြစ်တည်း။ အာသယောတိ။ အာသယောဟူ
သည်ကား။ဝသနဋ္ဌာနံ။နေရာအရပ်တည်း။ ဟိ။အကြင်ကြောင့်။
ဣဿရိယေ။အစိုးရသောအဖြစ်သည်။ အဘိမုခီဘူတေ။ ရှေ့ရှု
ဖြစ်၍ဖြစ်သည်ရှိသော်။ ထလတောပိ။ကြည်းမှလည်း။ ဇလတော
ပိ။ရေမှလည်း။ဘောဂါ။စည်းစိမ်တို့သည်။အာဂစ္ဆန္တိယေဝ။ လာ
ကုန်သလျှင်ကတည်း။တေန။ထိုကြောင့်။ ဧတံ။ထိုသိရိဘောဂါ
နမာသယောဟောတိဟူသောစကားကို။တထာဂတေန။ မြတ်
စွာဘုရားသည်။ဝုတ္တံ။ဟောတော်မူအပ်၏။ ။ပါဠိတော်အဋ္ဌက
ထာ။ ။ထိုကြောင့်ကြက်သရေသည်ကောင်းမှု၏အာနုဘော်
အားဖြင့်ပြီး၏။ ထိုကြက်သရေသည်သရုပ်အားဖြင့်ကောင်းမှု၏
သတ္တိကောင်းမှု၏အစွမ်းသာလျှင်ဖြစ်၏။ထိုကြောင့်ကောင်းမှုမ
ရှိသောသူသည်။ သူတပါးပေးပါသော်လည်း ကြက်သရေကို
ယူခြင်းငှါမတတ်နိုင်လေသလျှင်ကတည်း။ ။(ကြက်သရေ
ခိုးသောဝတ္ထု။)

ထိုပုဏ္ဏား၏အကြောင်းကို မြတ်စွာဘုရားအားအနာထပိဏ်
သူဌေးလျှောက်၍။ ထိုအနာထပိဏ်သူဌေးအားသဗ္ဗညုမြတ်စွာ
ဘုရား တရားဟောလိုရကား။ ။ယံဥဿုက္ကာသသယံရတ္တိ။ အ
လက္ခိကာဠိဗုဟာဓနံ။သိပ္ပဝဿော်အသိပ္ပါဝါ။လက္ခီဝတာနိဘုဋ္ဌတိ။
သမ္ဗုဒ္ဓကဘာပုညာသာ။ အတိဂ္ဂဉ္စဉပါဏိနော။ ဥပဗ္ဗဇန္တိဗဟု

ဘောဂါ။ အပိနာယတနေသုပိ။ ။ဟူသောဂါထာကိုဟောတော်မူ၏။ ။သေဋ္ဌ။သူဋ္ဌေး။ အလက္ခိကာ။ ကောင်းမှုမရှိကုန်သော။ သိပ္ပဝန္တောဝါ။ အတတ်ရှိကုန်သောသူတို့သည်ဖင်း။ အသိပ္ပါဝါ။ အတတ်မရှိကုန်သောသူတို့သည်ဖင်း။ ဥဿုက္ကာ။လုံ့လပြုကုန်၍။ယံဗဟုဓနံ။အကြင်များစွာသောဥစ္စာကို။သဃ်ရန္တိ၊ ကောင်းစွာ ဆောင်ကုန်၏။ တာနိ။ ထိုဥစ္စာတို့ကို။ သက္ခိဝ၊ ကောင်းမှုရှိသောသူသည်သာလျှင်။ ဘုဥ္ဇတိ။ ခံစားရ၏။ ဗဟု။ များစွာကုန်သော။ ဘောဂါ။ စည်းစိမ်ဥစ္စာတို့သည်။ အညေ။ ကောင်းမှုရှိသောသူတို့မှတပါးကုန်သော။ပါဏိနော။ ကောင်းမှုမရှိကုန်သောသူတို့ကို။ အတိက္ကမ္မ။လွန်၍။ကတပုညဿ။ ပြုအပ်ပြီးသောကောင်းမှုရှိသောသူအား။အပိနာယတနေသုပိ။ရတနာ၏တည်ရာမဟုတ်သည်လည်းဖြစ်ကုန်သော။အာယတနေသုပိ။ ရတနာ၏တည်ရာဟုတ်သည်လည်းဖြစ်ကုန်သော။သဗ္ဗတ္ထဝေ။ ခပ်သိမ်းကုန်သောအရပ်တို့၌သာလျှင်။ဥပ္ပဇ္ဇန္တိ။ဖြစ်ကုန်၏။ ။ ကောင်းမှုရှိသောသူအား ရတနာ၏တည်ရာမဟုတ်သော်လည်း ရတနာအပေါင်းတို့သည် ရောက်လာ ကုန်၏။ ကောင်းမှု မရှိသောသူဖြစ်မူကား။ ရတနာ၏ တည်ရာအရပ်၌ ရတနာသည် တည်လျက်ရှိသော်လည်းထိုရတနာကိုရယူသုံးစားနိုင်ခြင်းငှါ မစွမ်းနိုင်သည်သာလျှင်တည်း။ ထိုကြောင့်ရှေး၌ ပြုဘူးသော ကောင်းမှုရှိသောသူသည်။ပုဗ္ဗေကတပုညမင်္ဂလာမည်၏။

သတ္တဝါတို့အား ကောင်းမှုနှင့်တူသော တပါးသောတည်ရာမရှိသည်ကို။ သဗ္ဗညုမြတ်စွာဘုရားသည် အနာထပိဏ်သူဋ္ဌေးအားဟောပိမ့်ဟောတော်မူလို၍။ ။ဩသဓေဝမနုဿာနံ။သဗ္ဗကာမဒေါနိုမိ။ ယံယံဒေဝါဘိပတ္ထေန္တိ။သဗ္ဗမေတေနလဗ္ဘတိ။ ။သုဝဏ္ဏတာသုဿရတာ။သုသဏ္ဌာနာသုရူပတာ။ အာဓိပစ္စံပရိဝါရော။သဗ္ဗမေတေနလဗ္ဘတိ။ ။ပဒေသရဇ္ဇံဣဿရိယံ။ စက္ကဝတ္တိသုခံပိယံ။ဒေဝရဇ္ဇမ္ပိဒိဗ္ဗေသု။သဗ္ဗမေတေနလဗ္ဘတိ။ ။မာနုဿိကာစသမ္ပတ္တိ။ ဒေဝလောကေစ ယာရတိ။ ယာစနိဗ္ဗာန

သမ္ပတ္တိ။ သဗ္ဗမေတေန လဗ္ဘတိ။ ။မိတ္တံသမ္ဗုဒ္ဓမာဂမ္မ။ ယေနှိ
သောဝပယုဋ္ဌတော။ ပိဋ္ဌာပိမုတ္တိဝသီဘာဝေါ။ သဗ္ဗမေတေန
လဗ္ဘတိ။ ။ပဋိသမ္ဘိဒါပိမောက္ခာ။ ယာစသာဝကပါရမီ။ ပစ္စေ
ကဗောဓိဗုဒ္ဓဘူမိ။ သဗ္ဗမေတေန လဗ္ဘတိ။ ။ဧဝံမဟိဒ္ဓိကာဧ
သာ။ ယဒိဒံပုညသမ္ပဒါ။ တသ္မာဓီရာပသံသန္တိ။ ပဏ္ဍိတာကတ
ပုညတံ။ ။ဟူကုန်သော ဂါထာတို့ကို ဟောတော်မူ၏။ ။ဧ
သနိဓိ။ ဤကောင်းမှုဟူသော ရွှေအိုးသည်။ ဒေဝမနုဿာနံ။ နတ်
လူတို့အား။ သဗ္ဗကာမဒဒေါ။ အလုံးစုံသော အလိုကိုပေးတတ်၏။
ဒေဝါ။ နတ်လူတို့သည်။ ယံယံ။ အကြင်အကြင်အကျိုးကို။ အဘိ
ပတ္ထေန္တိ။ တောင့်တကုန်၏၊ သဗ္ဗံ။ အလုံးစုံသော အကျိုးကို။ ဧ
တေန။ ထိုကောင်းမှုတည်းဟူသော ရွှေအိုးကြောင့်။ လဗ္ဘတိ။ ရ
၏။ ။သုဝဏ္ဏတာ။ ကောင်းသော အရေအခြင်းရှိသည်၏ အ
ဖြစ်သည်၎င်း။ သုဿရတာ။ ကောင်းသော အသံရှိသည်၏ အဖြစ်
သည်၎င်း။ သုသဏ္ဌာနာ။ ညီညွတ်ခြင်း စေ့စပ်ခြင်းငှါ သင့်ကုန်
သော အရပ်တို့၌ အင်္ဂါကြီးငယ်တို့၏ ညီညွတ်ခြင်း စေ့စပ်ခြင်း
လုံးခြင်း၏ အဖြစ်ဖြင့် ကောင်းစွာတည်ခြင်း သည်၎င်း။ သုရူပ
တာ။ မမြင့်လွန်း မနိမ့်လွန်း မကြုံလွန်း မဆူလွန်း မမည်းလွန်း မဖြူ
လွန်းသော အားဖြင့် အလုံးစုံသော ကိုယ်၏ ကောင်းသည်၏ အ
ဖြစ်သည်၎င်း။ အာဓိပစ္စံ။ အကြီးအကဲ၏ အဖြစ်သည်၎င်း။ ပရိဝါ
ရော။ အခြံအရံရှိသည်၏ အဖြစ်သည်၎င်း။ အတ္ထိ။ ရှိ၏။ သဗ္ဗံ။ အလုံး
စုံကို။ ဧတေန။ ထိုကောင်းမှုတည်းဟူသော ရွှေအိုးကြောင့်။ လဗ္ဘ
တိ။ ရ၏။ ။ပိယံ။ ချစ်အပ်သော။ ပဒေသရဇ္ဇံ။ တဝန်းတလျား
သော အရပ်၌ မင်း၏ အဖြစ်သည်၎င်း။ ဣဿရိယံ။ တကျွန်းလုံးကို
အစိုးရသော မင်း၏ အဖြစ်သည်၎င်း။ စက္ကဝတ္တိသုခံ။ စကြဝတေး
မင်း၏ ချမ်းသာသည်၎င်း၊ ဒေဝရဇ္ဇမ္ပိ။ နတ်ပြည်တို့၌ မန္ဓာတ်မင်း
အစရှိကုန်သော လူတို့၏ မင်းအဖြစ်သည်၎င်း။ ဒိဗ္ဗေသု။ နတ်ပြည်
တို့၌။ ဥပ္ပန္နာနံ။ ဖြစ်ကုန်သော သိကြားအစရှိကုန်သော နတ်တို့၏။
ဒေဝရဇ္ဇံ။ နတ်မင်း၏ အဖြစ်သည်၎င်း။ အတ္ထိ။ ရှိ၏။ သဗ္ဗံ။ အလုံးစုံ

ကို။ ဧတေန။ ထိုကောင်းမှုတည်းဟူသောရွှေအိုးကြောင့်။ လဗ္ဘတိ။ ရ၏။ ။ မာနုဿိကာ။ လူတို့၏ဥစ္စာဖြစ်သော။ ယာသမ္ပတ္တိစ။ အကြင်စည်းစိမ်သည်၎င်း၊ ဒေဝလောကေ။ နတ်ပြည်၌။ ပဂ္ဂတ္ထာ။ ဖြစ်သော။ ယာရတိစ။ အကြင်မွေ့လျော်ကြောင်းဖြစ်သော အဆောက်အဦသည်၎င်း။ ယာစနိဗ္ဗာနသမ္ပတ္တိ။ အကြင်နိဗ္ဗာန်ဟူသောပြည့်စုံခြင်းသည်၎င်း။ အတ္ထိ။ ရှိ၏။ သဗ္ဗံ။ အလုံးစုံကို။ ဧတေန။ ထိုကောင်းမှုရွှေအိုးကြောင့်။ လဗ္ဘတိ။ ရ၏။ ။ မိတ္တသမ္ပဒံ။ အဆွေခင်ပွန်းဟူသော ဂုဏ်အထူးကို ရကြောင်းဖြစ်သောသူကို။ အာဂမ္မ။ စွဲ၍။ ယောနိသော။ အသင့်အားဖြင့်လျှင်။ ပယုဉ္ဇတော။ အားထုတ်သောပုဂ္ဂိုလ်၏။ ဝိဇ္ဇာဝိမုတ္တိ ဝသီဘာဝေါ။ သုံးပါးသောဝိဇ္ဇာ ရှစ်ပါးသောသမာပတ်နိဗ္ဗာန်အားဖြင့်ပြားသောဝိမုတ္တိ၌လေ့လာသည်၏အဖြစ်သည်။ အတ္ထိ။ ရှိ၏။ သဗ္ဗံ။ အလုံးစုံကို။ ဧတေန။ ထိုကောင်းမှုတည်းဟူသောရွှေအိုးကြောင့်။ လဗ္ဘတိ။ ရ၏။ ။ ယာပဋိသမ္ဘိဒါစ။ အကြင်ပဋိသမ္ဘိဒါပညာသည်၎င်း။ ယောဝိမောက္ခာစ။ အကြင်ရှစ်ပါးသောလောကီဝိမောက္ခသည်၎င်း။ ယာသာဝကပါရမီစ။ အကြင်သာဝကအဖြစ်၏ပြည့်စုံခြင်းသည်၎င်း။ ယာပစ္စေကဗောဓိစ။ အကြင်ပစ္စေကဗောဓိသည်၎င်း။ ယာဗုဒ္ဓဘူမိစ။ အကြင်ဘုရားတို့၏ဘုံသည်၎င်း။ အတ္ထိ။ ရှိ၏။ သဗ္ဗံ။ အလုံးစုံကို။ ဧတေန။ ထိုကောင်းမှုတည်းဟူသောရွှေအိုးကြောင့်။ လဗ္ဘတိ။ ရ၏။ ။ ယဒိဒံပုညသမ္ပဒါ။ အကြင်ကောင်းမှုတို့၏ပြည့်စုံခြင်းသည်။ အတ္ထိ။ ရှိ၏။ ဧသာ။ ဤကောင်းမှုတို့၏ပြည့်စုံခြင်းသည်။ ဧဝံ။ ဤသို့။ မဟိဒ္ဓိကာ။ များမြတ်သောကောင်းကျိုး၏ ပြည့်စုံခြင်းငှါ ဖြစ်၏။ တသ္မာ။ ထိုကြောင့်။ ကတပုညတံ။ ပြုအပ်ပြီးသောကောင်းမှုရှိသောသူ၏အဖြစ်ကို။ ဓီရာ။ ဉာဏ်ရှိကုန်သော။ ပဏ္ဍိတာ။ ပညာရှိတို့သည်။ ပသံသန္တိ။ ချီးမွမ်းကုန်၏။ ။ ဤခုနစ်ဂါထာတို့ကို။ ခုဒ္ဒကပါဌနိဓိကဏ္ဍကသုတ် ပါဠိတော်သို့တင်အပ်ကုန်၏။ ။ ပုဗ္ဗေကတပုညတာဟူသောမင်္ဂလာပြီး၏။

၆။ မိမိကိုယ်စိတ်ကိုကောင်းစွာဆောက်တည်ခြင်း
အတ္တသမ္မာပဏိဓိမင်္ဂလာ။

ဤလောက၌အချို့သောသူသည်။ သီလမရှိသောမိမိကိုယ်ကိုသီလ၌တည်စေ၏။ မသဒ္ဓါသောမိမိကိုယ်ကိုသဒ္ဓါတရားနှင့်ပြည့်စုံသည်၏အဖြစ်၌တည်စေ၏။ ဝန်တိုတတ်သောမိမိကိုယ်ကိုပေးကမ်းစွန့်ကြဲခြင်းနှင့် ပြည့်စုံသည်၏အဖြစ်၌ တည်စေ၏။ ဤသို့သဘောရှိသောသူကို အတ္တသမ္မာပဏိဓိ။ မိမိကိုယ်စိတ်ကိုကောင်းစွာထားသော သူဟူ၍ ဆိုအပ်၏။ ။လွန်လေပြီးသောအခါ ကဿပမြတ်စွာဘုရား လက်ထက်တော်၌ ငါးရာကုန်သော ခိုးသူတို့သည်။ အရှည်ကြင်ဆောက်တည်သော ရဟန်းသည် ဆုံးမခြင်းတည်းဟူသော သပ္ပုရိသုပနိဿယကိုရ၍မိမိတို့ကိုယ်ကို သီလမရှိသောအဖြစ်မှ သီလ၌တည်စေခြင်းကြောင့်။ များစွာသော ချမ်းသာစည်းစိမ်တို့နှင့် ပြည့်စုံလျက်။ တာဝတိံသာနတ်ပြည်၌ ဖြစ်ကြလေကုန်၏။ ဘာရဒွါဇပုဏ္ဏားသည်လည်း။ မသဒ္ဓါသောအဖြစ်မှ သဒ္ဓါသောစိတ်ရှိသော အဖြစ်သို့ရောက်စေခြင်းငှါ။ ငါတို့မြတ်စွာဘုရားဆုံးမတော်မူ၍မသဒ္ဓါသောမိမိကိုယ်ကို။ သဒ္ဓါတရားနှင့်ပြည့်စုံသည်၏အဖြစ်၌တည်စေကုန်၏။ ကောသိယသူဌေးသည်ဝန်တိုသောသဘောရှိသည်ဖြစ်၍ ငါတို့ဘုရားလောင်းသိကြားဖြစ်တော်မူသော အခါဆုံးမတော်မူသဖြင့်။ မိမိကိုယ်ကိုဝန်တိုသောအဖြစ်မှ ပေးကမ်းစွန့်ကြဲသောအဖြစ်သို့ ရောက်စေကုန်၏။ ဤသို့ခိုးသားငါးရာ။ဘာရဒွါဇပုဏ္ဏား။ကောသိယသူဌေးတို့သည်။ မိမိသီလမရှိသောကိုယ်ကို သီလ တည်းဟူသော တရား၌ တည်စေခြင်း သဒ္ဓါတရားမရှိသောမိမိကိုယ်ကို သဒ္ဓါတည်းဟူသော စိတ်၌တည်စေခြင်း။ ဝန်တိုသောစိတ်ရှိသော မိမိကိုယ်ကိုပေးကမ်းစွန့်ကြဲခြင်းနှင့်ပြည့်စုံသည်၏အဖြစ်တို့၌သာလျှင်တည်စေ၍။အထူးထူးသောအကျိုးအာနိသင်ကိုရကုန်၏။ထိုခိုးသားငါးရာအစရှိကုန်သောသူတို့၏ သီလမရှိသည်အကြောင်းရှိသော ပဋိပြန်

သံသရာ တို့၌ ရအပ် သော အကြွင်း ရန်သည် ရှိ၏။ ထိုရန် ကို
လည်းသီလအစရှိသည်တို့၌တည်သောကာလမှ နောက်၌ပယ်
အပ်၏။ထို့ကြောင့်မိမိကိုယ်စိတ်ကိုကောင်းစွာထားခြင်းကိုမင်္ဂ
လာဟုမှတ်အပ်၏။ ။ထို့ကြောင့်အဋ္ဌကထာ၌။ ။သောပိ
မင်္ဂလံ။ ကသ္မာ၊ ဒိဋ္ဌဓမ္မိကသမ္ပရာယိကဝေရပ္ပဟာနဝိဝိဓာနိသံ
သာဓိဂမဟေတုတော။ ။ဟူ၍ဟောတော်မူ၏။ ။သောပိ။
ထိုမိမိကိုယ်စိတ်ကို ကောင်းစွာထားခြင်းသည်လည်း။ မင်္ဂလံ။
မင်္ဂလာမည်၏။ကသ္မာ။အဘယ်ကြောင့်နည်းဟူမူကား။ ဒိဋ္ဌဓမ္မိ
ကသမ္ပရာယိကဝေရပ္ပဟာနဝိဝိဓါနိသံသာဓိဂမဟေတုတော။
ပစ္စုပ္ပန်သံသရာ၌ရအပ်သောရန်ကိုပယ်ခြင်း အထူးထူး သော
အာနိသင်ကိုရခြင်း၏အကြောင်း ဖြစ်ခြင်းကြောင့်တည်း။ ။
ထိုစကားမှန်၏ ကောင်းစွာထားအပ်သောစိတ်သည် ခပ်သိမ်း
သောစည်းစိမ်ကိုပေးခြင်းငှါတတ်နိုင်၏။ ။ထို့ကြောင့်သဗ္ဗညု
ဘုရားရှင်သည်။အကြွင်းအကြွင်းစည်းစိမ်ကိုအမိအဘအစရှိကုန်
သောသူတို့သည်ပေးခြင်းငှါမတတ်နိုင်ကုန်။ထိုထိုစည်းစိမ်ကို
ဤသတ္တဝါတို့၏ အတွင်း၌ဖြစ်သော ကောင်းစွာထားအပ်သော
စိတ်သည်သာလျှင်ပေး၏ဟုဟောတော်မူ၍။ဓမ္မပဒစိတ္တဝဂ်၌။ ။
နတံမာတာပိတာကယိရာ။အညေဝါပနဉာတကာ။ သမ္မာပဏိ
ဟိတံစိတ္တံ။သေယျသောနံတတောကရေ။ ။ဟူသောဂါထာ
ကိုဟောတော်မူ၏။ ။ဘိက္ခဝေ။ ရဟန်းတို့။တံကာရဏံ။ ထို
ပစ္စုပ္ပန်သံသရာ၌ ဘေးရန်ကင်းခြင်း အထူးထူးသောစည်းစိမ်
ချမ်းသာကိုရခြင်း၏အကြောင်းကို။မာတာ။ အမိသည်။ နကယိ
ရာ။မပြုနိုင်ရာ။ပိတာ။အဘသည်။နကယိရာ။မပြုနိုင်ရာ။ အညေ။
တပါးကုန်သော။ဉာတကာဝါပန။အဆွေအမျိုးတို့သည်လည်း။
နကရေယျုံ။မပြုနိုင်ကုန်ရာ။သမ္မာပဏိဟိတံ။၁၀ ပါးသောကု
သလကမ္မပထ၌ကောင်းစွာထားအပ်သော။ စိတ္တံ။ စိတ်သည်။နံ။
ထိုသူကို။တတော။ထိုမိခင်ဘခင်အဆွေအမျိုးတို့ထက်။သေယျ
သော။လွန်မြတ်စွာ။ကရေ။ပြုရာ၏။ ။ထိုစကားမှန်၏။ ။မိဘတို့

သည်သားသွီးတို့အားဥစ္စာကိုပေးကုန်သည်ရှိသော်။တဖြစ်၌အလု
ကိုမလုပ်မူ၍ချမ်းသာသဖြင့် အသက်မွေးလေ့ရှိ ဖြစ်ကုန်သော
ဥစ္စာတို့ကိုသါလျှင်ပေးနိုင်ကုန်၏။သားတို့အားစကြဝတေးမင်း
၏စည်းစိမ်နတ်တို့၏စည်းစိမ်ပဌမဈာန်အစရှိသဥ်တို့၏ပြည့်စုံ
ခြင်းကိုပေးနိုင်ကုန်သောမိဘတို့သည်ကား အဘယ်မှာလျှင်ရှိ
ကုန်အံ့။ လောကုတ္တရာတရားကိုပေးနိုင်ခြင်းမရှိသည်ကား ဆို
ဘွယ်သည်လျှင်မရှိ။ ဆယ်ပါးသောကုသလ ကမ္မပထတရား၌
ကောင်းစွာထားအပ်သောစိတ်သည်ကား။ခပ်သိမ်းသောစည်း
စိမ်ကိုပေးခြင်းငှါစွမ်းနိုင်၏။ ထိုကြောင့်။ ။သမ္မာပဏိဟိတံ
စိတ္တံ။ သေယျသောနံတတောကရေ။ ။ဟုဟောတော်မူသ
တည်း။ ။ထိုကြောင့်တစုံတယောက်သောသူမျှမမေ့မလျော့
အပ်ကုန်။ ခပ်သိမ်းသောသူအပေါင်းတို့ပင်လျှင် ကုသလကမ္မပ
ထတရားဆယ်ပါး၌။ မိမိမိမိတို့စိတ်ကို ကောင်းစွာ ထားအပ်
ကုန်သည်လျှင်ကတည်း။ ထိုစကားသည်မှန်၏။မှားသောအား
ဖြင့်ထားအပ်သောစိတ်သည်ခပ်သိမ်းသောဆင်းရဲကိုပေး၏။ ထို
ကြောင့်သဗ္ဗညုမြတ်စွာဘုရားသည်။ အကြင်ပျက်စီးခြင်းကိုခိုး
သူတို့သည်လည်း မပြုနိုင်ကုန်။ ရန်သူတို့သည်လည်း မပြုနိုင်
ကုန်။ ထိုပျက်စီးခြင်းကိုဤသတ္တဝါတို့၏အတွင်း၌မှားသောအား
ဖြင့်ထားအပ်သောစိတ်သည်သာလျှင် ပျက်စီးခြင်းကို ပြုနိုင်၏
ဟုမိန့်တော်မူ၍။ဓမ္မပဒစိတ္တဝဂ်၌လျှင်။ ။ဒိသောဒိသံယံတံက
ယိရာ။ ဝေရီဝါပနဝေရိနံ။မိစ္ဆာပဏိဟိတံစိတ္တံ။ ပါပိယောနံတ
တောကရေ။ ။ဟူသောဂါထာကိုဟောတော်မူ၏။ ။ဒိ
သော။ခိုးသူသည်။ ဒိသံ။ ခိုးသူကို။ဒိသွာ။မြင်၍။ ယံတံ။ အကြင်
ပျက်စီးခြင်းကို။ ကယိရာ။ ပြုရာ၏။ ဝေရီဝါပန။ရန်သူသည်မှ
လည်း။ဝေရိနံ။ရန်သူကို။ဒိသွာ။မြင်၍။ယံတံ။အကြင်ပျက်စီးခြင်း
ကို။ကယိရာ။ပြုရာ၏။တတော။ထိုပျက်စီးခြင်းထက်။ပါပိယော
အလွန်ယုတ်မာစွာ။ မိစ္ဆာပဏိတံ။ မှားသောအားဖြင့်ထားအပ်
သော။ တနည်းကား။ မိစ္ဆာပဏိဟိတံ။ အကုသလ ကမ္မပထ

ဆယ်ပါး၌ထားအပ်သော။စိတ္တံ။စိတ်သည်။နံ။ထိုသူကို။ ကရေ။ ပျက်စီးခြင်းကိုပြုနိုင်၏။ ။ထိုစကားမှန်၏။ခိုးသူရန်သူတို့သည်ဤ တဖြစ်၌သာလျှင်ဆင်းရဲကိုလည်းဖြစ်စေနိုင်ကုန်ရာ၏၊ အသက် ကုန်ခြင်းကိုလည်းဖြစ်စေနိုင်ကုန်ရာ၏။မှားသောအားဖြင့်အကု သလကမ္မပထတရား၌ ထားအပ်သော စိတ်သည်ကား။ မျက် မှောက်သော ကိုယ်၏အဖြစ်၌ ပျက်စီးခြင်းသို့ရောက်စေ၍။ တ သိန်းသော ကိုယ်၏အဖြစ်တို့ ပတ်လုံးလည်း အပါယ်လေးပါး၌ ပစ်ချ၍ အလွန်လျှင် ဆင်းရဲခြင်း ဦးခေါင်းမပေါ်စိမ့်ငှါ နှိပ်စက် သည်ကိုတွေ့ရသလျှင်ကတည်း။ ထိုကြောင့် တစုံတယောက် သောသူသည်လည်းစိတ်ကို မှားသောအားဖြင့်မထားအပ်။ အ ကြင်သူသည် ရှေး၌ မှားသောအားဖြင့် ထားအပ်သောစိတ်ကို နောက်၌ ကောင်းစွာထား၏။ ထိုသူသည် စိတ်ကို ဖြောင့် စွာ ကောင်းသောအဖြစ်ဖြင့် ထားခြင်းကြောင့်။ နိဗ္ဗာနတိုင် အောင်အကျိုးပေးမည်ဖြစ်၍။ စိတ္တပဏိဓိမင်္ဂလာမည်၏။ ။ အတ္တသမ္မာပဏိဓိကထာပြီး၏။

---

၇။ အကြားအမြင်များခြင်းဗာဟုသစ္စ မင်္ဂလာ။

မြတ်စွာဘုရားစကားတော်ကိုဖင်း။သာသနာတော်မှဖြစ်သော သူတို့၏အတတ်ကိုဖင်း။သင်၍ဖင်း။ နာ၍ဖင်းဖြစ်သောဆိုလတံ့ သောသဒ္ဒါဖြင့်ယူအပ်သောလက်မှုပညာကိုထား၍။ ထိုထို အမှု၌ လိမ္မာသောသူ၏ အဖြစ်သည် ဗာဟုသစ္စ အကြားအမြင် များသောသူ၏ အဖြစ်မည်၏။ ထိုဗာဟုသစ္စသည် အနဂါရိယ ဗာဟုသစ္စ။ အဂါရိယဗာဟုသစ္စ၏ အစွမ်း အားဖြင့် နှစ်ပါးအ ပြားရှိ၏။ထိုနှစ်ပါးတို့တွင်။ ။ဗာဟုသုတေ ပေါတိ သုတဓ ရောသုတသန္နိစယော။ ။ဤသို့အစရှိသောနည်းဖြင့်ဥရုဝေလ သုတ်အစရှိသည်တို့၌ သာသနာတော်ကို ဆောင်ခြင်းအကျိုးငှါ

ဘုရားရှင်ချီးမွမ်းတော်မူအပ်သော။ ဗာဟုသစ္စသည် အနဂ္ဂါ
ယဗာဟုသစ္စမည်၏။ဥရုဝေလသုတ်ကား။စတုက္ကအင်္ဂုတ္တိုရ်ပ
မပဏ္ဏာသ၌လာ၏။ ။ဗဟုသုတော။မျှားစွာနာအပ်သောပ
ယတ္တိတရားရှိသည်။ သုတဓရော။ နာအပ်သောပရိယတ္တိတရ
၏တည်ရာဖြစ်၍ဖြစ်သည်။ သုတသန္နိစယော။ နာအပ်သောပ
ယတ္တိတရား၏သိုမှီးရာဖြစ်၍ဖြစ်သည်။ ဟောတိ။ ဖြစ်၏။ ။ဗ
ဟုသုတော ဟူသောပါဌ်ဖြင့် ကိုးပါးသောအင်္ဂါရှိသောမြတ်
စွာဘုရားသာသနာတော်ကို ပါဠိအနုသန္ဓေပုဗ္ဗာပရ၏ အစွမ်
အားဖြင့်သင်၏ဟူသော အနက်ကိုမှတ်အပ်၏။ သုတဓရောဟူ
သောပါဌ်၏ဗျတိရေကအဓိပ္ပါယ်ကား။အကြင်သူအား၌မှသင်
သောဘုရားစကားတော်သည်။၌မှထွက်၍ပြေး၏။အပေါက်ရှိ
သောအိုး၌ထည့်သောရေကဲ့သို့မတည်ပရိသတ်၏အလယ်၌တ
သောသုတ်ကိုဖင်း။ဇာတ်ကိုဖင်း။ဟောခြင်းငှါဖင်း။သူ့အါးသင်
ခြင်းငှါဖင်းမတတ်နိုင်။၌သူသည်သုတဓရမမည်။ ။သုတသန္နိစ
ယမည်သည်ကား။အကြင်သူအားနှလုံးအတွင်း၌သိုမှီးအပ်သော
တရားတော်သည်ကျောက်၌ထုအပ်သောအရေးခဲ့သို့။ ရွှေအိုး၌
ထည့်အပ်သော ခြင်္သေ့ဆီခဲ့သို့တည်၏။ ၌သူသည်သုတသန္နိစ
ယမည်၏။ ။ထိုသုတ်၏အဋ္ဌကထာ။ ။အကြင်အကြားအ
မြင်များသောသူ၏အဖြစ်သည်။ နိဗ္ဗာန်ကိုမျက်မှောက်ပြုရခြင်း
၏အကြောင်းဖြစ်သောကြောင့် မင်္ဂလာမည်၏။ အကြင်အကြား
အမြင်များသောသူ၏အဖြစ်ကိုရ၍ နိဗ္ဗာန်သို့ရောက်နိုင်သည်ကို
မြတ်စွာ ဘုရား ရှင်၏ တရား တော်ကို နာရခြင်း ကြားရ ခြင်း
ကြောင့် နိဗ္ဗာန်မင်္ဂလိပ်သို့ ရောက်တော်မူကုန်ပြီးသော။ အရှင်
သာရိပုတ္တရာ အရှင်မောဂ္ဂလာန်အစရှိသော သာဝကအပေါင်း
တို့ကိုထောက်၍သိအပ်ကုန်၏။

လူတို့သည် သာသနာတော်မှအပဖြစ်သောအတတ်ကိုနာ၍
ဖင်း။ သင်၍ဖင်း တတ်သောပညာသည်လည်း။ အဂါရိယဗာ
ဟုသစ္စမည်၏။ ထိုလူတို့၏အကြင်အကြားအမြင်ပညာသည်အ

ဖြစ်မရှိသည်ဖြစ်အံ့။ ထိုအကြား အမြင် ပညာ သည် သံသရာ ပဋ္ဋပြန် နှစ်တန်သောဘဝ၌။ စီးပွါးချမ်းသာသို့ ဆောက်ရွက်တတ်သောကြောင့် မင်္ဂလာမည်၏။ ထိုစကား၌ဤဝတ္ထုကိုသိအပ်၏။

လွန်လေ ပြီးသောအခါ ဗာရာဏသီ ပြည်၌ သေနက မည်သောဘုရားလောင်းပုဏ္ဏားဖြစ်၍ တက္ကသိုလ်ဆရာထံအပြစ်မရှိသောအတတ်ပညာကိုသင်ကြားတတ်မြောက်၍ပြန်လာရာ။ ဇနကမည်သောဗာရာဏသီမင်းသည်။ ထိုသေနကဘုရားလောင်းအားများစွာသော စည်းစိမ်ချမ်းသာအခြံအရံနှင့်တကွ။ အမတ်အရာကိုပေး၏။ ထိုအခါတယောက်သောပုဏ္ဏားအိုသည်။ ဥစ္စာအလှူခံသဖြင့် အသပြာ တထောင်ကိုရ၍။ တယောက် သောပုဏ္ဏားမျိုးထံအပ်နှံထား၍လှည့်ပတ်အလှူခံပြန်ရာ။ ထိုဥစ္စာထိန်းသောပုဏ္ဏားသည်ဥစ္စာကိုသုံးစားပေးဆပ်ခြင်းငှါမတတ်နိုင်၍။ မိမိသမီးငယ်ကိုထိုပုဏ္ဏားအိုသို့ ခြေရင်းအလုပ်အကျွေး အလို့ငှါပေးလိုက်လေသျှင်။ ထိုပုဏ္ဏားအိုသည်ယူဆောင်၍ဗာရာဏသီပြည်၏အနီး ပုဏ္ဏားရွာတွင်နေလေ၏။ ထိုအခါ ပုဏ္ဏေးမငယ်သည်မေထုန်အရာ၌မရောင့်ရဲ။ တယောက်သောပုဏ္ဏားပျိုနှင့်မှားသောအကျင့်ကိုကျင့်လျက်။ ပုဏ္ဏားအိုကို ငါသည်ကျွန်စေခိုင်းထိုသည်ဖြစ်၍ ပစ္စည်းဥစ္စာအလှူခံချေဟု တပါးအရပ်သို့စေခိုင်းသျှင်။ ပုဏ္ဏားအိုလည်းပုဏ္ဏေးမသည်ငယ်သောအရွယ်ရှိ၍အလိုသို့လိုက်ပြီးသျှင်။ မုန့်ဆုပ်ဖြင့်ပြည့်သော သားရေအိတ်ကိုလွယ်၍လှည့်လည်အလှူခံလေရာ။ ခုနစ်ရာသောအသပြာတို့ကိုရ၍ပြန်လာရာ။ တခုသောရေကန်၏အနီးအခေါင်းရှိသောသစ်ပင်ရင်း၌မုန့်ဆုပ်ကိုစား၍အိတ်မျက်နှာဝကိုမစည်းမဘဲမူ၍ရေသောက်အံ့ငှါသွားလေ၏ ထိုအခါသစ်ပင်ခေါင်း၌နေသောတခုသောမြွေဟောက်သည်မုန့်ဆုပ်နံ့နံသောကြောင့်။အိတ်တွင်းသို့ဝင်စားလျက် ခွေ၍နေလေ၏။ ပုဏ္ဏားအိုသည်အိတ်တွင်းကိုမကြည့်မူ၍အိတ်မျက်နှာဝကိုစည်းပြီးလျှင်သွားလေသော်။ပုဏ္ဏား

ယနေ့ခရီးအကြားဌ် အိပ်သည်ဖြစ်အံ့သင်သည်သေလတံ့။ ဤ
သို့ယနေ့ရောက်သည်ဖြစ်အံ့ သင်မယားသေသတံ့ဟု။ တယေ
သော ရက္ခပိုးဆိုသောစကားကိုကြား၍ သေဘေးမှ ကြောက်
လန့်လျက်။ ဗာရာဏသီမြို့တံခါးသို့ရောက်၏။ ထိုအခါငါသည်
လွန်ပညာရှိသောသေနကာအမတ်ထံသွား၍တရားနာရလျှင်။ ငါ
၏သောကကို ပညာရှိ အမတ်မင်း ပယ်နိုင်လတံ့ဟု ကြံစည်
သွားရောက်ပြီးလျှင်ငိုလျက်ချဉ်းကပ်လေ၏။ ထိုပုဏ္ဏားသောက
ဖိဘ်နှင့်ရပ်သည်ကိုဘုရားလောင်းမြင်လျှင်။ ပုဏ္ဏားအကြောင်
အသို့ရှိ၍ငိုသနည်းဟုမေး၏။ ပုဏ္ဏားအိုလည်းရက္ခပိုးဆိုလိုက်
တိုင်းပြောကြား၍။ ပညာရှိ။ငါနှင့်မယား၏သေခြင်းဌ်အကြောင်
ကား အသို့နည်းဟုမေး၏။ ဘုရားလောင်းသည် စုံစမ်း လတ်
သော်။ မိမိ၏ပညာပါရမီဖြင့်ဒိဗ္ဗစက္ခုကိုရသကဲ့သို့အလုံးစုံသေ
အကြောင်းကိုသိ၍ပုဏ္ဏားအိတ်ဌ်မုန့်ဆုပ်ရှိဘူးသလောဟုမေး၏
ပညာရှိ။မုန့်ဆုပ်ရှိ၏ဟုဆို၏။ ယနေ့နံနက်စာအဘယ်မှာစားသ
နည်းဟုမေး၏။ တောမှာသစ်ပင်ရင်းဌ်စား၏ဟုဆို၏။ စားပြီး
လျှင်ရေသောက်အံ့ဟုသွားသောအခါ အိတ်မျက်နှာဝကိုစည်းဘွဲ
၏လောဟုမေး၏မဘွဲ့ဟုဆို၏။ ထိုသို့တပြီးကားမုန့်ဆုပ်နံ့နံ၍တ
ခုသော မြွေဟောက်သည်။ မုန့်ကိုစားလျက်အိတ်တွင်းသို့ဝင်
လျက်ရှိ၏။ ယနေ့သင်သည်လမ်းတွင်အိပ်အံ့ညအခါ မုန့်ဆုပ်ကို
စားလို၍အိတ်တွင်းသို့လက်နှိုက်သော်အခါ။ သင့်လက်ကိုမြွေခဲ၍
သေသတံ့။ ဤကားသင်သေခြင်း၏အကြောင်းတည်း။ ယနေ့အိမ်
သို့သင်ရောက်အံ့။ သင့်မယားအိတ်ကိုနှိုက်ရာ လက်ကိုမြွေခဲ၍
သေလတံ့။ ဤကားသင့်မယား၏သေခြင်းအကြောင်းတည်း။ ဤ
အကြောင်းကိုရည်၍နတ်သည်ဆိုလိုက်၏။ ထိုကြောင့်အိတ်မျက်
နှာဝကိုဖြေ၍ အဝေးကရပ်လျက် လှံတံဖြင့်အိတ်ကို ပုတ်ခတ်
လော့ဟုဆို၏။ ဘုရားလောင်းဆိုတိုင်းပြုလေသော်။ မြွေဟောက်
သည်ပါးပျဉ်းထောင်လျက် ရှူးရှူးမြည်၍ထွက်၏။ ထိုအခါ မြွေ
ဟောက်ကိုပုဏ္ဏ၍တောအရပ်သို့လွှတ်စေ၏။ ခပ်သိမ်းသောနတ်

လူအပေါင်းတို့သည်။ ဘုရားလောင်း၏ ထင်ရှား သိနိုင် သော
ပညာတော်ကိုချီးမွမ်းကြ၍။ မြေကြီးကွဲသောအသံခဲ့သို့ကောင်း
ချီးပေးသောအသံ ပဲ့တင်ထပ်လေ၏။ ဘုရားလောင်းကို ပူဇော်
အံ့သော၌။ တခဲနက်သော်မိုဃ်းကြီးရွာသကဲ့သို့ရတနာခုနစ်ပါး
မိုဃ်းရွာလေ၏။ ပုဏ္ဏားအိုလည်းမိမိရအပ်သောအသပြာကိုပူ
ဇော်လေ၏။ဘုရားလောင်းသည်ထိုပုဏ္ဏား၏အသပြာကိုမယူမူ
၍သုံးရာထပ်မံ၍တထောင်ပြည့်အောင်ပုဏ္ဏားအိုအားပေးစေ၍
သင့်ကို အဘယ်သူသည် ဥစ္စာရှာ စေခိုင်း သနည်းဟု မေး၏။
ပုဏ္ဏေးမ စေခိုင်းသည်ဟုဆို၏။ ပုဏ္ဏေးမသည် ငယ်သလော
သင်လောက်ကြီးသလောဟုမေး၏။ ငယ်သည်ဟုဆို၏။ ထိုသို့
တပြီးကားသင့်ပုဏ္ဏေးမသည် သူတပါးနှင့်မှားသောအကျင့်ကို
ကျင့်လို၍စေခိုင်းလေ၏။ ဤအသပြာတို့ကို ရွာပြင်ကသင့်ရာအ
ရပ်တွင်ဖက်ထား၍ သင်သည်သွားလေဟု ပုဏ္ဏားအိုကို လွှတ်
လိုက်၏။ပုဏ္ဏားအိုလည်းဘုရားလောင်းသင်လိုက်တိုင်းထားခဲ့၍
အိမ်သို့ညဉ့်အခါဝင်ပြီးလျှင်။ ဘောတိဘောတိဟုမယားကိုခေါ်
လေလျှင်။ ထိုခဏ၌ပုဏ္ဏေးမသည်သယောက်လင်ကိုအိမ်တွင်း
မှသင့်ရာ ထုတ်လိုက်၍ထွက်လာပြီးလျှင်။ အဘယ် မျှလောက်
သော ဥစ္စာရခဲ့သနည်းဟုမေး၏။ တထောင် ရခဲ့၏ဆိုလျှင် အ
ဘယ်မှာ ထားခဲ့သနည်းဟုမေး၏။ ရွာပြင်မည်သည့်အရပ်တွင်
ထားခဲ့သည်ဟုဆို၏။ ပုဏ္ဏေးမသည်တိတ်တဆိတ်သယောက်
လင်ကို ယူစေ၏။ ပုဏ္ဏားအိုသည် ထိုဥစ္စာကို မမြင်၍ ဘုရား
လောင်းအထံသို့ချဉ်းကပ်၍ကြားလေ၏။ဘုရားလောင်းသည်ထို
အကြောင်းကိုသိ၍။ ပုဏ္ဏားအိုအား ခုနစ်ရက် လောက်အောင်
သောအစာတို့ကိုပေးလိုက်၍သင့်ဆရာခုနစ်ယောက်။ ပုဏ္ဏေးမ
ဆရာခုနစ်ယောက်။ တကျိပ်လေးယောက်သောဆရာတို့ကိုဦး
စွာသောနေ့၌ကျွေး၍တနေ့လျှင်တယောက်လျှော့စေပြီးလျှင်။ခု
နစ်ရက်ရှိအောင်ကျွေးလေလော့။ခုနစ်ရက်မြောက်သောနေ့၌
သင့်ဆရာပုဏ္ဏားတယောက်။ သင့်မယားဆရာပုဏ္ဏားတယောက်

ထိုနှစ်ယောက်သော ပုဏ္ဏားတို့သည် ခုနစ်ရက်ပတ်လုံးလာ၏။ ဤပုဏ္ဏား နှစ်ယောက်ကို ငါ့အားကြားလောသို၏။ ပုဏ္ဏား အိုလည်းဘုရားလောင်းသိုတိုင်းပြု၍ကြား၏။ ဘုရားလောင်းသည် ပုဏ္ဏေးမဆရာပုဏ္ဏားကိုခေါ်စေ၍။ အလုံးစုံသောမယားခိုးခြင်းသပြာပျောက်ခြင်းတို့ကိုမေးစစ်ရာ။ ထိုပုဏ္ဏေးမ၏လင်ငယ်ဖြစ်သောပုဏ္ဏားသည်။ မထိန်မကွယ်နိုင်သော အကြောင်းရှိ၍ မယားခိုးခြင်းသပြာခိုးခြင်းတို့ကိုဘော်ရလေ၏။ ထိုအခါထိုပုဏ္ဏားကိုမင်းချင်းယောကျ်ားတို့ ဆောင်စေ၍။ ပုဏ္ဏားအိုကိုစည်းစိမ်ချမ်းသာမယားနှင့်တကွသပြာတထောင်ကိုရစေ၍။ မိမိအထံ၌နေစေ၏။ ။ဤသေနကဇာတ်၌ဘုရားလောင်းသည်အကြင်အကြားအမြင်ပညာ၏အစွမ်းဖြင့်။ ပုဏ္ဏားအိုကိုဆင်းရဲမှလွတ်စေ၍ပရမတ္ထပညာပါရမီကိုဖြည့်တော်မူ၏။ ထိုကြောင့်စရိယာပိဋကဌ်။ ။ပညာယပဝိစိနန္တော။ ဗြာဟ္မဏံမောစယိံဒုက္ခာ။ ပညာယမေသမောနတ္ထိ။ သောမေပညာပါရမီ။ ။ဟုဟောတော်မူသတည်း။ ။အဟံ။ငါသည်။ ပညာယ။ပညာဖြင့်။ ပဝိစိနန္တော။ ဆင်ခြင်လျက်။ဗြာဟ္မဏံ။ပုဏ္ဏားကို။ ဒုက္ခာ။ဆင်းရဲမှ။ မောစယိံ။ လွတ်စေပြီ။ မေ။ငါ၏။ ပညာယ။ပညာနှင့်။ သမော။ တူသော ပညာတရားသည်။ နတ္ထိ။မရှိ။ သော။ဤသည်ကား။ မေ။ ငါ၏။ ပညာပါရမီ။ပညာပါရမီတည်း။ ။အဋ္ဌသာလိနီ၌လည်း။ ။အန္တောဘညာဂတံ သပ္ပံဒဿေန္တဿ ပညာပါရမိတာ ပရမတ္ထပါရမီနာမဇာတာ။ ။ဟူ၍မိန့်အပ်၏။ ။အန္တောဘညာဂတံ။ သားရေအိတ်တွင်း၌ရှိသော။ သပ္ပံ။မြွေဟောက်ကို။ ဒဿေန္တဿ။ ပြသောသေနကဘုရားလောင်း၏။ ပညာပါရမိတာ။ ပညာပါရမီသည်။ ပရမတ္ထပါရမီနာမ။ ပရမတ္ထပါရမီမည်သည်။ ဇာတာ။ ဖြစ်၏။ ။ထိုစကားမှန်၏။ ဤသို့သဘောရှိသောပြဿနာကိုဘုရား၏ တင့်တယ်ခြင်းဖြင့်ဖြေဆိုခြင်းသည်ကား။ ဇာတိ၏အစွမ်းလည်းမဟုတ်။ အနွယ်အမျိုး အရပ်တို့၏ အစွမ်းလည်း မဟုတ်။ စင်စစ်သဖြင့်ပညာ၏အစွမ်းသာလျှင်တည်း။ ထိုစကား

မှန်၏။ ပညာရှိသောယောကျ်ားသည်ဝိပဿနာကိုပွါးစေ၍အရိယမဂ်တံခါးကိုဖွင့်၍ နိဗ္ဗာန်မြို့သို့ဝင်ရလတ့ံ။ သာဝကပါရမီကိုရင်း။ပစ္စေကဗောဓိကိုရင်း။အဘိသမ္ဗောဓိကိုရင်းထိုးထွင်း၍သိ၏။ ထိုစကားလည်းမှန်၏။ နိဗ္ဗာန်သို့ ရောက်စေတတ်ကုန်သောတရားတို့တွင် ပညာသည်သာလျှင်အမြတ်ဖြစ်၏။ ကြွင်းကုန်သောတရားတို့သည်ကားပညာ၏အခြံအရံဖြစ်ကုန်၏။ ထိုကြောင့်။ ။သီလံသိရိဉ္စာပိသတဉ္စဓမ္မံ။ ပညဉ္စကံ သေဋ္ဌတရံဝဒန္တိ။ ။ပညာဟိသေဋ္ဌာကုသလာဝဒန္တိ။ နက္ခတ္တရာဇရိဝတာရကာနံ။ သီလံ သိရိဉ္စာပိ သတဉ္စဓမ္မော။ အန္ဝယိကာ ပညာဝတောဘဝန္တိ။ ။ဟူ၍ဟောအပ်၏။ ။သီလဉ္စ။ အကျင့်သီလကိုလည်း။ သေဋ္ဌတရံ။အလွန်မြတ်သောတရားဟူ၍။ ဝဒန္တိ။ဆိုကုန်သလော။သိရိဉ္စာပိ။ အစိုးရသည်၏အဖြစ်ကိုလည်း။ သေဋ္ဌတရံ။အလွန်မြတ်သောတရားဟူ၍။ ဝဒန္တိ။ ဆိုကုန်သလော။သတံ။သူတော်ကောင်းတို့၏။ ဓမ္မဉ္စ။တရားကိုလည်း။ သေဋ္ဌတရံ။အလွန်မြတ်သောတရားဟူ၍။ ဝဒန္တိ။ ဆိုကုန်သလော။ ပညဉ္စ။ပညာကိုလည်း။ သေဋ္ဌတရံ။ အလွန်မြတ်သောတရားဟူ၍။ ဝဒန္တိ။ဆိုကုန်သလော။ကံ။အဘယ်တရားကို။ သေဋ္ဌတရံ။အလွန်မြတ်သောတရားဟူ၍။ ဝဒန္တိ။ ဆိုကုန်သနည်း။ ။တာရကာနံ။ကြယ်တို့ထက်။ နက္ခတ္တရာဇာ။ လမင်းသည်။ သေဋ္ဌောဣဝ။မြတ်သကဲ့သို့။ ပညာဟိပညာနာမ။ ပညာ မည်သော တရားသည်။သေဋ္ဌော။မြတ်၏။ ပညာဝတော။ပညာရှိသောသူ၏။ တနည်းကား။ပညာဝတော။ ပညာရှိသောသူသို့။ သီလဉ္စ။အကျင့်သီလသည်၎င်း။သိရီစာပိ။အစိုးရသောအဖြစ်သည်၎င်း။ သတံ။သူတော်ကောင်းတို့၏။ ဓမ္မောစ။တရားသည်၎င်း။ အန္ဝယိကာ။နောက်သို့ လိုက်ကုန်သည်။ တနည်းကား။ အန္ဝယိကာ။ အစဉ်လိုက်ကုန်သည်။ ဘဝန္တိ။ ဖြစ်ကုန်၏။ ။ဤသို့သေနကသုခမိန်သည်ကိုယ်တော်၏ ဗဟုသုတပညာရှိသည်၏အဖြစ်ကြောင့်။အမတ်အရာအစရှိသည်ဟုဆိုအပ်သော ပဉ္စပြုန်လောကဋ်အစိုး

အပွါးကိုရ၍ လူတို့အား တရားဟောသဖြင့်၎င်း။ ပုဏ္ဏားအား သင်းရဲမှလွတ်စေသဖြင့်၎င်း။တမလွန်လောကမှအစီးအပွါးကို ဆောင်သောအမှုကိုပြု၏ဟူ၍ မှတ်အပ်၏။ ။(သတ္တနိပါတ် သတ္တုဘညဇာတ်အဋ္ဌကထာလာ။သေနကသုခမိန်ဝတ္ထု။)

ဤသို့တက္ကသိုလ်ပြည်၌ ခပ်သိမ်းသော အတတ်။ ခပ်သိမ်းသောသတ္တဝါတို့၏အသံကိုသိကြောင်းဖြစ်သောကြောင့်။ သဗ္ဗရုတဇာနနမည်သော မန္တာန်တို့မှစ၍ များစွာသော အပြစ်မရှိသောမန္တာန်ပညာအတတ်တို့ကိုလည်း။ အဂါရိယ ဗာဟုသစ္စကထာ၌ထုတ်ဆောင်အပ်၏။ ။အကြင်အပြစ်မရှိသောအနာဂါရိယ၊အာဂါရိယဟုဆိုအပ်သောအကြားအမြင်ပညာသည်ရှိ၏။ ထိုပညာသည် ပစ္စုပ္ပန်သံသရာ အကျိုးစီးပွါးတို့ကို ပေးတတ်သောကြောင့်မင်္ဂလာမည်၏။ ။ဗာဟုသစ္စကထာပြီး၏။

---

## ၈။ အတတ်ပညာတတ်ခြင်း။သိပ္ပမင်္ဂလာ။

သိပ္ပဉ္စဟူသောမင်္ဂလာ၌ သိပ္ပဟူသည်ကား ရဟန်းတို့၏အတတ် လူတို့၏အတတ်အားဖြင့် နှစ်ပါးအပြားရှိသော လက်မှုအတတ်သည်သိပ္ပမည်၏။ ထိုနှစ်ပါးတို့တွင်။ ။ဇာဝတိဘိက္ခဝေ ဘိက္ခုယာနိတာနိသဗြဟ္မစာရီနံ ဥစ္စာဝစာနိကိံ ကရဏီယာနိ တတ္ထဒက္ခောဟောတိ အနလသော တတြုပါယာယဝီမံသာယ သမန္နာဂတော အလံကာတုံ အလံသံဝိဓာတုံ ယမ္ပိ ဘိက္ခဝေ ဘိက္ခုယာနိ တာနိသဗြဟ္မစာရီနံဥစ္စာဝစာနိ ကိံကရဏီယာနိ တတ္ထဒက္ခောဟောတိအနလသော တတြုပါယာယဝီမံသာယ သမန္နာဂတောအလံကာတုံအလံသံဝိဓာတုံ။အယမ္ပိဓမ္မောနာထကရဏော။ ။ဟူ၍အင်္ဂုတ္တိုရ်ဒသကနိပါတ်သုတ်၌ဟောတော်မူအပ်သော။ သင်္ကန်းစီရင်ခြင်း ချုပ်ခြင်းအစရှိသော ရဟန်းတို့၏ ပရိက္ခာရာစီရင်ခြင်းအတတ်သည် ရဟန်းတို့၏လက်မှုအတတ်မည်၏။ ။ဘိက္ခဝေ။ တို့။ ဇာဝ။ဤသာသနာတော်၌

ဘိက္ခု။ ရဟန်းသည်။ သဗြဟ္မစာရီနံ။ သီတင်းသုံးဘော်တို့၏။ ဥဇ္ဈာဝစာနိ။ အကြီးအငယ်ဖြစ်ကုန်သော။ ယာနိတာနိကိံကရဏီယာနိ။ အကြောင်အသို့ပြုရအံ့နည်းဟုမေး၍ပြုအပ်ကုန်သောအမှုတို့သည်။သန္တိ။ရှိကုန်၏။ တတ္ထ။ ထိုမေး၍ပြုအပ်သောအကြီးအငယ်ဖြစ်သောအမှု၌။ဒက္ခော။လိမ္မာသည်။ ဟောတိ။ဖြစ်၏။အနလသော။မပျင်းသည်။ ဟောတိ။ဖြစ်၏။ တတြုပါယာယ။ ထိုမေး၍ပြုအပ်သော အမှုကြီးအမှုငယ်၌ အမှုကိုပြီးစေသည့်၏အစွမ်းအားဖြင့် ဆည်းကပ်တတ်သော။ တနည်းကား။ တတြုပါယာယ။ ထိုထိုမေး၍ပြုအပ်သော အမှုကြီးအမှုငယ်၌ပြီးစေအပ်သောအကျိုး၏အကြောင်းဖြစ်သော။ ဝိမံသာယ။ ပညာနှင့်။ သမန္နာဂတော။ပြည့်စုံသည်။ ဟောတိ။ဖြစ်၏။ ကာတုံ။ပြုခြင်းငှါ။ အလံ။စွမ်းနိုင်သည်။ ဟောတိ။ဖြစ်၏။ သံဝိဓာတုံ။ စီရင်ခြင်းငှါ။ အလံ။စွမ်းနိုင်သည်။ ဟောတိ။ဖြစ်၏။ ဘိက္ခဝေ တို့။ ဘိက္ခု။ရဟန်းသည်။သဗြဟ္မစာရီနံ။ သီတင်းသုံးဘော်တို့၏။ဥဇ္ဈာဝစာနိ။ အကြီးအငယ်ဖြစ်ကုန်သော။ ယာနိတာနိကိံကရဏီယာနိ။ အကြောင်အသို့ပြုရအံ့နည်းဟုမေး၍ ပြုအပ်ကုန်သော အမှုတို့သည်။ သန္တိ။ရှိကုန်၏။ တတ္ထ။ ထိုမေး၍ပြုအပ်သောအကြီးအငယ်ဖြစ်သောအမှု၌။ဒက္ခော။လိမ္မာသည်။ဟောတိ။ဖြစ်၏။ အနလသော။ မပျင်းသည်။ဟောတိ။ဖြစ်၏။ တတြုပါယာယ။ ထိုမေး၍ပြုအပ်သောအမှုကြီးအမှုငယ်၌ အမှုကိုပြီးစေသည့်၏ အစွမ်းအားဖြင့် ဆည်းကပ်တတ်သော။တနည်းကား။ တတြုပါယာယ။ ထိုထိုမေး၍ပြုအပ်သော အမှုကြီးအမှုငယ်၌ပြီးစေအပ်သောအကျိုး၏ အကြောင်းဖြစ်သော။ဝိမံသာယ။ပညာနှင့်။သမန္နာဂတော။ပြည့်စုံသည်။ဟောတိ။ဖြစ်၏။ကာတုံ။ပြုခြင်းငှါ။အလံ။စွမ်းနိုင်သည်။ ဟောတိ။ဖြစ်၏။ သံဝိဓာတုံ။စီရင်ခြင်းငှါ။ အလံ။စွမ်းနိုင်သည်။ ဟောတိ။ဖြစ်၏။ဣတိ။ဤသို့။ ဝုတ္တံ။ဟောအပ်သော။ ယမ္ပိဓမ္မဇာတံ။ အကြောင်သဘောတရားသည်လည်း။ အတ္ထိ။ ရှိ၏။ အယမ္ပိ ဓမ္မော။ဤတရားသည်လည်း။နာထကရဏော။ မိမိ၏ကိုးကွယ်

ရာအဖြစ်ကိုပြုတတ်၏။ ။ထိုစကားနှင့် ဤဝဏ္ဏကိုသိအပ်ကုန်၏။

တရံရောအခါမြတ်စွာဘုရားသည်။ ဒက္ခိဏာဂိရိနှင့်ဒေသစာရီကြွသွားတော်မူသောအခါမဂရာဇ်လယ်ကိုမြင်တော်မူ၍။အာနန္ဒာ။ သင်သည်ရဟန်းတို့၏ဤသို့သဘောရှိကုန်သော သင်္ကန်းတို့ကိုစီရင်ခြင်းငှါ စွမ်းနိုင်အံ့လောဟု မေးတော်မူ၍ရာဇဂြိုဟ်သို့ကြွတော်မူ၏။ အရှင်အာနန္ဒာ မထေရ်သည် လက်မှုနှင့် လိမ္မာသည့်၏အဖြစ်ကြောင့်။ ဘုန်းတော်ကြီးလှသောအရှင်ဘုရား။အကျွန်ုပ်စွမ်းနိုင်ပါ၏ဟုလျှောက်၏။ ထိုထိုသဘော ရှိကုန်သော သင်္ကန်းတို့ကို စီရင်၍ ဘုရားသဗ္ဗညုအားပြ၏။ ဘုရားသဗ္ဗညုသည် အရှင်အာနန္ဒာမထေရ်ကိုချီးမွမ်းတော်မူလိုရကား။

ပဏ္ဍိတောဘိက္ခဝေအာနန္ဒော။ မဟာပညောဘိက္ခဝေအာနန္ဒော။ ယတြဟိနာမမယာသံခိတ္တေန ဘာသိတဿဝိတ္ထာရေန အတ္ထံ အာဇာနိဿတိ ကုသိမ္ပိနာမကရိဿတိ အဍ္ဎကုသိမ္ပိနာမ မဏ္ဍလမ္ပိနာမအဍ္ဎမဏ္ဍလမ္ပိနာမ ဝိဝဋ္ဋမ္ပိနာမအနုဝိဝဋ္ဋမ္ပိနာမ ဂီဝေယျကမ္ပိနာမ ဇင်္ဃေယျကမ္ပိနာမ ဗာဟန္တမ္ပိနာမ ကရိဿတိ ဆိန္နကဉ္စဘဝိဿတိသတ္ထလူခံ သမဏသာရုပ္ပံစပစ္စတ္ထိကာနဉ္စ အနဘိဇ္ဈာဂတံအနုဇာနာမိဘိက္ခဝေဆိန္နကံ သင်္ဃာဋိံဆိန္နကံဥတ္တရာသင်္ဂံဆိန္နကံအန္တရဝါသကံ။ ။ဟူ၍ရဟန်းတို့ကိုမိန့်တော်မူ၏။ ။ဘိက္ခဝေ။ တို့။ အာနန္ဒော။ အာနန္ဒာသည်။ ပဏ္ဍိတော။ ပညာရှိ၏၊ ဘိက္ခဝေ။တို့။ အာနန္ဒော။သည်။ မဟာပညော။ကြီးသောပညာရှိ၏။ ယတြဟိနာမယောဟိနာမ။ အကြင်အာနန္ဒာမည်သောရဟန်းသည်။ မယာ။ငါဘုရားသည်။ သံခိတ္တေန။ အကျဉ်းအားဖြင့်။ဘာသိတဿ။ဟောတော်မူအပ်သောစကား၏။ အတ္ထံ။အနက်ကို။ဝိတ္ထာရေန။ အကျယ်အားဖြင့်။အာဇာနိဿတိ။သိဘိ၏။ကုသိမ္ပိနာမ။တလုပ်ရှည်မည်သည်ကိုလည်း။ကရိဿတိ။ပြုဘိ၏။အဍ္ဎကုသိမ္ပိနာမ။ တလုပ်တိုမည်သည်ကိုလည်း။ကရိဿတိ။ ပြုဘိ၏။ မဏ္ဍလမ္ပိနာမ။ အိမ်ဝန်းကြီးမည်သည်ကို

လည်း။ကရိသတိ။ ပြုဘိ၏။ အဇမဏ္ဍလမ္ဘိနာမ။ အိမ်ဝန်းငယ်မည်သည်ကိုလည်း။ ကရိသတိ။ပြုဘိ၏။ ဝိဝဋ္ဋမ္ဘိနာမ။ ခေါင်ရံကြီးမည်သည်ကိုလည်း။ကရိသတိ။ပြုဘိ၏။ အနုဝိဝဋ္ဋမ္ဘိနာမ။ ခေါင်ရံငယ်မည်သည်ကိုလည်း။ကရိသတိ။ပြုဘိ၏။ ဂိဝေယျကမ္ဘိနာမ။ လည်ခံမည်သည်ကိုလည်း။ ကရိသတိ။ ပြုဘိ၏။ ဇယေယျကမ္ဘိနာမ။မြင်းခေါင်းခံမည်သည်ကိုလည်း။ ကရိသတိ။ပြုဘိ၏။ ဗာဟန္တမ္ဘိနာမ။လက်လိပ်မည်သည်ကိုလည်း။ ကရိသတိ။ ပြုဘိ၏။ ဆိန္နကဏ္ဍ။ တလုပ်ရှည်အစရှိသည်ဖြင့်ဖြတ်သောသင်္ကန်းမည်သည်လည်း။ သတ္တလုခံ။ ထားငယ်ဖြင့်ဖြတ်ခြင်းကြောင့်ရုန့်ရင်းသည်ဖြစ်၍။ သမဏသာရုပ္ပံစ။ ရဟန်းတို့အားလျောက်ပတ်သည်ဖင်း၊ ပစ္စတ္ထိကာနံ။ရန်သူတို့သည်။ အနဘိဇ္ဈာဂတံစ။ အလိုမရှိအပ်သည်ဖင်း။ ဘဝိသတိ။ ဖြစ်လတ့်။ ဘိက္ခဝေ။တို့၊ ဆိန္နကံ။ဖြတ်သော။ သင်္ဃာဋိ။ဒုကုဋ်ကို။ ဆိန္နကံ။ဖြတ်သော။ဥတ္တရာသင်္ဂံ။ကိုယ်ဝတ်ကို။ ဆိန္နကံ။ဖြတ်သော။အန္တရဝါသကံ၊ သင်းပိုင်ကို။ အနုဇာနာမိ။ ငါဘုရား ခွင့်ပြုတော်မူ၏။ ။အချင်အာနန္ဒာမထေရ်အား ဘုရားချီးမွမ်းတော်မူသောဝတ္ထု။ဤသည်ကားရဟန်းတို့၏အပြစ်မရှိသောလက်မှုပညာအတတ်တို့ကိုတတ်ရခြင်းမင်္ဂလာတည်း။

လူတို့၏လက်မှုပညာအတတ်မည်သည်ကား။ များသောအပြားရှိ၏။ထိုများစွာသောလက်မှုအတတ်တို့တွင်။သူ့အသက်ကိုသတ်ခြင်း။ သူ့ဥစ္စာကိုခိုးခြင်းတို့မှကင်းသောအကုသိုလ်သည်ကြည်အပ်သောမြရွဲ့လုံးလုပ်ခြင်း။ရွှေလုပ်ခြင်း။ ငွေလုပ်ခြင်း။အိမ်ကျောင်းတံတားဘုရားဂူတည် ပန်းချီပန်းပုပန်းထုပန်းထိမ်အစရှိသောများစွာသောအကြင်လက်မှုပညာတို့သည်ရှိကုန်၏။ ထိုလက်မှုပညာတို့သည် ပစ္စုပ္ပန်လောက၌ အကျိုးကိုရွက်ဆောင်တတ်သောကြောင့်မင်္ဂလာမည်၏။ ။ပစ္စုပ္ပန်အကျိုးစီးပွါးရှိသည်ကိုဤဝတ္ထုဖြင့်သိအပ်၏။

လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌တယောက်သော

လူဆွံ့သည်။ကျောက်စရစ်ပစ်အတတ်၌လိမ္မာ၏။ထိုလူဆွံ့ကိုရွာသူသားငယ်တို့သည်ရထားနှင့်တင်ကုန်၍မြို့တံခါးရင်း၌တည်ရှိသောပညောင်ပင်သို့ဆောင်ကုန်၍။တရွေးတပဲအစရှိကုန်သောဥစ္စာတို့ကိုပေးကုန်၍။ဆင်ရုပ်ကိုပြုလော။မြင်းရုပ်ကိုပြုလောဟုဆိုကုန်၏။ ထိုလူဆွံ့သည် ကျောက်စရစ်တို့ကိုပစ်၍ ပညောင်ရွက်တို့၌အထူးထူးကုန်သောအရုပ်တို့ကိုပြု၏။မင်းသည်ဥယျာဉ်သို့သွားသည်ရှိသော်။ထိုအရပ်သို့ရောက်၏။ ပညောင်ရွက်၌အထူးထူးသောအရုပ်တို့ကိုမြင်၍အဘယ်သူပြုလုပ်သနည်းဟုမေးတော်မူ၏။ ဆွံ့ပြုလုပ်ကြောင်းကိုမင်းကြီးအားကြားလျှောက်၏။မင်းကြီးသည်လူဆွံ့ကိုခေါ်စေ၍။ အမောင်ဆွံ့။ ငါ၏ပုရောဟိတ်သည်အလွန်နှုတ်ကြမ်း၏။ မနေမနား တဖွားဖွားလျှင်များသောစကားရှိ၏။ သူတပါးတို့ပင် ပြောခွင့်မရရှိ၏၊ ထိုပုရောဟိတ်ကိုအသံဆိတ်အောင်သင်ပြုနိုင်ပါမည်လောဟုမေး၏။ အရှင်မင်းကြီး တပြည်မျှသောဆိတ်ချေးခြောက်ကိုရသော်တတ်နိုင်ပါအံ့ဟုဆို၏။ မင်းကြီးသည်ဆွံ့ဆိုတိုင်း ဖြစ်စေ၍ ပုရောဟိတ်နှင့်စကားပြောခွင့်ကိုပြုပြီးလျှင်အမှတ်မဲ့ဖြင့်ပစ်စေ၏။ဆွံ့သည်တင်းတိမ်တွင်း၌နေ၍ ပုရောဟိတ်စကားပြောသောအခါတခုတခုသောဆိတ်ချေးကိုခံတွင်းသို့ပစ်၏၊ ပုရောဟိတ်လည်းဆွံ့ပစ်သော ဆိတ်ချေးကို နှမ်းမှုန့်ကဲ့သို့မျို၏။ အလုံးစုံသောဆိတ်ချေးကုန်လေ၏၊ မင်းသည်ဆိတ်ချေးကုန်သည်ကိုသိလျှင်ဆရာသင်သည် အလွန် စကားပြောကျူး၏။ တပြည် မျှသောဆိတ်ချေးသည်သင်၏ခံတွင်းမှဝမ်းတွင်းသို့ဝင်၍သင်မသိ။သင်၏ဝမ်း၌ရှိသော ဆိတ်ချေးဖြင့် ရောဂါမရှိစေခြင်းငှါ ဝမ်းနုတ်လေလောဟုဆို၏။ ထိုပုရောဟိတ်သည်ထိုအခါမှစ၍ရှေးနည်းကဲ့သို့စကားမပြောဝံ့ရှိလေ၏။ မင်းကြီးလည်း ဤဆွံ့ကားငါ၏နားချမ်းသာခြင်းကိုပြုတတ်စွဟု။ ဆွံ့အားအခွန်တသိန်းထွက်သောလေးမျက်နှာတို့၌ လေးရွာတို့ကိုပေးတော်မူ၏။ ထိုအခါပညာရှိအမတ်သည်မင်းသို့ကပ်၍။အရှင်မင်းကြီး။ လောက၌အ

တတ်တို့ကို ပညာရှိတို့ သင်အပ်ကုန်၏။ ဆွဲ့သည့်ကျောက်စ ရစ်ပစ်အတတ်မျှဖြင့်လည်း၊ ဤစည်းစိမ်ကိုရလေ၏။ တပါးကုန် သောအတတ်တို့၏ အကျိုးအာနိသင်အပိုင်းအခြားသည့်ကားဆို ဘွယ်မရှိ။ ပဟုအတတ်၏ကျေးဇူးကိုဆိုလိုရကား။ ။သာရဒေါ သိပ္ပကံနာမ။အပိယာဒိသကိဒိသံ။ပဿအဇပ္ပဟာရေနု။လဒ္ဓါဂါ မာစတုဒ္ဒိသာ။ ။ဟူသောဂါထာကိုဆို၏။ ။ယာဒိသကံ။အ ကြင်သို့ သဘောရှိသော အတတ်၏ အကျိုး အာနိသင် သည်။ အတ္ထိ။ရှိ၏။ဤဒိသံ။ ဤသို့သဘောရှိသောအတတ်၏အကျိုးအာနိ သင်ကို။ပဿ။ရှုပါလော့။အဇပ္ပဟာရေနအပိ။ ဆိတ်ချေးပစ်အ တတ်မျှဖြင့်လည်း။စတုဒ္ဒိသာ။ အရပ်လေးမျက်နှာ၌ရှိကုန်သော။ ဂါမာ။ အခွန်တသိန်းထွက်ကုန်သောလေးရွာတို့ကို။ လဒ္ဓါ။ ရ အပ်ကုန်၏။သိပ္ပကံနာမ။ အတတ်မည်သည်ကား။ ဧဝါ။စင်စစ် သာရ။ကောင်းသလျှင်ကတည်း။ (။ဆွဲ့ဝတ္ထု။) ။ထို ကျောက်စရစ်ပစ်အတတ်တို့သည်ကား။ ချောက်ပတ်ရာယှဉ် အပ်သည့်ရှိသော်မင်္ဂလာမည်၏။ ။သိပ္ပကထာမင်္ဂလာပြီး၏။

---

## ၆။ ကိုယ်နှုတ်နှလုံးကိုဆုံးမခြင်း။ဝိနယ သုသိက္ခိတမင်္ဂလာ။

ကိုယ်နှုတ်နှလုံးကိုဆုံးမခြင်းမည်သည်ကား။ ရဟန်းတို့၏ ကိုယ်နှုတ်နှလုံးလူတို့၏ကိုယ်နှုတ်နှလုံးကို ဆုံးမခြင်းအားဖြင့်နှစ် ပါးအပြားရှိ၏။ ထိုနှစ်ပါးတို့တွင်အာပတ်ခုနစ်ပုံတို့သို့မရောက် ခြင်းသည့်ရဟန်းတို့၏ကိုယ်နှုတ်နှလုံးကိုဆုံးမခြင်းမည်၏။ ဖြစ် ညှုးခြင်းသို့မရောက်စေသဖြင့်၎င်း။ အကျင့်ကျေးဇူးကိုဖြစ်စေ သဖြင့်၎င်း။ ကောင်းစွာကျင့်အပ်သောထိုကိုယ်နှုတ်နှလုံးကိုဆုံး မခြင်းသည် စီးပွါးချမ်းသာကိုရွက်ဆောင်တတ်သောကြောင့် မင်္ဂလာမည်၏။ ထိုကိုယ်နှုတ်နှလုံးသုံးပါးတို့ကို စောင့်ရှောက် တတ်ခြင်း တည်းဟူသော ပဋိပတ် တရား၏ အကြောင်း ရင်း

သည်။ ဝိနည်းဒေသနာတော်ဟုဆိုအပ်သောဒေသနာတော်ကို
သင်အံလေ့ကျက် ဆောင်ရွက်မှတ်သား အားထုတ်လိမ္မာခြင်း
သည်း။ ထိုကြောင့်ဝိနယောစသုသိက္ခိတောဟူသောမင်္ဂလာပုဒ်
အရ။ လူရှင်ရဟန်းတို့သည်ဝိနည်းဒေသနာတော်ကိုကောင်းစွာ
သင်အံလေ့ကျက်ဆောင်ရွက်အားထုတ်ခြင်းသည်မင်္ဂလာမည်
၏။ ထိုစကားသည်မှန်၏။ ။ဒေသနာကံမှထမြောက်အပ်သည်
ရှိသော်ငြား။ ဒေသနာကြားအပ်ကုန်သည်ရှိသော်ငြား။ ဝိနည်းဒေ
သနာတော်ကို ကောင်းစွာသင်ကုန်ကြားကုန် အားထုတ်ရွက်
ဆောင်ကုန်သော်ငြား။ အာပတ်အစုတို့သည် အန္တရာယ်ကိုပြု
တတ်ကုန်သလျှင်ကတည်း။ ။ထိုအနက်ကိုအရိဋ္ဌသိက္ခာအဋ္ဌ
ကထာဖြင့်သိအပ်၏။ ။အကြင်တရားတို့သည် နတ်ရွာနိဗ္ဗာန်
တို့၏အန္တရာယ်ကို အကြင့်ကြောင့်ပြုတတ်ကုန်၏။ ထိုကြောင့်
ထိုတရားတို့သည် အန္တရာယိကမည်ကုန်၏။ ထိုအန္တရာယိက
တရားတို့သည်။ ကမ္မန္တရာယိက။ ကိလေသန္တရာယိက။ ဝိပါ
ကန္တရာယိက။ ဥပဝါဒန္တရာယိက။ အာဏာဝီတိက္ကမန္တရာယိက
တို့၏အစွမ်းအားဖြင့် ငါးပါးအပြားရှိကုန်၏။ ထိုငါးပါးတို့တွင်
ပဉ္စာနန္တရိယတရားတို့သည်ကမ္မန္တရာယိကမည်ကုန်၏။ ထိုအ
တူဘိက္ခုနီ ဒူသကကံ သည်လည်းကမ္မန္တရာယိကမည်၏။ ထို
ဘိက္ခုနီဒူသကကံသည်ကား။ မဂ်ဖိုလ်နိဗ္ဗာန်၏ အန္တရာယ်ကို
သာလျှင်ပြုတတ်၏။ နတ်ရွာ၏အန္တရာယ်ကိုကားမပြုတတ်။ နိ
ယတမိစ္ဆာဒိဋ္ဌိ တရားတို့သည် ကိလေသန္တရာယိက.မည်ကုန်
၏။ ပဏ္ဍုက်တိရစ္ဆာန်ဥဘတောဗျည်းတို့၏ ပဋိသန္ဓေတရား
ကိုယ်တို့သည် ဝိပါကန္တရာယိက မည်ကုန်၏။ အရိယာတို့ကို
စွပ်စွဲခြင်းတို့သည်ကားဥပဝါဒန္တရာယိကမည်ကုန်၏။ ထိုဥပဝါ
ဒန္တရာယိကတို့သည်ကား။ အကြင်မျှလောက်သောကာလပတ်
လုံးအရိယာတို့ကိုမကန်တော့ကုန်။ ထိုမျှလောက်သောကာလ
ပတ်လုံးသာလျှင်အန္တရာယိကဖြစ်ကုန်၏။ ကန်တော့ပြီးသည်မှ
နောက်၌ကားအန္တရာယိကမဖြစ်ကုန်။ လွန်ကျူးလိုသောစေတ

နာရှိသဖြင့် သင့်ကျန်သော အာပတ် တို့သည်ကား အာဏာ ဝိတိက္ကမ အန္တရာယိကမည်ကုန်၏။ ထိုအာပတ်တို့သည်လည်း အကြင်မျှလောက် ရဟန်း အဖြစ်ကိုလည်း ဝန်ခံ၏။ အာပတ်မှ မူလည်းမထ၊ ဒေသနာမူလည်းမကြား။ ထိုမျှလောက်သောကာလပတ်လုံးသာလျှင်အန္တရာယိကဖြစ်ကုန်၏။ ထိုကာလမှနောက်၌အန္တရာယိကမဖြစ်ကုန်။ ။အရိဋ္ဌသိက္ခာပုဒ်အဋ္ဌကထာ။ ။ဘိက္ခုနီဒူသကကံသည် နတ်ရွာ၏ အန္တရာယ်ကိုမပြုတတ်ဟူသောစကားကိုကား။ မိစ္ဆာစာရလက္ခဏာ မရှိသည်၏ အဖြစ်ကြောင့်ဆိုသတည်း။ ထိုစကားသည်မှန်၏။ ဘိက္ခုနီ၏ဓမ္မရက္ခိတအဖြစ်သည်မရှိ။ ဤစကားကိုလည်း ပကတိဘိက္ခုနီအစွမ်းအားဖြင့် အဋ္ဌကထာဆရာဆိုအပ်၏။ အရိယာဘိက္ခုနီမ၌ ဖြစ်သောဒူသကကံသည်ကား အပါယ်၌ ဖြစ်စေတတ် သည်သာလျှင်တည်း။ ဤအရာ၌နန္ဒလုလင်သည်သက်သေဖြစ်၏။ တနည်းကား။ နှစ်ယောက်ကုန်သောသူတို့၏တူသောဆန္ဒရှိသည်၏အစွမ်းအားဖြင့်နတ်ရွာ၏ အန္တရာယ်ကို မပြုတတ်သတည်း။ ပဋိပတ်ကို ဖျက်ဆီးသည်၏အဖြစ်ကြောင့် မဂ်ဖိုလ်နိဗ္ဗာန်၏ အန္တရာယ်ကိုကား ပြုတတ်သတည်း။ နှိပ်စက်၍ဆန္ဒမတူ ဖြစ်ရာ၌ကား နတ်ရွာ၏အန္တရာယ်ကိုပြုတတ်၏ဟူ၍ဆိုကုန်၏။ ။နိယတမိစ္ဆာဒိဋ္ဌိဟူသည်ကား။ နိယတအဖြစ်သို့ရောက်သော အဟေတုကဒိဋ္ဌိ၊ အကြိယဒိဋ္ဌိ၊ နတ္ထိကဒိဋ္ဌိတည်း။ ခပ်သိမ်းသောအဟိတ် ပဋိသန္ဓေ၏လည်း ဝိပါကန္တရာယိက ဖြစ်ခြင်း ကြောင့် ပဏ္ဍုက်အစရှိသော စကားသည်နိဒဿနမျှဖြစ်၏။ ရဟန်းအဖြစ်ကို ဝန်ခံ၏ ဆိုသော စကား သည် ပါရာဇိကသို့ ရောက်သော ရဟန်းကိုဆိုသည်။ အာပတ်မှ မထ ဆိုသည်ကား ပါရာဇိကမှကြွင်းသော ဂရုကအာပတ်သို့ ရောက် သော ရဟန်းကိုဆိုသည်။ ဒေသနာမကြားဆိုသည်ကား။ လဟုကအာပတ်သို့ရောက်သော ရဟန်းကိုဆိုသည်။ ။ထိုအဋ္ဌကထာ၏ ဋီကာ။ ။အရိယူပဝါဒကံသည် အကုသိုလ် ဖြစ်ပြား သော်

လည်း။ အပြစ်ကိုကြား၍ ကန်တော့သဖြင့် ပယောဂ သမုဋ္ဌာန်ကိုဖြစ်စေသည့်၏အစွမ်းကြောင့်။ အကျိုးမပေးတတ်သော သဘောရှိသည့်၏ အဖြစ်သို့ရောက်သော အဟောသိကံ ဖြစ်လေသကဲ့သို့။ ထိုအတူ အကြင် အကုသိုလ် ဖြစ်သော အာပတ္တာဓိကရဏသည်ရှိ၏။ ထိုအကုသိုလ်ဖြစ်သောအာပတ္တာဓိကရဏသည်လည်း ဒေသနာကြားအပ်သည်ရှိသော်။ ပရိဝါသ်နေခြင်းအစရှိသည်ဖြင့် ထမြောက်သည်ရှိသော်။ ပယောဂသမုဋ္ဌာန်ကိုဖြစ်စေအပ်သည့်၏အဖြစ်ကြောင့်။ အကျိုးပေးခြင်းသဘောမရှိသော အကုသိုလ်ကံ၏အဖြစ်ဖြင့် အန္တရာယ်ကိုမပြုတတ်။ ထိုကြောင့်လျှင်။ ။သာပတ္တိကဿ ဘိက္ခုနော နိရယံ ဝဒါမိတိရစ္ဆာနယောနိံ ဝါ။ ။ဟုအာပတ်ရှိသောရဟန်း၏သာလျှင်အပါယ်သွားသည့်၏အဖြစ်ကို ဘုရားဟောတော်မူ၏။ ။ရှုဒ္ဒ ဝါသမထေရ်ကမ္ဗောဒိကာ။ ။ထိုစကားဖြင့်ကားသာပဘုရားရှင်သာသနာတော်အတွင်းတပါးသောရဟန်းသည်အနှစ်နှစ်သောင်းပတ်လုံးတော၌ ကောင်းစွာတရားကို အားထုတ်သိမ်းဆည်း လျက်ဖြိန်းရွက်ကိုအမှတ်မဲ့ဖြတ်မိသော အပ္ပသာဝဇ္ဇဖြစ်သော ဒေသနာကံကိုဒေသနာမကြားမူ၍ ဗုဒ္ဓဘုရားပင့်သော ... ရေ တိရစ္ဆာနဂတိဖြစ်သောအမျိုး၌။ ဧရကပတ္တဟုအမည်ရှိသော နဂါးမင်း ဖြစ်လေသောဝတ္ထုကိုထောက်၍သိအပ်ကုန်၏။ ။ထိုနဂါးမင်းသည်လူ့ပြည်၌ဘုရားဖြစ်သည်ကိုအလွန်ကြားသိလို၍။ ။ကိံသုအဓိပတိရာဇာ။ကိံသုရာဇာရဇ္ဇိသာရော။ ကထံသုဝိရဇော ဟောတိ။ကထံဗာလောတိဝုစ္စတိ။ ။ကေနသုဝုယှတိဗာလော။ကထံနုဒတိပဏ္ဍိတော။ယောဂက္ခေမီကထံဟောတိ။ တံမေအက္ခာဟိပုစ္ဆိတော။ ။ဟူသောနှစ်ဂါထာကိုမိမိသွီးဖြစ်သောနဂါးမယ်ကိုသင်ကြား၍။ငါတို့မြတ်စွာဘုရားလက်ထက်တော်၌မိမိပါးချဉ်းပေါ်တွင်တင်ထား၍။ ။ကိံသု။အဘယ်၏။အဓိပတိအံရှင်သည်။ ရာဇာ။မင်းမည်သနည်း။ ကိံသု။ အသို့သဘောရှိသော။ရာဇာ။မင်းသည်။ရဇ္ဇိသာရော။ မြူဟူသောအရှင်ရှိသော

သူမည်သနည်း။ ကထံသု။အသို့သဘောရှိသောမင်းသည်။ ဝိရ ဇော။မြူကင်းသောသူမည်သည်။ဟောတိ။ဖြစ်သနည်း။ ကထံ။ အသို့သဘောရှိသောသူကို။ ဗာလော။သူမိုက်ဟူ၍။ ဝုစ္စတိ။ဆို အပ်သနည်း။ကေနသု။အဘယ်တရားသည်လျှင်။ ဗာလော။သူ မိုက်ကို။ ဝုယှတိ။မျှောအပ်သနည်း။ ကထံ။အဘယ်ဖြင့်။ ပဏ္ဍိ တော။ပညာရှိသည်။ နုဒတိ။မျှောတတ်သောတရားကိုဖျက်ဆီး သနည်း။ယောဂက္ခေမီ။ ယောဂကျုန်ခြင်းရှိသောသူမည်သည်။ ကထံဟောတိ။အသို့ဖြစ်သနည်း။ပုစ္ဆိတော။မေးအပ်သော။ တွံ။ သင်သည်။ မေငါ၏။ တံ။ ထိုအမေးကို။ အက္ခာဟိ။ ဖြေကြား လော့။ ။မိမိသို့ဖြစ်သောနဂါးမငယ်အား ဤနှစ်ဂါထာကိုသိ စေ၍။ ။ထိုအခါ ဥတ္တရလုလင်သည်မြတ်စွာဘုရားသင်ကြား တော်မူလိုက်သောနှစ်ဂါထာကို။ ထိုနဂါးမငယ်သိသောဂါထာ ၌အတုံ့သိလိုသည်ဖြစ်၍။ ။ဆဒွါရာဓိပတိရာဇာ။ ရဇ္ဇမာနော ရဇိသရော။အရဇ္ဇံဝိရဇောဟောတိ။ရဇ္ဇံဗာလောတိဝုစ္စတိ။ ။ ဩဃေနဝုယှတိဗာလော။ယောဂါနုဒတိပဏ္ဍိတော။သဗ္ဗယော ဂဝိသံယုတ္တော။ယောဂက္ခေမီတိဝုစ္စတိ။ ။ဟူသောဂါထာကို အတုံ့သိလေ၍။ ။ဆဒွါရာဓိပတိ။ ခြောက်ဒွါရတို့၏ အရှင် သည်။ရာဇာ။မင်းမည်၏။ ရဇ္ဇမာနော။ တပ်စွန်းသောသူသည်။ ရဇိသရော။မြူဟူသောအရှင်ရှိသောသူမည်၏။ အရဇ္ဇံ။ မတပ် စွန်းသောသူသည်။ဝိရဇော။မြူကင်းသောသူမည်သည်။ ဟော တိ။ဖြစ်၏။ရဇ္ဇံ။တပ်စွန်းသောသူကို။ဗာလော။သူမိုက်ဟူ၍။ ဝုစ္စ တိ။ဆိုအပ်၏။ဩဃေန။ဩဃသည်။ဗာလော။သူမိုက်ကို။ ဝုယှ တိ။မျှောအပ်၏။ ယောဂါ။ သမပဓာန်ဟူသောလုံ့လဖြင့်။ ပဏ္ဍိ တော။ပညာရှိသည်။နုဒတိ။ဩဃကိုဖျက်ဆီး၏။ သဗ္ဗယောဂဝိ သံယုတ္တော။ခပ်သိမ်းသောယောဂတို့နှင့်မယှဉ်သောသူကို။ယော ဂက္ခေမီတိ။ယောဂကျုန်ခြင်းရှိသောသူဟူ၍။ဝုစ္စတိ။ဆိုအပ်၏။ ။ နဂါးမင်းသည် ထိုစကားကို ကြား၍လျှင်။ ငါသည် ဘုရားရှင် တို့၏တခုသောအန္တရကပ်အကြားဖြစ်သောကာလပတ်လုံး။ ဤ

သို့သဘောရှိသောစကားကိုမကြားရစဘူး။ အချင်းတို့။ စင်စစ်လောကဝ္ဓဘုရားဖြစ်ပြီဟုနှစ်သက်သောစိတ်ရှိသည်ဖြစ်၍။ ရေမှတက်ပြီးလျှင်ဥတ္တရလုလင်နှင့်တကွဘုရားရှင်အထံတော်သို့သွားရောက်ရှိခိုးလျှက်။ပြိန်းရှုက်ကိုဖြတ်ခြင်းမျှကိုအမှီပြု၍တိရစ္ဆာန်မျိုး၌ဖြစ်သည်၏ အဖြစ်ကိုလျှောက်၍။ အရှင် ဘုရား အကျွန်ုပ်သည် ဘုရားရှင်တို့၏တခုသောအကြားပတ်လုံး လူ၏အဖြစ်ကိုလည်းမရ။ သူတော်ကောင်းတရားကိုနာရခြင်းလည်းမရ ဟုနားတော်လျှောက်၏။ ဘုရားရှင်သည်။မြတ်သောနဂါးမင်းကြီး။လူ၏အဖြစ်အစရှိသော အလွန်ငြိုငြင်သဖြင့်ရခဲသောတရားကိုဟောကြားတော်မူလို၍။ဓမ္မပဒဗုဒ္ဓဝဂ်၌။ ။ကိစ္ဆော မနုဿပဋိလာဘော။ကိစ္ဆံ မစ္စာနဇီဝိတံ။ ကိစ္ဆံ သဒ္ဓမ္မသဝနံ။ကိစ္ဆော ဗုဒ္ဓါနမုပ္ပါဒေါ။ ။ဟူသောဂါထာကိုဟောတော်မူ၏။ ။မနုဿပဋိလာဘော။လူအဖြစ်ကိုရခြင်းသည်။ ကိစ္ဆော။ငြိုငြင်ခဲယဉ်း၏။ မစ္စာနံ။သတ္တဝါတို့၏။ဇီဝိတံ။အသက်မွေးရခြင်းသည်။ကိစ္ဆံ။ငြိုငြင်ခဲယဉ်း၏။သဒ္ဓမ္မသဝနံ။သူတော်ကောင်းတို့၏တရားကိုနာရခြင်းကို။ ကိစ္ဆံ။ငြိုငြင်သဖြင့်ရအပ်၏။ ဗုဒ္ဓါနံ။ဘုရားတို့၏။ ဥပ္ပါဒေါ။ဖြစ်ခြင်းကို။ကိစ္ဆော။အလွန်ငြိုငြင်သဖြင့်ရအပ်၏။ ။ထိုဂါထာကိုနာရ၍နဂါးမင်းသည်။ထိုနေ့၌သောတာပတ္တိဖိုလ်ကိုရရာ၏။ ထိုသို့ရရာသော်လည်းတိရစ္ဆာန်ဖြစ်သောကြောင့်မရလေ။ထိုနဂါးမင်းသည်တပါးကျန်သောနဂါးတို့ကဲ့သို့ပင်သန္ဓေအရေကိုစွန့်ခြင်း။လွတ်လွတ်အိပ်ပျော်ခြင်းသို့သက်ခြင်း။ ဇာတ်တူ၌မေထုန်သေဝနဖြစ်ခြင်း။ဝတ်တော့ခြင်းဟူကျန်သောဌာနတို့၌မပယ်ပမ်းသော အဖြစ်သို့ရောက်၍ လုင်၏အသွင်ဖြင့်သာလျှင် ကျင်လည်ခြင်းငှါရ၏။ (။ဧရကပတ္တနဂါးမင်းဝတ္ထု။) ။ထိုကြောင့်အကြင်အကြင်အနည်းငယ်မျှ အပ္ပသာဝဇ္ဇဖြစ်သောအာပတ်ကိုမျှသော်လည်းလွန်ကျူးမိအံ့။ ထိုထိုအနည်းငယ်ဟူ၍မထေမဲ့မြင်မမှုမပျော့ ကောင်းစွာအနူမြူမျှသောအကျသိုလ်ကို

မြင်းမိုရ်တောင်ကြီးဘိစီးသည့်မှတ်ထင်၍ပညတ်တော်အတိုင်း ကျင့်အပ်ကုန်သလျှင်ကတည်း။

တနည်းကား။ ဝိနယောဟူသောပုဒ်၏အကျင့်ပညတ်ဝိနည်း ဟူသောအနက်ကို သင်အံလေ့ကျက် ဆောင်ရွက် မှတ်နာခြင်း သည် ပစ္စုပ္ပန်သံသရာအကျိုးစီးပွါး၏ ပြည့်စုံရာအကြောင်းဖြစ် ၍မင်္ဂလာမည်၏။ ထိုအနက်ကို။ ဝေဒေဟရသေ့အား တရေးမှ သောဒက်ပြန်၍။ ဂန္ဓာရရသေ့သည်ဟောကြားအပ်သောဂါထာ ကိုထောက်၍သိအပ်၏။ ။ဂါထာကား။ သတ္တနိပါတ် ဂန္ဓာ ရဇာတ်၌။ ။နော စေအဿ သကာဇုဒ္ဓိ။ ဝိနယောဝါသုသိက္ခိ တော။ ဝနေအန္ဓမဟိံသောဝ။ စရေယျဗဟုကောဇနော။ ။ ယသ္မာစပနိဓေကစ္စေ။အါစေရမှိသုသိက္ခိတာ။တသ္မာဝိနီတဝိန ယာ၊ မိရာစရန္တိသုသမာဟိတာ။ ။ဟူသောနှစ်ဂါထာတို့ကို ဆို၏။ ။သမ္မဝေဒေဟ။အချင်းဝေဒေဟ။ သတ္တာနံ။သတ္တဝါတို့ အား။ သကာဇုဒ္ဓိဝါ။ မိမိဥစ္စာဖြစ်သောဉာဏ်သည်ဇင်း။ ဝိန ယော။ အကျင့်ပညတ် ဟူသောဝိနည်းကို။ သုသိက္ခိတောဝါ။ ကောင်းစွာသင်ခြင်းသည်ဇင်း၊ နောစေအဿ။အကယ်၍မဖြစ် ငြားအံ့။ဗဟုကော။များစွာသော။ဇနော။လူသည်။ဝနေ။တော၌။ အန္ဓမဟိံသောဝ။ ကျွဲကန်းကဲ့သို့။ စရေယျ။ သွားရာ၏။ ။ယ သ္မာစပန။ အကြင်ကြောင့်ကား။ ဣဓလောကေ။ ဤလောက၌။ဧ ကစ္စေ။ အချို့ကုန်သောသူတို့သည်။ အာစေရမှိ။ ဆရာအထံ၌။ အာစာရပဏ္ဏတ္တိယာ။အကျင့်ပညတ်ကို။ သုသိက္ခိတာ။ကောင်း စွာ သင်၏။ တသ္မာ။ ထိုကြောင့်။ ဝိနီတဝိနယာ။ ဆရာ တို့ သည် ဆုံးမအပ်သော အကျင့်ပညတ် ဟူသော ဝိနည်း ရှိကုန် သော။ ဓိရာ။ ပညာရှိတို့သည်။ သုသမာဟိတာ။ တည်ကြည် သောစိတ်ရှိကုန်သည်ဖြစ်၍။စရန္တိ။သွားကုန်၏။ ။ထိုစကား ကိုကြား၍ ဝေဒေဟ ရသေ့သည် ဂန္ဓာရရသေ့၏ အဆုံးအမ၌ တည်၍။ ဂန္ဓာရရသေ့သည်ဟောသောနည်းဖြင့်ကသိုဏ်းပရိ ကံကိုပြု၍ဈာန်အဘိညာဉ်ကိုရလေ၏။ထိုနှစ်ယောက်ကုန်သော

ရသော့တို့သည် ဖြံ့ပွားပြည့်သို့ လားကုန်၏။ ။ထိုကြောင့်ဤ နည်းဒေသနာ၌ လိမ္မာကျွမ်းကျင် သိမြင်အားထုတ်ရခြင်းသည် မပျူပြန်သံသရာအကျိုးစီးပွါး များရာသည့်၏အဖြစ်ကြောင့်။ ပိနယောစသုသိက္ခိတောဟူသောကထာသည်မင်္ဂလာမည်၏။ ။ ဝိနယောစသုသိက္ခိတော ဟူသောမင်္ဂလာ၏ အနှစ်သာရကား ပြီး၏။

---

## ၁၀။ ကောင်းစွာဆိုအပ်သောစကား သုဘာသိတဝါစာမင်္ဂလာ။

ပဥ္စဟိဘိက္ခဝေ အင်္ဂေဟိသမန္နာဂတာ ဝါစာသုဘာသိတာ ဟောတိ နဒုဗ္ဘာသိတာ။ အနဝဇ္ဇာစ အနနုဝဇ္ဇာစဝိညူနံ။ကတမေဟိပဥ္စဟိ။ ကာလေနစ ဘာသိတာဟောတိ၊ သစ္စာစဘာသိတာ ဟောတိ၊သဏှာစဘာသိတာဟောတိ။ အတ္ထသဥှိတာစဘာသိတာဟောတိနဒုဗ္ဘာသိတာ ဟောတိ၊ ဣမေဟိခေါ ဘိက္ခဝေပဥ္စဟိအင်္ဂေဟိ။ လ။ဝိညူနံ။ ။ဟူ၍ပဥ္စနိပါတ်အင်္ဂုတ္တိုရ်စတုတ္ထပဏ္ဏာသ သုဘာသိတသုတ်၌ ဟောတော်မူအပ်၏။ ။ဘိက္ခဝေ။ရဟန်းတို့။ပဥ္စဟိ။ငါးပါးကုန်သော။အင်္ဂေဟိ။အကြောင်းတို့မှ။သမန္နာဂတာ။ကောင်းစွာသာသော။ဝါစာ။စကားသည်။ သုဘာသိတာ။ ကောင်းစွာဆိုအပ်သောစကားသည်။ ဟောတိ။ ဖြစ်၏။ဒုဗ္ဘာသိတာ။ မကောင်းသဖြင့်ဆိုအပ်သောစကားသည်။ နဟောတိ။မဖြစ်။ အနဝဇ္ဇာစ။ရာဂအစရှိသောအပြစ်ကင်းသည် လည်း။ဟောတိ။ဖြစ်၏။ဝိညူနံ။ပညာရှိတို့၏။အနနုဝဇ္ဇာစ။ ကဲ့ရဲ့ခြင်းမှလွတ်သည်လည်း။ ဟောတိ။ဖြစ်၏။ ကတမေဟိပဥ္စဟိ။ အဘယ် ငါးပါးကုန်သော အကြောင်း တို့မှ။ သမန္နာဂတာ။ ကောင်းစွာသာသော စကားသည်။ သုဘာသိတာ။ ကောင်းစွာ ဆိုအပ်သော စကားသည်။ ဟောတိ။ ဖြစ် သနည်း ဟူမူကား။ ကာလေန။သင့်တင့်သောကာလ၌။ ဘာသိတာစ။ ဆို

အပ်သည်လည်း။ ဟောတိ။ဖြစ်၏။ ဘာသိတာ။ ဆိုအပ်သောစကားသည်။ သစ္စာစ။မှန်သည်လည်း။ ဟောတိ။ဖြစ်၏။ ဘာသိတာ။ဆိုအပ်သောစကားသည်။သဏှာစ။ သိမ်မွေ့သည်လည်း။ ဟောတိ။ဖြစ်၏။ ဘာသိတာ။ဆိုအပ်သောစကားသည်။ အတ္ထသဉှိတာစ။အကျိုးနှင့်စပ်သည်လည်း။ဟောတိ။ဖြစ်၏။ဒုဗ္ဘာသိတာစ။ မကောင်းသဖြင့်ဆိုအပ်သည်လည်း။ နဟောတိ။မဖြစ်။ ဘိက္ခဝေ။ရဟန်းတို့၊ဣမေဟိခေါပဉ္စဟိအင်္ဂေဟိ။ ဤငါးပါးကုန်သောအကြောင်းတို့မှ။သမန္နာဂတာ။ ကောင်းစွာလာသော။ ဝါစာ။ စကားသည်။ သုဘာသိတာ။ ကောင်းစွာဆိုအပ်သောစကားသည်။ဟောတိ။ဖြစ်၏။ ဒုဗ္ဘာသိတာ။ မကောင်းသဖြင့်ဆိုအပ်သောစကားသည်။နဟောတိ။မဖြစ်။အနဝဇ္ဇာစ။ ရာဂအစရှိသောအပြစ်ကင်းသည်လည်း။ ဟောတိ။ဖြစ်၏။ ဝိညူနံ။ပညာရှိတို့၏။အနနုဝဇ္ဇာစ။ကဲ့ရဲ့ခြင်းမှလွတ်သည်လည်း။ ဟောတိ။ဖြစ်၏။ ။ဤသို့ပဉ္စအင်္ဂါတို့ရှိ၍ငါးပါးအပြားအားဖြင့် သုဘာသိတလက္ခဏာကိုဟောတော်မူအပ်၏။

သုတ္တနိပါတ်တတိယဝဂ်သုဘာသိတသုတ်၌ကား။ လေးပါးအပြားအားဖြင့်သုဘာသိတလက္ခဏာကိုဟောတော်မူအပ်၏။ ။ပါဠိကား။ ။စတူဟိဘိက္ခဝေအင်္ဂေဟိသမန္နာဂတာ ဝါစာသုဘာသိတာဟောတိ၊နဒုဗ္ဘာသိတာ။ အနဝဇ္ဇာစ အနနုဝဇ္ဇာစ ဝိညူနံ။ကတမေဟိစတူဟိ။ဣဓဘိက္ခဝေဘိက္ခု၊သုဘာသိတံယေဝဘာသတိနောဒုဗ္ဘာသိတံ။ ဓမ္မံယေဝဘာသတိ နောအဓမ္မံ။ ပိယံယေဝဘာသတိ နောအပ္ပိယံ။ သစ္စံယေဝဘာသတိ နောအလိကံ။ ဣမေဟိခေါဘိက္ခဝေစတူဟိအင်္ဂေဟိသမန္နာဂတာဝါစာသုဘာသိတာဟောတိ၊နဒုဗ္ဘာသိတာ။အနဝဇ္ဇာစအနနုဝဇ္ဇာစဝိညူနံ။ ။ဤသို့ဟောတော်မူ၍။တဘန်ထိုအနက်ကိုပြတတ်သောဂါထာကား။ ။သုဘာသိတံဥတ္တမမာဟုသန္တော။ ဓမ္မံဘဏေနာဓမ္မံ တံဒုတိယံ။ပိယံဘဏေနာပိယံတံတတိယံ။ သစ္စံဘဏေနာလိကံတံစတုတ္ထံ။ ။ဟူသောဂါထာကိုဟောတော်မူ

၍။ ။ဘိက္ခဝေ။ရဟန်းတို့။စတူဟိ။လေးပါးကုန်သော။ အင်္ဂေဟိ။ အကြောင်းတို့မှ။ သမန္နာဂတာ။ ကောင်းစွာလာသော။ တနည်းကား။စတူဟိ။လေးပါးကုန်သော။ အင်္ဂေဟိ။ အစိတ်တို့နှင့်။သမန္နာဂတာ။ပြည့်စုံသော။ ဝါစာ။စကားသည်။ သုဘာသိတာ။ ကောင်းစွာဆိုအပ်သောစကားသည်။ ဟောတိ။ ဖြစ်၏။ ဒုဗ္ဘာသိတာ။ မကောင်းသဖြင့် ဆိုအပ်သောစကားသည်။ န ဟောတိ။မဖြစ်။အနဝဇ္ဇာစ။ ရာဂအစရှိသော်အပြစ်မှကင်းသည်လည်း။ဟောတိ။ဖြစ်၏။ဝိညူနံ။ပညာရှိတို့၏။အနနုဝဇ္ဇာစ။ ကဲ့ရဲ့ခြင်းမှလွတ်သည်လည်း။ဟောတိ။ဖြစ်၏။ ကတမေဟိစတူဟိ။ အဘယ် လေးပါးကုန်သော အကြောင်းတို့မှ။ သမန္နာ ဂတာ။ ကောင်းစွာလာသောစကားသည်။ သုဘာသိတာ။ ကောင်းစွာဆိုအပ်သောစကားသည်။ ဟောတိ။ ဖြစ်သနည်း ဟူမူကား။ ဘိက္ခဝေ။တို့။ဣဓ။ဤသာသနာတော်၌။ ဘိက္ခု။ ရဟန်းသည်။ သုဘာသိတံယေဝ။ ကောင်းစွာ ဆိုအပ်သော စကားကို သာလျှင်။ဘာသတိ။ဆို၏။ဒုဗ္ဘာသိတံ။မကောင်းသဖြင့်ဆိုအပ်သောစကားကို။နောဘာသတိ။ မဆို။ဓမ္မံယေဝ။• တရားကိုသာလျှင်။ဘာသတိ။ဆို၏။အဓမ္မံ။တရားမှကင်းသောစကားကို။ နောဘာသတိ။ မဆို။ ပိယံယေဝ။ ချစ်အပ်ှ်သောစကားကိုသာလျှင်။ ဘာသတိ။ ဆို၏။အပ္ပိယံ။ ချစ်ခွယ်ကင်းသောဖရုသဝါစာကို။ နောဘာသတိ။မဆို။ သစ္စံယေဝ။ မှန်သောစကားကိုသာလျှင်။ ဘာသတိ။ဆို၏။အလိကံ။မမှန်သောစကားကို။ နောဘာသတိ။ မဆို။ဘိက္ခဝေ။တို့။ စတူဟိ။ လေးပါးကုန်သော။ ဣမေဟိခေါ် အင်္ဂေဟိ။ ဤအကြောင်းတို့မှ။ သမန္နာဂတာ။ ကောင်းစွာလာသော။တနည်းကား။ ဣမေဟိခေါ်အင်္ဂေဟိ။ဤအစိတ်တို့နှင့်။သမန္နာဂတာ။ပြည့်စုံသော။ ဝါစာ။စကားသည်။ သုဘာသိတာ။ ကောင်းစွာဆိုအပ်သောစကားသည်။ဟောတိ။ဖြစ်၏။ ဒုဗ္ဘာသိတာ။မကောင်းသဖြင့်ဆိုအပ်သောစကားသည်။ နဟောတိ။မဖြစ်။ အနဝဇ္ဇာစ။ ရာဂအစရှိသောအပြစ်မှ ကင်းသည်လည်း။

ပောတိ။၏။ ပိညူနံ။ ပညာရှိတို့၏။ အနဝဇ္ဇာဝ။ ကဲ့ရဲ့ခြင်းမှ လွတ်သည်လည်း။ ပောတိ။ဖြစ်၏။ ။သင်္ဘော။ ဘုရားအစရှိကုန်သောသူတော်ကောင်းတို့သည်။သုဘာသိတံ။ ကောင်းစွာဆိုအပ်သောစကားကို။ဥတ္တမံ။ မြတ်သောစကားဟူ၍။ အာဟု။ ဆိုကုန်ပြီ။ဓမ္မံ။တရားကို။ဘဏေ။ဆိုရာ၏။အဓမ္မံ။ တရားမှကင်းသောစကားကို။ နဘဏေ။ မဆိုရာ။ ဒုတိယံ။နှစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော။ တံဝစနံ။ ထိုစကားကို။ ဥတ္တမံ။မြတ်သောစကားဟူ၍။အာဟု။ဆိုကုန်ပြီ။ပိယံ။ ချစ်ဘွယ်သောစကားကို။ ဘဏေ။ ဆိုရာ၏။အပ္ပိယံ။ ချစ်ဘွယ်ကင်းသောဖရုသဝါစာကို။ နဘဏေ။မဆိုရာ။တတိယံ။သုံးခုတို့၏ ပြည့်ကြောင်းဖြစ်သော။ တံဝစနံ။ထိုစကားကို။ဥတ္တမံ။မြတ်သောစကားဟူ၍။အာဟု။ဆိုကုန်ပြီ။သစ္စံ။ မှန်သောစကားကို။ ဘဏေ။ ဆိုရာ၏။ အလိကံ။ မမှန်သောစကားကို။ နဘဏေ၊ မဆိုရာ။စတုတ္ထံ။ လေးခုတို့၏ ပြည့်ကြောင်းဖြစ်သော။ တံဝစနံ။ ထိုစကားကို။ ဥတ္တမံ။ မြတ်သောစကားဟူ၍။အာဟု။ဆိုကုန်ပြီ။

အင်္ဂါလေးပါးအစိတ်တို့ကိုဆိုအံ့။ ။သုဘာသိတဘာသနသမ်္ဂါတာ အပိ သုဏ ဝါစာ။ ဓမ္မ ဘာသန သမ်္ဂါတော အသမ္ဖပ္ပလာပေါ။ ပိယဘာသနသမ်္ဂါတာ အဖရုသဝါစာ။ သစ္စဘာသနသမ်္ဂါတော အမုသာဝါဒေါစ။ ဟူ၍လေးပါးအပြားရှိသောအစိတ်အင်္ဂါကို ဆိုအပ်၏။ ။သုဘာသိတဘာသနသမ်္ဂါတာ။ ကောင်းသော စကားကိုဆိုခြင်းဟု ဆိုအပ်သော။ အပိသုဏဝါစာ။ကုန်းတိုက်ခြင်းမှကင်းသော စကားလည်းတပါး။ဓမ္မဘာသနသမ်္ဂါတော။ တရားကိုဆိုခြင်းဟုဆိုအပ်သော။ အသမ္ဖပ္ပလာပေါ။အပြိန်အဖျင်းကို ဆိုခြင်းမှကင်းသော စကားလည်းတပါး။ ပိယဘာသနသမ်္ဂါတာ။ ချစ်ဘွယ်ကိုဆိုခြင်းဟုဆိုအပ်သော။အဖရုသဝါစာ။ ဖရုသဝါစာမှကင်းသော စကားလည်းတပါး။ သစ္စဘာသနသမ်္ဂါတော။ အမှန်ကိုဆိုခြင်းဟုဆိုအပ်သော။အမုသာဝါဒေါစ။မုသာဝါဒ၏ဆန့်ကျင်ဘက်စကား

လည်းတပါး။ဣတိ။ဤသို့။စတူဟိ။လေးပါးကုန်သော။အင်္ဂေဟိ၊ အစိတ်တို့နှင့်။သမန္နာဂတာ။ ပြည့်စုံသော။ဝါစာ။စကားသည်၊ သုဘာသိတာ။ကောင်းစွာဆိုအပ်သောစကားမည်၏။ ။ထို ကြောင့် မုသာဝါဒအစရှိသည်တို့၏ အပြစ်ကိုကောင်းစွာရှုသ ဖြင့်သုဘာသိတစကားကိုသာလျှင်ဆိုအပ်၏။ ။အဋ္ဌနိပါတ် အင်္ဂုတ္တိုရ်သမ္ဗဟူလသုတ်၌လာ၏။

တနည်းလည်း။ ဟိမဝန္တာ၌ပျော်ပါးသော ဝစီဒုစရိုက်လေး ပါးတို့ကို ကြောက်တတ်သောကိန္နရာဘိုမကိုဘမ်းယူ၍ မှုဆိုး သည်ကတတ်သိတတ်ကြောင်းနှင့် လျှောက်ကြား၍ ဗာရာဏ သီမင်းကြီးအားဆက်လေလျှင်။မင်းကြီးသည်။ ထိုကိန္နရာတို့၏ ကခြင်းသီခြင်းကို စေခိုင်းလေသည်ရှိသော်။ ကိန္နရာဘိုမတို့ သည်ဝစီဒုစရိုက်မှ ကြဉ်အပ်သော အကြောင်းရှိ၍ ဆိတ်ဆိတ် နေလေ၏။ ထိုအခါမင်းကြီးသည်အမျက်ထွက်၍ သတ်လေဟု စေခိုင်းလေလျှင်။ဤအခါသည်ကား။ သုဘာသိတပိယဝါစာတို့ ကိုဆိုထိုက်သောအခါတည်းဟုကြံ၍။ ။သတံသဟာသာနံ ဒုဗ္ဘာသိတာနံ။ ကလမ္ဗိ နာဂ္ဃတိ သုဘာသိတဿ။ ဒုဗ္ဘာသိတံ သင်္ကမာနော ကိလေသော။တသ္မာ တုဏှီ ကိမ္ပုရိသာ နဗာလျာ။ ဟူသောဂါထာကိုဆို၏။ ။မဟာရာဇ။ မြတ်သော မင်းကြီး။ ဒုဗ္ဘာသိတာနံ။ မကောင်းသဖြင့်ဆိုအပ်ကုန်သော စကားတို့၏။ သဟာသာနံသတံ။တသိန်းသည်။သုဘာသိတဿ။ကောင်းစွာ ဆိုအပ်သော စကား တခွန်း၏။ ကလမ္ဗိ။ တဆဲ့ ခြောက်စိတ် တွင်တစိတ်ကိုလည်း။ နာဂ္ဃတိ။မထိုက်။ကိမ္ပုရိသော။ ကိန္နရာ သည်။ဒုဗ္ဘာသိတံ။ မကောင်း သဖြင့် ဆိုအပ်သော စကားကို။ သင်္ကမာနော။ ရံခါဆိုမိရာ၏ဟု ရွံရှာနိုး၍။ကိလေသော။ပင်ပန်း ၏။တသ္မာ။ ထိုကြောင့်။ တုဏှီ။ဆိတ်ဆိတ်နေ၏။ဗာလျာ။ မိုက် သည်၏အဖြစ်ကြောင့်။ တုဏှီ။ဆိတ်ဆိတ်နေသည်။န။ မဟုတ်။ ဟူ၍ ကိန္နရာမက ဆိုလေ၏။ ။မင်းကြီး သည် ထိုစကားကို ကြားလျှင်အလွန်နှစ်သက်၍ကိန္နရာမအါးဟိမဝန္တာသို့ပို့သွတ်ကြ

ကုန်လော့။ကိန္နရာဘိုကိုသာသတ်လော့ဟုဆိုပြန်လေလျှင်။ကိန္နရာဘိုကလည်းထိုအတူ ဤအခါသည် ကောင်းသောစကားကိုဆိုသင့်သော အခါတည်းဟုကြံ၍။မြတ်သောမင်းကြီး၊ မြက်ကိုစားကုန်သောနွားတို့သည် မိုဃ်းကိုသာလျှင် ကိုးကွယ်ရာရှိ၏။ နွားနို့စသော အရသာတို့ဖြင့်အသက်မွေးကုန်သောသူတို့သည် နွားနို့သာလျှင်ကိုးကွယ်ရာရှိ၏။ ထိုအတူကျွန်ုပ်၏ ကိုးကွယ်ရာသည်လည်း အရှင်မင်းကြီး သာဖြစ်၏။ ကျွန်ုပ်ခင်ပွန်းမ၏ ကိုးကွယ်ရာသည်လည်းကျွန်ုပ်ပင်ဖြစ်၏။ ထို့ကြောင့်ကျွန်ုပ်သည် အသက် ရှည်သမျှအတို့၌ကား အချင်းချင်း မစွန့်ကြကုန်။ ထိုကြောင့်အကျွန်ုပ်ကိုသတ်ပြီးမှ။ ကိန္နရာမကိုဟိမဝန္တာသို့ပို့လွှတ်တော်မူပါဟုဆိုလျှင်နှစ်ခုသောကိန္နရာတို့ကိုပင် နှစ်သက်တော်မူ၍။ချေချို့နိုက်နေစေ၍ဟိမဝန္တာသို့ ယူဆောင်ပို့လေလော့ဟု။ မူဆိုးကိုစေလွှတ်လေ၏။ ။ထိုကြောင့်ချမ်းသာကိုအလိုရှိကုန်သောသူတော်ကောင်းတို့သည်။ဝစီဒုစရိုက်မှကြဉ်၍ သုဘာသိတပိယဝါစာကို ဆိုထိုက်ကုန်၏။ ထို သုဘာသိတ ပိယဝါစာသည်။ချမ်းသာစီးပွါးကို ဆောင်တတ်သောပစ္စုပ္ပန်သံသရာနှစ်ပါးကုန်သောအကျိုးတို့ကို ကောင်းစွာပေးတတ်သောကြောင့် မင်္ဂလာမည်၏။ ။သုဘာသိတာစယာဝါစာဟူသောမင်္ဂလာ၏ အနှစ်သာရကားပြီး၏။

———

## ၁၁။ အမိအဘကိုလုပ်ကျွေးခြင်း–မာတာပိတု ဥပဋ္ဌာနမင်္ဂလာ။

အမိ မည်သည်ကား ဖြစ်စေသော အမိရင်းတည်း။ အဘ မည်သည်ကား ဖြစ်စေသော အဘရင်းတည်း။ ထိုအမိအဘ နှစ်ယောက်တို့တွင်။ အမိသည်သာလျှင်ပြုနိုင်ခဲသော အမှုကိုပြုလေ့ရှိ၏။ထို့ကြောင့်အလုံးစုံကုန်သောဇမ္ဗူဒိပ်မင်းတို့အား အမိ

၏ပြုနိုင်ခဲ့သောအမှုကိုပြုတတ်သည်၏အဖြစ်ကိုပြသော သော
ကာပညာရှိရသေ့ဖြစ်၍ဖြစ်ဘူးသောမြတ်စွာဘုရားသည်။သတ္တ
တိနိပါတ်နန္ဒဇာတ်၌။ ။အာကာင်္ခမာနာပုတ္တဖလံ။ ဒေဝတာယ
နမဿတိ။နက္ခတ္တာနိစပုဇ္ဇတိ။ ဥတုသံဝစ္ဆရာနိစ၊ ။တဿ
ဥဘုသိန္နာတာယ။ ဟောတိဂဏ္ဍဿဝက္ကမော။ တေန္ဒဒေါဟဋ္ဌန္နွ
ဟောတိ။ သုဟာဒါတေနဝုစ္စတိ။ ။သံဝစ္ဆရံဝါဠိနံဝါ။ ပရိဟ
ရိတွာဝိဇာယတိ။တေနသာဇနယန္တီတိ။ဇနေတ္တိတေနဝုစ္စတိ။ ။
ထနက္ခိရေနဂိတေန။ အင်္ဂပါဝုရဏေနစ။ ရောဒန္တံပုတ္တံတော
သေတိ။ တောသေန္တီတေနဝုစ္စတိ။ ။တတောဝါတာတပေ
ဃောရေ။မမံကတွာဥဒိက္ခတိ။ဒါရကံအပ္ပဇာနန္တံ။ ပေါသေန္တီ
တေနဝုစ္စတိ။ ။ယဉ္စမာတုဓနံဟောတိ။ ယဉ္စဟောတိပိတုဓ
နံ။ဥဘယမ္ပေတဿဂေါပေတိ။ အပိပုတ္တဿမေသိယာ။ ။ဧ
ဝံပုတ္တအဒုံပုတ္တ။ဣတိမာတာဝိဟညတိ။ပမတ္တံပရဒါရေသုနိသိ
ထေပတ္တယောဗ္ဗနံ။ သာယံပုတ္တံအနာယန္တံ။ ဣတိမာတာဝိဟည
တိ။ ။ဟူကုန်သောဂါထာတို့ကိုဟောအပ်ကုန်၏။ ။ပုတ္တ
ဖလံ။သားဟူသောအကျိုးကို။အာကင်္ခမာနာ။ အလိုရှိသောအမိ
သည်။ ဒေဝတာယ။နတ်အား။နမဿတိ။ သားရပါစေသားဟု
ရှိခိုး၏။ နက္ခတ္တာနိစ။ အသက်ရှည်ခြင်းအသက်တိုခြင်းကိုမှတ်
ကြောင်းဖြစ်ကုန်သော နက္ခတ်တို့ကိုရင်း။ ဥတုသံဝစ္ဆရာနိစ။အ
သက်ရှည်ခြင်းအသက်တိုခြင်းကိုမှတ်ကြောင်းဖြစ်ကုန်သောဥ
တုနှစ်တို့ကိုရင်း။ပုစ္ဆတိ။မေး၏။ တဿာ။ထိုအမိအား။ဥတုသိ
ဥတုဖြစ်သည်ရှိသော်။နှာတာယ။ သန့်သက်သဖြင့်။ ဂဏ္ဍဿ။
သားငယ်၏၊အဝက္ကမော။အမိဝမ်းသို့သက်ခြင်းသည်။ဟောတိ။
ဖြစ်၏။တေန။ထိုဝမ်းသို့သက်သောသားငယ်ဖြင့်၊သာ။ ထိုအမိ
သည်။ဒေါဟဠိနီ။ချင်ခြင်းရှိသည်၊ ဟောတိ။ဖြစ်၏။ တေန။ထို
ကြောင့်။သာ။ထိုအမိကို။သုဟာဒါ။ကောင်း သောနှလုံးရှိ၏ဟူ၍
ဝုစ္စတိ။ ဆိုအပ်၏၊ ။သံဝစ္ဆရံဝါ။ တနှစ်ပတ်လုံးရင်း။
ဩနံဝါ။ တနှစ် အောက် ယုတ်သော ကာလ ပတ်လုံးရင်း။

ပရိဟရိတွာ။ ဝမ်းဖြင့်လွယ်၍။ဝိဇာယတိ။ဖွားတတ်၏။ တေန။
ထိုကြောင့်။သာ။ထိုအမိကို။ဇနယန္တီတိ။သားကိုဖြစ်စေတတ်၏
ဟူ၍၎င်း။ဇနေတ္တိ။ မွေးဖွားတတ်၏ ဟူ၍၎င်း။ ဝုစ္စတိ။ ဆိုအပ်
၏။ ။ရောဒန္တံ။ငိုသော။ပုတ္တံ။သားကို။ထနက္ခီရေန။နို့ရည်ဖြင့်
၎င်း။ဂီတေန။သီခြင်းဖြင့်၎င်း။အင်္ဂပါဝုရဏေနစ။ နို့နှစ်ဘက်တို့
၏အကြားကိုယ်ဟူသောရုံလျှားဖြင့်၎င်း။တောသေတိ။ နှစ်သိမ့်
စေတတ်၏။တေန။ထိုကြောင့်။ တောသေန္တီ။ သားကိုနှစ်သိမ့်
စေတတ်၏ဟူ၍။ဝုစ္စတိ။ဆိုအပ်၏။ ။တတော။ ထို့နောင်မှ။
ဝါတာတပေ။ လေနေပူသည်။ဃောရေ။ပြင်းထန်လတ်သော်။
အပ္ပဇာနန္တံ။မလိမ္မာသေးသော။ဒါရကံ၊ သူငယ်ကို။ မမံကတွာ။
ရုံမက်သောအခြင်းအရာကိုပြု၍။ဥဒိက္ခတိ။ကြည့်တတ်၏။ တေ
န။ထိုကြောင့်။ပေါသေန္တိ။ကြီးပွားစေတတ်၏ဟူ၍။ ဝုစ္စတိ။ဆို
အပ်၏။ ။ယဉ္စမာတုဓနံ။အကြင်အမိဥစ္စာသည်၎င်း။ယဉ္စပိတု
ဓနံ။ အကြင်အဘဥစ္စာသည်၎င်း။ အတ္ထိ။ရှိ၏။ ဥဘယမ္ပိ။နှစ်ပါး
သောထိုဥစ္စာကိုလည်း။မေပုတ္တကဿ။ငါ့သားအို။ အပိသိယာ။
ဖြစ်တန်ရာ၏ဟု။ဧတဿ။ထိုသား၏။အတ္ထာယ။ကျိုးငှါ။ဂေါပေ
တိ။သုံစေ၏။ပုတ္တ။ချစ်သား။ရာဇကုလာဒီသု။မင်းမျိုးအစရှိသည်
တို့၌။ဧဝံ။ဤသို့မမေ့မလျော့။ဟောဟိ။ဖြစ်လော့။ပုတ္တ။ချစ်သား။
အဒုံ။ဤအမှုကို။ကရောဟိ။ပြုလော့။ဣတိ။ ဤသို့သွန်သင်ဆုံးမ၍။
မာတာ။အမိသည်။ဝိဟညတိ။ပင်ပန်း၏။ ပတ္တယောဗ္ဗနံ။အရွယ်
သို့ရောက်သော။ ပုတ္တံ။သားကို။နိသိထေ။ ညဉ့်နက်သန်းခေါင်၌။
ပရဒါရေသု။သူ့မယားတို့၌။ပမတ္တံ။မေ့လျော့ခြင်းကြောင့်။ သာ
ယံ။ညဉ့်ဦးယံ၌။အနာယန္တံ။မလာသည်ကို။ဥ တွါ။သိ၍။ဣတိ။ဤ
သို့မျက်ရည်ပြည့်ကုန်သောမျက်စိတို့ဖြင့်မျှော်လျက်။ မာတာ။
အမိသည်။ဝိဟညတိ။ပင်ပန်း၏။ ။

ထိုမိဘ နှစ်ယောက် တို့ကို ဗြဟ္မာဟူ၍၎င်း။ လက်ဦးနတ်၊
လက်ဦးဆရာဟူ၍၎င်း။ အဝေးမှ ဆောင်၍ လှူအပ်သော အလှူ
ဝတ္ထုကိုခံထိုက်၏ဟူ၍၎င်း။ဆိုအပ်ကုန်၏။မဟာဗြဟ္မာတို့သည်

မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာဟူကုန်သော၊ လေးပါး ကုန်သော ဘာဝနာတို့ကို မပွါးကုန်သကဲ့သို့။ ထိုအတူမိဘတို့ သည်။သါးတို့၌မေတ္တာ၊ကရုဏာ၊မုဒိတာ၊ဥပေက္ခါဟူကုန်သော လေးပါး ကုန်သော ဘာဝနာ တို့ကို မပွါးကုန်။ ထို ကြောင့်။ မာတာပိတရော။မိဘတို့ကို။ဗြဟ္မာတိ။ ဗြဟ္မာမည်ကုန်၏ဟူ၍ ၎င်း။ပုဗ္ဗါစရိယာတိ။လက်ဦးဆရာမည်ကုန်၏ဟူ၍၎င်း။ဝုစ္စရေ။ ဆိုအပ်ကုန်၏။မာတာပိတရော။မိဘတို့သည်။ပုတ္တာနံ။ သားတို့ ၏။ အာဟုနေယျာစ။ အဝေးမှဆောင်၍ ပူဇော်အပ်သော အပူ ဇော်ကိုခံထိုက်ကုန်သည်လည်း။ဟောန္တိ။ဖြစ်ကုန်၏။ ပဇာယ။ သားကို။အနုကမ္ပကာစ။စောင့်ရှောက် တတ်ကုန်သည်လည်း။ ဟောန္တိ။ဖြစ်ကုန်၏။ ။ထိုစကားသည်မှန်၏မိဘတို့သည်။ မိမိအသက်ကို စွန့်၍၎င်း။ မိမိတို့၏အလုံးရုံသော ဥစ္စာကိုစွန့်၍ ၎င်း။ မိမိသားကိုစောင့်ရှောက်တတ်ကုန်၏။ အကယ်၍ဖွားကာ တည်းကပင်မွေးမြူ စောင့်ရှောက်ခြင်း မပြုက။ ထိုသားသည် လောက၌အသက်မရှည်ရာ။ ထိုကြောင့်၊ မိဘတို့သည်သားတို့ အားလောကကိုငြင်း။လောက၏အစီးအပွါးကို၎င်း။လောကုတ္တရာ ၏အကျိုးစီးပွါးကို၎င်း။ပေးဖြသည်မည်၏။ထိုကြောင့်၊ မိဘတို့ ဂုဏ်ကျေးဇူးကို လောကပရိယာယ်တို့ဖြင့်အတု မရှိအောင်ကြံ ဆောင်ကျေးမွေး ကျေးဇူးဆပ်သော်လည်း အနန္တ ကျေးဇူးရှိ သောကြောင့် မကျေနိုင်ရာ။ ထိုကြောင့်။ ဒုကနိပါတ်အင်္ဂုတ္တိုရ် မာတာပိတုဂုဏသုတ်၌။ ။ဒွိန္နာဟံဘိက္ခဝေနသုကရံပဋိကာရံ ဝဒါမိ။ကတမေသံဒွိန္နံ။မာတုစပိတုစ။ဧကေနဘိက္ခဝေအံသေန မာတရံပရိဟရေယျ။ဧကေနအံသေနပိတရံပရိဟရေယျ။ဝဿ သတာယုကောဝဿသတဇီဝီ။သောစ နေသံဥစ္ဆာဒနပရိမဒ္ဒ နနှာပနသမ္ဗာဟနေန။ တေစတတ္ထေဝမုတ္တကရီသံ ကရေယျုံ။ နတွေဝဘိက္ခဝေ မာတာပိတူနံ ကတံဝါဟောတိ ပဋိကတံဝါ။ တံကိံသဟေတု။ဗဟုကာရာဘိက္ခဝေမာတာပိတရော ပုတ္တာ နံအာပါဒကာ ပေါသကာ။ ဣမဿ လောကဿ ဒဿေတာ။

ရော။ယောစခေါဘိက္ခဝေ မာတာပိတရော အသဒ္ဓေ သဒ္ဓါသမ္ပ
ဒါယ သမာဒပေတိ နိဝေသေတိ ပတိဋ္ဌာပေတိ။ ဒုဿီလေ သီ
လသမ္ပဒါယ။မစ္ဆရိနေ စာဂသမ္ပဒါယ။ ဒုပ္ပညေ ပညာသမ္ပဒါယ
သမာဒပေတိ နိဝေသေတိ ပတိဋ္ဌာပေတိ။ ဧတ္တာဝတာ ခေါ
ဘိက္ခဝေ မာတာပိတုန္နံ ကတဉ္စဟောတိ ပဋိကတဉ္စ။ ။ဟူ၍
ဟောတော်မူ၏။ ။ဘိက္ခဝေ။ရဟန်းတို့။ဒွိန္နံ။ နှစ်ယောက်ကုန်
သောသူတို့၏။သုကရံပဋိကာရံ။ ကျေးဇူးကိုဆပ်လွယ်၏ဟူ၍။
အဟံနဝဒါမိ။ငါဘုရားဟောတော်မမူ။ ကတမေသံဒွိန္နံ။အဘယ်
နှစ်ယောက်ကုန်သောသူတို့၏။ ပဋိကာရံ။ ကျေးဇူးကိုဆပ်ခြင်း
သည်။နသုကရံ။မလွယ်သနည်းဟူမူကား။မာတုစ။ အမိ၏ငှင်း။
ပိတုစ။အဘ၏ငှင်း။ပဋိကာရံ။ ကျေးဇူးကိုဆပ်ခြင်းသည်။ နသု
ကရံ။မလွယ်။ဘိက္ခဝေ။တို့။ဝဿသတာယုကော။အသက် တ
ရာတန်း၌ဖြစ်သော။ ဝဿသတဇီဝီ။ အနှစ်တရာ အသက်ရှည်
သောသူသည်။မာတရံ။အမိကို။ဧကေနအံသကူဋေန။ တဘက်
သောလက်ျာပခုံးစွန်းဖြင့်။ ပရိဟရေယျ။ ဆောင်ရာ၏။ပိတရံ။
အဘကို။ ဧကေနအံသကူဋေန။ တဘက်သောလက်ဝဲပခုံးစွန်း
ဖြင့်။ပရိဟရေယျ။ ဆောင်ရာ၏။သောစ။ ထိုသားသည်လည်း။
နေသံ။ထိုမိဘတို့အား။ဥစ္ဆာဒနပရိမဒ္ဒနနှာပနသမ္ဗာဟနေန၊ အ
မွှေးအကြိုင်လိမ်းကျံခြင်းဆုပ်နယ်ခြင်း ရေပူရေချမ်းတို့ဖြင့်ချိုး
ခြင်းလက်ခြေအစရှိသည်တို့ကိုရှေ့ရှုငင်ခြင်းထက်ဝန်းကျင်ငင်
ခြင်းဖြင့်။ဥပဋ္ဌာနံ။လုပ်ကျွေးခြင်းကို။ကရေယျ။ပြုရာ၏။ တေစ၊
ထိုမိဘတို့သည်လည်း။ တတ္ထေဝ။ ထိုပခုံးစွန်းတို့၌သာလျှင်။
နိသိန္နာ။ နေကုန်လျက်။ မုတ္တကရီသံ။ ကျင်ငယ် ကျင်ကြီးကို။
ကရေယျုံ။ စွန့်ကုန်ရာ၏။ဘိက္ခဝေ။တို့။ ဧဝံကရောန္တေနာပိ။ဤ
သို့ပြုသောသူသည်လည်း။ မာတာပိတုန္နံ။မိဘတို့အား။ ကတံ
ဝါ။ကျေးဇူးပြုသည်ငှင်း။ ပဋိကတံဝါ။ ကျေးဇူးဆပ်သည်ငှင်း။
နတွေဝဟောတိ။မဖြစ်သလျှင်ကတည်း။ဘိက္ခဝေ။တို့။ မာတာ
ပိတရော။မိဘတို့ကို။ဗဟုကာရာ။အလွန်များသော။ဍူမိကသာ

စမဟာပထဝိယာ။ဤမြေကြီး၌။ ဣဿရာဓိပစ္စေ။ အစိုးရသည့်၏အဖြစ်အကြီး၏အဖြစ်ဟူသော။ ရဇ္ဇေ ။စကြဝတေးမင်း၏အဖြစ်၌။ ပတိဋ္ဌာပေယျ။ တည်စေရာ၏။ ဘိက္ခဝေ။တို့။ ဇိဝံပတိဋ္ဌာပေန္တေနာပိ။ ဤသို့စကြဝတေးမင်း၏အဖြစ်၌တည်စေသော သူသည်လည်း။မာတာပိတူနံ။အမိအဘတို့အား။ကတံ၀ါ။ကျေးဇူးပြုသည့်ရင်း။ပဋိကတံ၀ါ။ ကျေးဇူးဆပ်သည့်ရင်း။နတွေ၀ဟောတိ။မဖြစ်သလျှင်ကတည်း။ တံသံ၀တ္တနံ။ ထိုသို့ဖြစ်ခြင်းသည်။ ကိံသပဟေတု။အဘယ်အကြောင်းကြောင့်ဟူမူကား။ဘိက္ခဝေ။တို့။ မာတာ ပိတရော။ မိဘ တို့သည်။ ပုတ္တာနံ။ သားတို့အား။ ဗဟုကာရာ။ကျေးဇူးများကုန်၏။အာပါဒကာ။အသက်ကိုစောင့်တတ်ကုန်၏။ ပေါသကာ။ ရင်နို့ရည်ကို တိုက်၍ ကြီးပွါးစေတတ်ကုန်၏။ဣမဿလောကဿ။ဤလောကကို။ ဒဿေတာရော။ ပြတတ်ကုန်၏။ တသ္မာ။ ထို့ကြောင့်။ ဟောတိ။ ဖြစ်၏။ ဘိက္ခဝေ။တို့။ ယောစခေါ။ အကြင်သားသည်ကား။ အသဒ္ဓေ။ သဒ္ဓါတရားမရှိကုန်သော။ မာတာပိတရော။ မိဘတို့ကို။သဒ္ဓါသမ္ပဒါယ၊သဒ္ဓါတရား၏ပြည့်စုံခြင်း၌။ သမာဒပေတိ။ ကောင်းစွာထား၏။ နိဝေသေတိ။ သွင်း၏။ပတိဋ္ဌာပေတိ။ တည်စေ၏။ ဒုဿီလေ။ သီလမရှိ ကုန်သော မိဘတို့ကို။ သီလသမ္ပဒါယ။ သီလ၏ ပြည့်စုံခြင်း၌။ မစ္ဆရိနော။ ဝန်တိုကုန်သောမိဘတို့ကို။ စာဂသမ္ပဒါယ။ စွန့်ကြဲခြင်း၏ပြည့်စုံခြင်း၌။ဒုပ္ပညေ။ ပညာမရှိကုန်သောမိဘတို့ကို။ ပညာသမ္ပဒါယ။ ပညာ၏ ပြည့်စုံခြင်း၌။ သမာဒပေတိ။ ကောင်းစွာထား၏။ နိဝေသေတိ။ သွင်း၏။ပတိဋ္ဌာပေတိ။ တည်စေ၏။ ဘိက္ခဝေ။တို့။ တေန။ ထိုသားသည်။ ဧတ္တာဝတာခေါ။ ဤမျှအတိုင်း အရှည်ဖြင့်လျှင်။ မာတာပိတူနံ။ မိဘတို့အား။ ကတဉ္စ။ ကျေးဇူးပြုသည့်ရင်း။ ပဋိကတဉ္စ။ကျေးဇူးဆပ်သည့်ရင်း။ ဟောတိ။ ဖြစ်၏။

။ဤသုတ်၌ လောကီလောကုတ္တရာ ရောနှော ကုန်သော သဒ္ဓါ၊ သီလ၊ စာဂ၊ ပညာတို့ကိုဟောတော်မူအပ်ကုန်၏။ အရှင်သာရိပုတ္တရာနှင့်တူသော

ရဟန်းသည်သာလျှင် မိဘတို့ကို ကျေးဇူးဆပ်သည်မည်၏။ ။ ထိုအင်္ဂုတ္တိုရ်ပါဠိတော်၏အဋ္ဌကထာ။

လုပ်ကျွေးခြင်းမည်သည်ကားရှိခိုးသဖြင့်၎င်း။ ပူဇော်သက္ကာရဖြင့်၎င်း။ လုပ်ကျွေးခြင်းမည်သတည်း။ထိုကြောင့် သဖြုဟမ္မက သုတ်၌၎င်း။သောဏနန္ဒဇာတ်၌၎င်း။ ။တသ္မာဟိနေနုမသေသ ယျ။ သက္ကရေယျစပဏ္ဍိတော။ အန္နေနအထောပါနေန။ ဝတ္ထေ နသယနေနစ။ ။ဥစ္ဆာဒနေနန္ဟာနေန။ပါဒါနံဓောဝနေနစ။ ။ ဟူ၍ဆိုအပ်၏။ ။တသ္မာဟိ။ထိုကြောင့်လျှင်။ပဏ္ဍိတော။ပညာ ရှိသောသူသည်။ နေ။ ထိုမိဘတို့ကို။နမသေယျ။ ညွှန်ကြားအနီး ဖြစ်သောအရပ်သို့သွား၍ငါ၏မြတ်သောကောင်းမှု၏ လယ်မြေ တည်းဟုရှိခိုးခြင်းကိုလည်းပြုရာ၏။ အန္နေနစ။ ယာဂုထမင်းခဲ ဘွယ်ဖြင့်၎င်း။ အထော။ထိုမှ။ ပါနေနစ။ ရေပူရေချမ်းဖြင့်၎င်း။ ဝတ္ထေနစ။အဝတ်ဖြင့်၎င်း။ သယနေနစ၊ အိပ်ရာနေရာဖြင့်၎င်း။ ဥစ္ဆာဒနေနစ။ အမွှေးအကြိုင်လိမ်းကျံခြင်းဖြင့်၎င်း။န္ဟာနေနစ။ရေ ပူရေချမ်းချိုးခြင်းဖြင့်၎င်း။ ပါဒါနံ။ခြေတို့ကို။ဓောဝနေနစ။ ရေပူ ရေချမ်းဆေးခြင်းဖြင့်၎င်း။သက္ကရေယျစ။ ပူဇော်ခြင်းကိုလည်း ပြုရာ၏။ ။လူတို့သည်ရှိခိုးသဖြင့်၎င်း။ ပူဇော်သက္ကာရဖြင့်၎င်း။ မိဘတို့ကို လုပ်ကျွေးအပ်ကုန်၏။ ရဟန်းတို့ကားရှိခိုးခြင်း၌သာမ ထိုက်ပူဇော်သက္ကာရဖြင့်သာလျှင်မိဘတို့ကိုလုပ်ကျွေးအပ်ကုန် ၏။ ထိုစကားသည်မှန်၏။ ရဟန်းသည်လည်း မိဘတို့ကိုလုပ် ကျွေးရာ၌အကြင်ကြောင့်အပြစ်မရှိ။ ထိုကြောင့် မိဘတို့ကိုလုပ် ကျွေးအပ်ကုန်သလျှင်ကတည်း။ အကာယ်၍ အမိကိုကျောင်းသို့ ဆောင်၍ လုပ်ကျွေးသည်ဖြစ်အံ့။ ကိုယ်ကိုမသုံးသပ်သဖြင့် အ လုံးစုံသောပရိကံကိုပြုအပ်၏။ခဲဘွယ်ဘောဇဉ်ကို မိမိလက်ဖြင့် ပေးအပ်၏။ အဘကိုကားသာမဏေကို လုပ်ကျွေးသကဲ့သို့မိမိ လက်ဖြင့် ရေချိုးခြင်း လက်ခြေတို့ကိုဆန့်ခြင်းငင်ခြင်း အစရှိ သည်တို့ကိုပြု၍ လုပ်ကျွေးအပ်၏။ ထိုစကား၌ဤမိန်းမသည် ငါ ၏အမိတည်းဟု တဏှာကိုမှီသော ချစ်ခြင်းဖြင့် သုံးသပ်သော

ရဟာန်းအားနက္ကာ၌အာပတ်သင့်သလျှင်ကတည်းဟုသိစိမ့်သော ဌာကိုယ်ကိုမသုံးသပ်သဖြင့် ဟူသောစကားကိုမိန့်အပ်၏။ ။ မာတာပိတု ဥပဋ္ဌာန်ဟူသောမင်္ဂလာ၏အနှစ်သာရကားပြီး၏။

---

## ၁၂။ သားမယားကိုသင်္ဂြိုဟ်ထောက်ပံ့ခြင်း။ ပုတ္တဒါရသင်္ဂဟမင်္ဂလာ။

ထိုမင်္ဂလာ၌။ ပုတ္တဟူသောပါဌ်ဖြင့်။ သားယောကျ်ားသားမိန်းမကိုယူအပ်၏။ ဒါရဟူသောပါဌ်ဖြင့်မယားကိုယူအပ်၏။ ထိုနှစ်ပါးတို့တွင်သားဟူသည်ကား။ ဤလောက၌အတိဇာတ။ အနုဇာတ။ အဝဇာတဟူသောသားသုံးယောက်ရှိ၏။ ထိုသုံးယောက်သော သားတို့တွင် အကြင်သားသည်ကား မိဘတို့ ကျင့်သုံးစောင့်ရှောက်သော တရားထက် လွန်ကဲသော အကျင့်တရားရှိ၏၊ ထိုသားသည် အတိဇာတသားမည်၏။ အကြင်သားသည် မိဘတို့ ကျင့်သုံးစောင့်ရှောက်သော တရားသို့ အစဉ် မပျက်လိုက်နာစောင့်ရှောက်၏၊ ထိုသားသည် အနုဇာတသားမည်၏။ အကြင်သားသည် မိဘတို့ကျင့်သုံးစောင့်ရှောက်သော တရားသို့မလိုက်မနာယုတ်မာသော တရားကိုသာကျင့်ကြံ၏။ ထိုသားသည် အဝဇာတသားမည်၏။

ဒါရဟူသော ပါဌ်၏အရ။ မယားတို့မည် သည်ကား နှစ်ကျိပ်ရှိကုန်၏။ ထိုနှစ်ကျိပ်ကုန်သောမယားတို့ကို။ မာတုရက္ခိတမိန်းမ။ ပိတုရက္ခိတမိန်းမ။ မာတာပိတု ရက္ခိတမိန်းမ။ ဘာတုရက္ခိတမိန်းမ။ ဘဂိနိရက္ခိတမိန်းမ။ ဉာတိရက္ခိတမိန်းမ။ ဂေါတ္တရက္ခိတမိန်းမ။ ဓမ္မရက္ခိတမိန်းမ။ သာရက္ခမိန်းမ။ သပရိဒဏ္ဍမိန်းမ။ ဓနက္ကီတမယား။ ဆန္ဒဝါသိနီ မယား။ ဘောဂဝါသိနီ မယား။ ပဋဝါသိနီမယား။ ဩဒပတ္တကိနီမယား။ ဩဘတစုမ္ဗဋမယား။ ဒါသီဘရိယာမယား။ ကမ္မကာရီဘရိယာမယား။ ဓဇာဟဋမယား။ မုဟုတ္တိကမယား။ ဟူ၍သဒ္ဒရိဂ္ဂဝိဘင်း၌ ဟော

တော်မူအပ်ကုန်၏၊ ထို ၂ ကျိပ် တို့တွင်ယောကျ်ားနှင့် သံဝါသမ ပြုရအောင် အမိစောင့်သောမိန်းမသည် မာတုရက္ခိတမည်၏။ ထိုအတူအဘစောင့်သောမိန်းမသည်ပိတုရက္ခိတမည်၏။ အမိအဘနှစ်ပါးစောင့်သောမိန်းမသည်။ မာတာပိတုရက္ခိတမည်၏။ မောင်စောင့်သော မိန်းမသည်။ ဘာတုရက္ခိတမည်၏။ အစ်မ ညီမစောင့်သောမိန်းမသည်၊ ဘဂိနိရက္ခိတမည်၏၊ အမျိုးစောင့်သောမိန်းမသည်။ ဉာတိရက္ခိတမည်၏။ တူသောအမျိုးအနွယ်စောင့်ရှောက်သောမိန်းမသည်။ ဂေါတ္တ ရက္ခိတမည်၏။ တဦးသောဆရာကိုရည်၍ ရဟန်းပြုကုန်သော သီတင်းသုံးဘော်တို့သည်ဇင်း။ ပန်းသည်အစရှိသော တခုသောဂိုဏ်း၌အကျုံးဝင်ကုန်သော သီတင်းသုံး ဘော်တို့သည် ကောင်းစွာ စောင့်အပ်သောမိန်းမသည်။ ဓမ္မရက္ခိတမည်၏။ လင်ရှိသောမိန်းမသည်။ သာရက္ခာမည်၏။ အကြင်မိန်းမသို့သွားရာ၌ မင်းအစိုးရ သည် ဒဏ်ထားအပ်၏။ ထိုမိန်းမသည်သပရိဒဏ္ဍာမည်၏။ အနည်းငယ်သောဥစ္စာများသောဥစ္စာဖြင့်ဝယ်သောမယားသည်။ ဓနက္ကီတ မည်၏။ ယောကျ်ားမိန်းမ နှစ်ယောက်ချစ်ကြသဖြင့် နေသော မယားသည်။ ဆန္ဒဝါသိနီမည်၏။ စည်းစိမ်ပေးသောကြောင့်နေ သောမယားသည်။ ဘောဂဝါသိနီမည်၏။ ဤဘောဂဝါသိနီဟူ သော အမည်သည်ကား။ ဆုံကျဉ်ပွေ့ အစရှိသော အိမ်၏အ ဆောက်အဦကိုရ၍ မယား၏အဖြစ်သို့ ရောက်သော ဇနပုဒ်သူ မိန်းမ၏အမည်တည်း။ အဝတ်ပေး၍နေသောမယားသည်။ ပဋဝါ သိနီမည်၏။ ဤပဋဝါသိနီမည်သောမယားသည်ကား အဝတ်အ ရုံကိုမျှရ၍ မယားအဖြစ်သို့ရောက်သော ဆင်းရဲသော အမည် တည်း။ ရေခွက်ကိုသုံးသပ်၍နေသော မိန်းမသည်။ ဩဒပတ္တ ကိနီမည်၏။ ဤအမည်ကား ယောကျ်ားမိန်းမ နှစ်ယောက်တို့၏ လက်ကိုတခုသောရေခွက်၌ချ၍ရေကဲ့သို့မကွဲမပြားနှီးနှောစေ ကုန်သတည်းဟုဆို၍ထိမ်းမြားအပ်သောမိန်းမ၏ အမည်တည်း။ ခေါင်းခုကိုချ၍နေသောမယားသည်။ ဩဘဋစုမ္ဗဋမည်၏။ ဤ

အမည်ကားထင်းရွှေမိန်းမအစရှိသည်တို့တွင် တယောသံယောက် သောအကြင်မိန်းမကိုချစေ၍အိမ်၌နေစေ၏။ ထိုမိန်းမ၏အမည် တည်း။ကျွန်မိန်းမလည်းဖြစ်မယားလည်းဖြစ်သောမိန်းမသည်၊ ဒါသီစဘရိယာစမည်၏။ အမှုလုပ်မိန်းမလည်းဖြစ် မယားလည်း ဖြစ်သော မိန်းမသည်။ ကမ္မကာရီ ဘရိယာမည်၏။ ဖိုက်သော တန်းခွန်ရှိသော စစ်သည်သည် တိုင်းတပါးက ဆောင်ခဲ့၍နေ သော မယားသည် ဓဇာဟဋမည်၏။ တခဏနေသော မယား သည်။မုဟုတ္တိကမည်၏။ဤအလုံးစုံကျန်သောမယားတို့ကို။ဒါရ ဟူ၍ဟောအပ်ကုန်၏။ထိုကြောင့်အဋ္ဌကထာ၌။ ဒါရာတိဝီသတိ ယာဘရိယာနံယာကာစိဘရိယာဟူ၍ဆို၏။ ။ဒါရာတိ။ဒါရာ ဟူသည်ကား။ ဝီသတိယာ။ နှစ်ကျိပ်သော။ ဘရိယာနံ။မယား တို့တွင်။ ယာကာစိ။ အမှတ်မရှိ ကုန်သော။ ဒါရာ။ မယားတို့ တည်း။

ထိုသားမယားတို့တွင် သားတို့အား မကောင်းမှုမှ ကြဉ်စေ ခြင်းအတတ်ပညာတို့ကိုသင်ကြားလေ့ကျက် တတ်မြောက်စေ ခြင်း။ ဘုရားလောင်းရသေ့သည် မိမိသားယေ်ရသေ့ကို ဆုံးမ ပေးပြီးလျှင်။ ဟိမဝန္တာမှလူတို့အရပ်သို့ လွှတ်လိုက်သကဲ့ သို့ပြု ခြင်းသည်၊ ပုတ္တသင်္ဂဟမင်္ဂလာမည်၏။ ။အကုသိုလ်အရာအ သက်မွေး ကြောင်းကိုသာ ဆုံးမခြင်းသည် မင်္ဂလာ မမည်။ ပဋိသန္ဓေသံသရာနှစ်ပါးကြီးပွားကြောင်းကိုရင်း။သံသရာမှ ထွက် မြောက်ကြောင်း ဖိုလ်ထီးပြုလေးစင်းကို လက်ဝင်းမျက်မှောက် ဆောင်းရလောက်အောင် ဆုံးမခြင်းသည်။ မြတ်သော မင်္ဂလာ မည်၏။ ထိုကြောင့်ပဋိသန္ဓေသံသရာနှစ်ပါး ကြီးပွားကြောင်းကို ဆုံးမ ပေးသော သိင်္ဂါလလုင်၏ ဘခင်ဖြစ်သော ရာ ဇဂြိုဟ် သူဌေး။ ဝိသာခါ၏ဘခင်ဓနဉ္စယသူဌေးတို့၏ထုံးပုံ။ အာဂုံဥာဝ ကကိုမှီ၍နည်းယူသဖြင့်သိအပ်၏။

ထုံးပုံကား။ရာဇဂြိုဟ်ပြည်၌။သောတာပန်ဖြစ်သော။သူဌေး လင်မယားသည်။ သားသိင်္ဂါလလုင်ကို ဥဋ္ဌာပဋ္ဌည်းရှာမှီးသိမ်း

သည်းဟန်။သံသရာ၌ကြီးပွားစေလို၍၊ ဘုရားကိုယ်တော်မြတ်၏အထံ။ရှင်သာရိပုတ္တရာအစရှိသောအသိတိသာဝကတော်မြတ်တို့ထံ တိုက်တွန်းသော်လည်း မဆည်းကပ်လိုသည်ဖြစ်၍။ ငါ၏သားကိုအကျဉ်းအားဖြင့်ဆုံးမခဲ့မှ။ ဘုရားသာဝကတော် မြတ်တို့နှင့်တွေ့၍အကျယ်အနက်သဘောကိုလျှောက်ထားလျှင်ဟောပြသဖြင့်လိမ္မာခွင့်ရလိမ့်မည်ဟုဆင်ခြင်၍။သေခါနီးအခါ။ ညောင်စောင်းထက်၌ကိန်းစက်ပြီးလျှင်။သားကိုခေါ်၍။ ။တာတပါတောဒိသာနမသောယျာသိ။ ။တာတ။ချစ်သားသိင်္ဂါလ။ပါတော။ နံက်စောစော။ ဒိသာ။ အရပ်ခြောက်မျက်နှာ တို့ကို။နမသေယျာသိ။ ရှိခိုးပူဇော်လေလော့။

ဤသို့ဆုံးမ၍သေလွန်လျှင်သိင်္ဂါလလုလင်သည်။ ပကတိသောအရပ် မျက်နှာကို ဘခင်မှာခဲ့သည် ထင်မှတ်လျက်။ မြို့ပြင်သို့ထွက်၍ အရပ်ခြောက်မျက်နှာကို ရှိခိုး၍နေစဉ်။ ဘုရားကိုယ်တော်မြတ်နှင့်တွေ့၍။အနက်သဘောမဟုတ်သောအဖြစ်ကို မိန့်တော်မူလျှင်။ ဟုတ်မှန်ရာကိုမိန့်တော်မူပါဟု လျှောက်ထားသဖြင့်။ ။ယတောခေါဂဟပတိပုတ္တ အရိယသာဝကဿ စတ္တာရောကမ္မကိလေသာပဟီနာဟောန္တိ။ စတူဟိဌာနေဟိပါပကမ္မံနကရောတိ။ဆစဘောဂါနံ အပါယမုခါနိနသေဝတိ။ သောဧဝံစုဒ္ဒသ ပါပကာပဂတော ဆဒိသာပဋိစ္ဆာဒီ ဥဘော လောကဝိဇယာယ ပဋိပန္နော ဟောတိ။ တဿအယဉ္စေဝ လောကော အာရဒ္ဓောဟောတိ ပရောစလောကော။ ကာယဿဘေဒါပရံမရဏာသုဂတိံ သဂ္ဂံလောကံ ဥပပဇ္ဇတိ။ ဤသို့အစရှိသည်ဖြင့်သိင်္ဂါလသုတ်ကိုဟောကြားတော်မူအပ်၏။ ။ဂဟပတိ ပုတ္တ။ သူကြွယ်သား။ ခေါ။ စင်စစ်။ အရိယသာဝကဿ။အရိယာဖြစ်သောဘုရားတပည့်ဥပါသကာသည်။စတ္တာရော။ လေးပါးကုန်သော။ကမ္မကိလေသာ။သူ့အသက်ကိုသတ်ခြင်း။သူ့ဥစ္စာကိုခိုးယူခြင်း၊သူ့သားမယားကို လွန်ကျူးခြင်း။မုသားဆိုခြင်းတည်းဟူသော ငြိစွန်းညှိုး ကြောင်း ဖြစ်ကုန်သောအကုသိုလ်ကံတို့ကို။

ယတော။အကြွင်ကြောင့်။ပဟီနာ။ပါယ်အပ်ကုန်သည်။ဟောတ္တိ။ဖြစ်ကုန်၏။ စတုပ်ဟိ။လေးပါးကုန်သော။ ဌာနေဟိ။ ဆန္ဒာဂတိ။ဒေါသာဂတိ၊ မောဟာဂတိ။ဘယာဂတိ။ ဟုဆိုအပ်ကုန်သော အကြောင်းအရာတို့ဖြင့်။ပါပကမ္မံ။ မကောင်းမှုကံကို။ နကရောတိ။မပြု။တောဂါနံ။စည်းစိမ်ချမ်းသာတို့၏။ အပါယမုခါနိ။ ပျက်စီးကြောင်းဖြစ်ကုန်သော။ ဆစ။သေရည်အရက်သောက်ခြင်း။ အခါမဟုတ်။ ခရီးသုံခရီးမသို့ သွားလာ လှည့်လည်ခြင်း။ ပွဲသဘင်သို့ပျော်ရွှင်သွားလာခြင်း။ ကြွေအန်အစရှိသောသေါင်းစားမှုနှင့်မွေ့လျော်ခြင်း။ အဆွေခင်ပွန်းယုတ်တို့နှင့်ပေါင်းဘော်ခြင်း။ ပျင်းရိသောစိတ်နှင့် မပြုတ်ယှဉ်ခြင်း တည်းဟူသော ခြောက်ပါးကုန်သော အယုတ်တရားတို့ကိုလည်း။ နသေဝတိ။ မမှီဝဲ။သော။ ထိုဘုရားတပည့်ဖြစ်သောအရိယာဥပါသကာသည်။ဧဝံ။ဤသို့ခဲ့ကုန်ပြီးသော။စုဒ္ဒသပါပကါ။တဆယ့်လေးပါးကုန်သော အယုတ်တရားတို့ကို၊ အပဂတော။ဘဲကြဉ်၍။ဆဒိသာ။အရှေ့အရပ်ဟု ဆိုအပ်သော မိခင်ဘခင်။ တောင်အရပ်ဟုဆိုအပ်သော ဆရာ။ အနောက်အရပ်ဟုဆိုအပ်သောသားမယား။ မြောက်အရပ်ဟုဆိုအပ်သောအဆွေခင်ပွန်းကောင်း။ အောက်အရပ်ဟုဆိုအပ်သော ကျွန်အမှုလုပ်။ အထက်အရပ်ဟုဆိုအပ်သော ရဟန်းပုဏ္ဏားတည်းဟူသော အရပ်ခြောက်မျက်နှာတို့ကို။ ပဋိစ္ဆာဒီ။ ကျင့်ဝတ်မယွင်း ဖုံးလွှမ်းခြင်းဖြင့် စွမ်းနိုင်သည့် ဖြစ်၍ ဥဘောလောကေ။ ပစ္စုပ္ပန် သံသရာဟူသော လောကနှစ်ပါးတို့ကို။ ဝိဇေယျာယ။ ပိုင်းခြား တည့်တည့် မြင်သိခြင်းဖြင့်။ ပဋိပန္နော။ကျင့်သည်။ဟောတိ။ဖြစ်၏။တဿ။ထိုသို့ကျင့်သောသူသည်။ အယဉ္စေဝလောကော။ဤပစ္စက္ခလောကကိုရင်း။ပရောစလောကော။တမလွန်သောလောကကိုရင်း။ အာရဒ္ဓေါ။ပရိတောသိတော။ ထော်ဝန်း ကျင်နှစ်သက်စေအပ်ပြီးသည်။ နိပ္ဖာဒိတော။ ရန်ငါးပါးကို ငြိမ်းစေအပ်ပြီးသည်။ဟောတိ။ဖြစ်၏။ ကာယဿ။ကိုယ်ခန္ဓာ၏ ဘေဒါ။ပျက်စီးသည့်မှ။ ပရံမရဏာ။စုတိစိတ်ကျသည်၏အခါ

န္တ။သုဂတိ ။ ကောင်းသောသူတို့၏လားရာဖြစ်သော။ သဂ္ဂလော ကံ။ နတ်ပြည်သို့။ ဥပပဇ္ဇတိ။ ရောက်၏။ ။သိင်္ဂါလလုလင်လည်း သူရား ဟောအပ်သော အဆုံးအမ တော်ကို ကြားနာရ လျှင်။ ငါ၏ဘခင် ဆုံးမအပ်သောအနက်သဘောကို ယနေ့ ကျနစွာရ ပေပြီဟု။ ဝမ်းမြောက်ဝမ်းသာ။အသက်ထက်ဆုံး ကျင့်သဖြင့်။ စည်းစိမ်ချမ်းသာတို့သည် တနေ့ တပါးကြီးပွား၍ သေသည် ၏အခြားမဲ့နတ်ပြည်နိုက်ဖြစ်လေ၏။ ။ဤကားရာဇဂြိုဟ် သူဌေး၏သားအားဆုံးမပုံအာဂုံဥာပကာတရပ်။

ခနဥ္စယသူဌေးသည်။ သမီးဝိသာခါအား။ ။အမှသသုရကု လေဝ သန္တိယာနာမ အန္တောအဂ္ဂိဗ ဟိနနိဟရိတဗ္ဗော။ဗဟိအဂ္ဂိ အန္တောနပဝေသိတဗ္ဗော။ ဒဒန္တဿေဝဒါတဗ္ဗံ။ အဒဒန္တဿနဒါ တဗ္ဗံ ။ဒဒန္တဿာပိအဒဒန္တဿာပိဒါတဗ္ဗံ။ သုခံနိသိဒိတဗ္ဗံ။ သုခံ ဘုဉ္ဇိတဗ္ဗံ။ သုခံနိပဇ္ဇိတဗ္ဗံ။ အဂ္ဂိပရိစရိတဗ္ဗော။ အန္တောဒေဝတာ နမဿိ တဗ္ဗာတိ။ ။ဟုဆယ်ပါးသော အကြောင်းတို့ဖြင့်။ ပစ္စုပ္ပန် သံသရာနှစ်ပါးကြီးပွားစေခြင်းငှာ ဆုံးမ၏။ ။အမှ။ ချစ်သမီး။သသုရကုလေ။ ယောက္ခမအမျိုးနိုက်။ ဝသန္တိယာနာမ။ နေသောမိန်းမသည်သည်။အန္တောအဂ္ဂိ။ အိမ်တွင်းသား ဖြစ်သော ယောက္ခမ လင်တို့၏ ဂုဏ်ကျေးဇူး ကင်းသတင်းမဲ့ တည်းဟူ သောမီးကို။ဗဟိ။ ပြင်ပဖြစ်သော ထိုထိုသို့သောသူသို့။ နိဟရိ တဗ္ဗော။မထုတ်ဆောင်မပြောအပ်။ဗဟိအဂ္ဂိ။ ပြင်ပဖြစ်သောသူ တို့အား ယောက္ခမ လင်တို့၏။ ဂုဏ်ကျေးဇူးကင်း သတင်းမဲ့ ပြောဆိုသောမီးကို။ အန္တော။ ယောက္ခမလင် တည်းဟူသောအ တွင်းသို့။နပဝေသိတဗ္ဗော။ မသွင်းမပြောအပ်။ဒဒန္တဿေဝ။ အ ဆောက်အဦ အဏ္ဍာတောင်းယူလာ၍ တဘန်အတုံ့ပေးသော သူအားသာလျှင်။ဒါတဗ္ဗံ။ပေးအပ်၏။အဒဒန္တဿ။ တောင်းယူပြီး ၍အတုံ့မပေးသောသူအား။ နဒါတဗ္ဗံ။ မပေးအပ်။ ဒဒန္တဿာပိ။ အတုံ့ပေးခြင်းငှါစွမ်းနိုင်သဥ်လည်းဖြစ်သော။ အဒဒန္တဿာပိ။အ တုံ့ပေးခြင်းငှါမစွမ်းနိုင်သဥ်လည်းဖြစ်သော။ကလျာဏမိတ္တဿ။

အဆွေခင်ပွန်းကောင်းအား။ဓါတပ္ပံ။ပေးအပ်၏။သုခံ။ ယောက္ခမ လင်တို့ကိုမြင်သည့်ရှိသော်။ ထကြွအပ်သောအရာ၌ ထကြွကို ပြုပြီးမှလျှင် ချမ်းသာစွာ။ နိသိဒိတပ္ပံ။ ထိုင်နေအပ်၏။ သုခံ။ ယောက္ခမလင်တို့ကို။လုပ်ကျွေးပြုရ၍ရပြီးမရသေးသည့်ကို သိ ပြီးမှနောက်၌ချမ်းသာစွာ။ဘုဉ္စိတပ္ပံ။စားအပ်၏။သုခံ။ ယောက္ခမ လင်တို့အား ပြုဘွယ်ဝတ်ကြီး ဝတ်ငယ်ကို ပြုပြီး၍ ထိုသူတို့၏ နောက်မှ ချမ်းသာစွာ။ နိပဇ္ဇိတပ္ပံ။ အိပ်အပ်၏။အဂ္ဂိ။ ယောက္ခမ လင်တို့ကို မီးပုံကြီးကဲ့သို့။ပရိစရိတဗ္ဗာ။ ရိုသေခစဉ်လုပ်ကျွေး အပ်၏။ အန္တော။ ယောက္ခမ။ယောကျ်ားသူ။ မိန်းမသူလင်တို့ကို။ ဒေဝတာ။ နတ်ကဲ့သို့။နမဿိတဗ္ဗာ။ရိုသေပြဝပ်ရှိခိုးကုန်အပ်၏။ ဣတိဣာနံ။ဩဝါဒံ၊ ဤသို့သောအဆုံးအမကို။ အဒါသိ။ပေး၏။ ဤ။ကား။ မွေပဒအဋ္ဌကထာလာ။နေဥ္စယသူဌေး၏ ဩဝါဒပေးပုံ အာဂုံဥာပကတည်း။

ဓါရသင်္ဂဟမင်္ဂလာအရာ၌။ မယားတို့အားမကောင်းမှုမှ မြစ် ထားခြင်း။ ပဉ္စပြုပွန်၌ချီးမြှောက်ခြင်း၊ ပဉ္စပြုပွန်သံသရာ၌ ကြီးပွား စေခြင်း၌၁၊ဆုံးမခြင်းသည့်။မင်္ဂလာမည်၏။ ။ထိုကြောင့်ဘုရား ကိုယ်တော်မြွက်သည့်။သိင်္ဂါလလုင်အား။ ။ပဉ္စဟိခေါဂဟ ပတိပုတ္တ ဌာနေဟိ သာမိကေန ပစ္စုမဒိသာ ဘရိယာ ပစ္စုပ ဋ္ဌိတဗ္ဗာ သမာနနာယ အနဝမာနနာယ အနတိစရိယာယ ဣဿ ရိယဝေါဿဂ္ဂေနအလင်္ကာရာနုပ္ပဒါနေန။ဣမေဟိခေါ ဂဟပတိ ပုတ္တ ပဉ္စဟိ ဌာနေဟိ သာမိကေန ပစ္စုမဒိသာဘရိယာပစ္စုပဋ္ဌိ တဗ္ဗာ။ ။ဟူပဉ္စပြုပွန်၌သင်္ဂြိုဟ်ချီးမြှောက်အပ်သည့်၏ အဖြစ်ကို ဟောပြတော်မူအပ်၏။ ။ဂဟပတိပုတ္တ။သူကြွယ်သား။ခေါ။စင် စစ်။သာမိကေန။လင်သည့်။ပဉ္စဟိ ဌာနေဟိ။ငါးပါးကုန်သောအ ကြောင်းတို့ဖြင့်။ပစ္စုမဒိသာ။အနောက်အရပ်ဖြစ်သော။ဘရိယာ။ မယားကို။ ပစ္စုပဋ္ဌိတဗ္ဗာ။သင်္ဂြိုဟ်ထောက်ပင့်အပ်၏။ သမာန နာယ။ဧဝမိခင်။တိသာမိခင်စသည့်ဖြင့်။ မြတ်နိုး တနာသာယာ ၁ခေါ်ဝေါ်ခြင်းဖြင့်ရင်း။အနဝမာနနာယ။ကျွန်အမှုလုပ် တို့ကဲ့သို့

နှိပ်စက်ကလူမထည်မှဲ့ဖြင်မဆိုခြင်းဖြင့်ရင်း။ အနတိစရိယာယ။ မိမိမယားမှတပါးမိန်းမတို့နှင့်မမွေ့လျော်ခြင်းဖြင့်ရင်း။ဇာလသရိယဝေါသဋ္ဌေန။ချက်ပြုတ်မှု၌အစိုးတရစီရင်လေဟု ခွင့်ပြုခြင်းဖြင့်ရင်း။အလင်္ကာရာနုပ္ပဒါနေန။စည်းစိမ်အါးလျော်စွာတန်းဆာဆင်ခြင်းကို ပေးသဖြင့်ရင်း။ ခေါ။စင်စစ်။ဇာမေဟိပဉ္စဟိဌာနေဟိ။ ဤငါးပါးကုန်သောအကြောင်းအရာတို့ဖြင့်။ သာမိကေန။လင်သည်။ပစ္စိမဒိသာ။ အနောက်အရပ်ဖြစ်သော၊ ဘရိယာ။ မယားကို။ပစ္စုပဋ္ဌာတဗ္ဗာ။သကြိုဟ်ချီးမြှောက်အပ်၏။ ။မယားသည်လည်း လင်အားလုပ်ကျွေးသကြိုဟ်အပ်သည်ကို သိင်္ဂါလသုတ်၌။ ။ဇာမေဟိခေါ ဂဟပတိ ပုတ္တပဉ္စဟိဌာနေဟိ သာမိကေနပစ္စိမဒိသာဘရိယာပစ္စုပဋ္ဌိတာ။ ပဉ္စဟိဌာနေဟိ။ သာမိကံအနုကမ္ပတိ၊ သုသံဝိဟိတကမ္မန္တာစဟောတိ။ သင်္ဂဟိတပရိဇနာစ။ အနတိစာရိနီစ။ သမ္ဘတဉ္စအနုရက္ခတိ။ ဒက္ခာစဟောတိအနလသာသဗ္ဗကိစ္စေသု။ ဇာမေဟိခေါ ဂဟပတိပုတ္တ။ လ။ အနုကမ္ပတိ။ ။ဟုဟောတော်မူ၏။ ။ဂဟပတိပုတ္တ။ သား။ ခေါ။ စင်စစ်။ ဇာမေဟိပဉ္စဟိဌာနေဟိ။ တို့ဖြင့်။ သာမိကေန။ သည်။ပစ္စုပဋ္ဌိတာ။သကြိုဟ်ချီးမြှောက်အပ်သော။ပစ္စိမဒိသာ။ သော။ဘရိယာ။မယားသည်။ ဇာမေဟိခေါပဉ္စဟိဌာနေဟိ။ ဤငါးပါးကုန်သောအကြောင်းတို့ဖြင့်လျှင်။ သာမိကံ။လင်ကို။အနုကမ္ပတိ။ အစဉ်လုပ်ကျွေး၏။ သုသံဝိဟိတကမ္မန္တာစ။ ယာဂုထမင်းချက်ခြင်းအစရှိသောကာလကိုမလွန်စေမူ၍ကောင်းစွာအမှုကိုပြုသည်လည်း။ ဟောတိ။၏။ သင်္ဂဟိတပရိဇနာစ။ လင်၏သားချင်း မိမိ သားချင်းတို့၌ အညီအမျှ ထောက်ပံ့ ချီးမြှောက်သည်လည်း။ဟောတိ။၏။အနတိစာရိနီစ။ သယောက်လင်ငယ်မနေသည်လည်း။ဟောတိ။၏။သမ္ဘတဉ္စ။ဥစ္စာဘဏ္ဍာကိုလည်း။အနုရက္ခတိ။အစဉ်မပျောက်စောင့်ရှောက်၏။ သဗ္ဗကိစ္စေသု။အလုံးစုံပြုဘွယ်အမှုတို့၌။ဒက္ခာစ။လိမ္မာသည်ရင်း။ အနလသာစ။မပျင်းသည်ရင်း။ဟောတိ။၏။ ဂဟပတိပုတ္တ။သား။ ဇာမေဟိခေါ

ပဋ္ဌဟိဌ္ဌာနေဟိ။တို့ဖြင့်။သာမိကေန။သည်။ပဋ္ဌပမ္ဘိတာ။သော။ပဋ္ဌိမဒိသာ။သော။ဘရိယာ။သည်။ဋ္ဌမေဟိပဋ္ဌဟိဌ္ဌာနေဟိ။တို့ဖြင့်။သာမိကံ။ကို။အနုကမ္ပတိ။အစဉ်သဖြိုဟ်စောင့်ရှောက်၏။

ဤသို့လင်နှင့်မယားနှစ်ပါးစေ့စပ်ကြောင်း ကျိုးဟပ်၍ဟော ပြအပ်သောပဋ္ဌပ္ပနိဌ္ဌသဖြိုဟ်ချီးမြှောက်ခြင်းသည်လည်း။ ဒါရ သင်္ဂဟမင်္ဂလာမည်၏။ ။သံသရာကြောင်းဖြင့် ကောင်းစွာ သဖြိုဟ်သုံးမလို၍။ ဝေသန္တရာ မင်းကြီးသည် မဒ္ဒီ မိဘုရား အား။ ။ဘဒ္ဒေမဒ္ဒိသီလဝန္တေသုံ။ဒါနံစဇေဟိယထာရဟံ။နဟိ ဒါနာပရံအတ္ထိ။ပတိဋ္ဌာသဗ္ဗပါဏိနံ။ ။ဟုဆုံးမတော်မူ၏။ ။ ဘဒ္ဒေမဒ္ဒိ။ ကိုယ်စိတ်သန့်ရှင်းအပြစ်ကင်းသဖြင့်ကောင်းခြင်းရှိ သောမယ်မဒ္ဒိ။သီလဝန္တေသု။ သီလရှိကုန်သောပုဂ္ဂိုလ်မြတ်တို့ ၌။ ဒါနံ။ အလှူကို။ ယထာရဟံ။ အင်အားအလိုက်အထိုက်အ လျောက်။ စဇေဟိ။ စွန့်ကြဲလှူဒါန်းလေလော့။ သဗ္ဗပါဏီနံ။ခပ် သိမ်းကုန်သောသတ္တဝါတို့အား။ပါ။သတ္တဝါတို့၏။ ဒါနာ။ဒါနမှ။ အပရံ။ တပါးသော။ ပတိဋ္ဌာ။ တည်ရာမှီခိုရာသည်။ နဟိနဝေ အတ္ထိ။မရှိသည်သာတည်း။

ဤသို့ ပြဆိုအပ်ခဲ့ပြီးသော မင်္ဂလာ နှစ်သုတ္တရကို လိုလားစွာ လိုက်နာ၍ကျင့်သောသူတို့အား။အကျိုးကြီးပွါးသဉ်၏အဖြစ်ကို သိ၍။ သိကြွားနတ်မင်းသဉ်ကိုယ်စိတ်မြတ်နိုးရှိခိုးသည်၏အဖြစ် ကိုသက္ကသံယုတ်၌။ ။ယေဂဟဋ္ဌာပုညကရာ။သီလဝန္တာဥပါသ ကာ။ဓမ္မေနဒါရံပေါသေန္တိ။တေနမဿာမိမာတလိ။ ။ဟုမိန့် အပ်၏။ ။မာတလိ။မာတလိနတ်သား။ ပုညကရာ။ ကောင်းမှု ကိုပြုကုန်သော။ သီလဝန္တာ။သီလရှိကုန်သော။ ဥပါသကာ။ရ တနာသုံးပါးသို့ဆည်းကပ်ကုန်သော။ ယေဂဟဋ္ဌာ။ အကြင်လူ တို့သည်။ဓမ္မေန။တရားသဖြင့်။ဒါရံ။သားမယားကို။ပေါသေန္တိ။ မွေးကျွေးဆုံးမကုန်၏။တေ။ထိုသူတို့ကို။ အဟံ။ ငါသိကြွားမင်း သည်။နမဿာမိ။ကိုယ်စိတ်မြတ်နိုးရှိခိုး၏။ ။ဤသို့ပြအပ်ခဲ့ပြီး သောထုံးပုံ အာဂုံဥပမာ တို့ကို။ နယဂ္ဂါဟမှု၍ နည်းယူကျင့်

သင့်ပြီ။ ။ပုဏ္ဏဒါရသင်္ဂဟမင်္ဂလာ၏ နှစ်သာရကား ပြီး၏။

---

## ၁၃။ အနှောင့်အယှက်မရှိသောအမှုကိုပြုခြင်း။
## အနာကုလကမ္မန္တာမင်္ဂလာ။

လယ်ယာထွန်ခြင်းမိမိ၏၎င်း။သူတပါးတို့၏၎င်း။ နွားတို့ကိုထိန်း၍ ထောပတ်အစရှိသောငါးပါးသော ဂေါရသကိုရောင်းသဖြင့်အသက်မွေးခြင်းအမှု၊ခြေကျင်ကုန်သွယ်ခြင်း၊ လှည်းဖြင့်ကုန်သွယ်ခြင်းအစရှိသည်တို့သည်အမှုမည်ကုန်၏။ကာလကိုမလွန်ခြင်းအစရှိသည်ကား ထိုအမှုတို့၏မနှောင့်ယှက်သောအဖြစ်မည်၏။ ကာလကိုလွန်ခြင်းအစရှိသည်ကား ထိုအမှုတို့၏နှောင့်ယှက်သောအဖြစ်မည်၏။ထိုကြောင့်အဋ္ဌကထာ၌။ ။ကာလညုတာယ ပတိရူပကာရိတာယ အနလသတာယ ဥဋ္ဌာနဝီရိယသမ္ပဒါယအဗျသနိယတာယစကာလာတိက္ကမန။ အပတိရူပကာရိကရဏ အကရဏ သိထိလကရဏာဒိ အာကုလ ဘာဝ ဝိရဟိတာ။ ။ဟုဆိုအပ်၏။ ။ကာလညုတာယစ။ ကာလကိုသိသည်၏အဖြစ်ဖြင့်၎င်း။ ပတိရူပကာရိတာယစ။ လျောက်ပတ်သည်ကိုပြုလေ့ရှိသည်၏ အဖြစ်ဖြင့်၎င်း။ အနလသတာယစ။ မပျင်းသည်၏အဖြစ်ဖြင့်၎င်း။ ဥဋ္ဌာနဝီရိယသမ္ပဒါယစ။ ကိုယ်၌ဖြစ်သောလုံ့လ စိတ်၌ဖြစ်သောလုံ့လနှင့် ပြည့်စုံသည်၏ အဖြစ်ဖြင့်၎င်း။ အဗျသနိယတာယစ။ မပျက်စီးသည်၏ အဖြစ်ဖြင့်၎င်း။ ကာလာတိက္ကမနအပတိရူပကာရိကရဏအကရဏသိထိလကရဏာဒိအာကုလဘာဝဝိရဟိတာ။ ကာလကိုလွန်ခြင်းမလျော်ပတ်သည်ကို ပြုလေ့ရှိသည်၏ အဖြစ်ဖြင့်ပြုခြင်းမလျောက်ပတ်သည်ကို မပြုခြင်း လျော့သဖြင့် ပြုခြင်း အစရှိသော နှောင့်ယှက်သောအဖြစ်မှကင်းခြင်းတို့သည်။ အနာကုလကမ္မန္တာနာမ။ မမနှောင့်ယှက်သော အမှုမည်ကုန်၏။ ။ထိုစကား၌အကြောင်းသူ

သည်ပြုအပ်သောကာလကို မယုတ်စေမူ၍အမှုကိုပြု၏။ ထိုသူသည်ကာလကို သိသည်မည်၏။ ရအပ်သောဥစ္စာအားလျော်သောအကြောင်းကို ပြုသောသူသည်ကား လျောက်ပတ်သည်ကိုပြုလေ့ရှိသောသူမည်၏။ ဤသို့သဘောရှိသောသူသည်ဥစ္စာရ၏။ ထိုကြောင့်ဘိလူးအားတရားဟောတော်မူသောမြတ်စွာဘုရားသည်။ ။ပတိရူပကာရီဓုရဝါ။ဥဋ္ဌာတာဝိန္ဒတေဓနံ။ ။ ဟူ၍ဟောတော်မူ၏။ ။ပတိရူပကာရီ။ ဒေသကာလအစရှိသည်တို့ကို မယုတ် စေမူ၍ လောကီ လောကုတ္တရာ ဖြစ်သောဥစ္စာအားလျော်သောရခြင်းအကြောင်းကို ပြုလေ့ရှိသော။ ဓုရဝါ။ ဝိတ်၌ယှဉ်သောလုံ့လ၏ အစွမ်းအားဖြင့် မချ သော ဝန်ရှိသော။ ဥဋ္ဌာတာ။ ကိုယ်၌မှီသောဝီရိယ၏အစွမ်းအားဖြင့်ထကြွခြင်းနှင့် ပြည့်စုံသောသူသည်။ ဧကမူသိကာယ။ တခု သော ကြွက်သေဖြင့်။ နစိရဿဝ။ မကြာမြင့်မီလျှင်။ စတုသတသဟဿသို့ ။လေးသိန်းအရေအတွက်ရှိသောဥစ္စာကို။ ရှုဠ္ဌေဝါသီ။ရှုဠ္ဌသူဌေး၏အထံနေအလုပ်အကျွေးလုလင်သည်။ ဝိန္ဒတေဝိယ စ။ရသကဲ့သို့ရင်း။မဟာလ္လကမဟာတိသဘွေ့ရော။သက်တော်ကြီးသောမဟာတိဿမထေရ်သည်။ လောကုတ္တရဓနံ။ လောကုတ္တရာဥစ္စာကို။ဝိန္ဒတေဝိယစ။ ရသကဲ့သို့ရင်း။ ဓနံ။ လောကီသောကုဒ္ဒရာဥစ္စာကို။ဝိန္ဒတေ။ရ၏။

ထိုစကား၌ လွန်လေပြီးသောအခါ ဗာရာဏသီတိုင်းပြည်၌ဘုရားလောင်းရှုဠ္ဌသူဌေး၏ အစေအပါးဖြစ်သော လုလင်သည်ကြွက်သေတခုကိုအရင်းပြု၍ ထကြွလုံ့လနှင့်တကွကာလကိုမလွန်စေမူ၍သတိပညာကိုရှေ့ထားကုးသန်းရောင်းဝယ်ရာလေးလအတွင်း၌ပင်လျှင်လေးသိန်းသောအသပြာကြေးငွေကိုရ၍သခင်ဖြစ်သောရှုဠ္ဌသူဌေး၏သမီးနှင့်တကွသူဌေးစည်းစိမ်ကိုရလေသောဝတ္ထုကိုထောက်၍သိအပ်ကုန်၏။ ။ထိုကြောင့်မြတ်စွာဘုရားသည်။ ။ဥဋ္ဌာနဝတောသတိမတော။ သုစိကမ္မဿနိသမ္မကာရိနော။သညတဿဓမ္မဇီဝိနော။ အပ္ပမတ္တဿယသော

ဘိဝဆုတိ။ ။ဟူ၍ဟောတော်မူ၏။ ။ဥဣာနုဝတော။ ထက်ြွ လုံ့လလည်းရှိထသော။သတိမတော။သတိတရားနှင့်ပြည့်စုံထ သော။ သုစိကမ္မဿ။ စင်ကြယ်သောကိုယ်အမှုနှုတ်အမှု ရှိထ သော။ နိသမ္မကာရိနော။ စုံစမ်းဆင်ခြင်၍ ပြုလေ့ရှိထသော။ သညတဿ။ ကိုယ်နှုတ်နှလုံးသုံးပါးတို့ကိုစောင့်ရှောက်လေ့ရှိ ထသော။ ဓမ္မဇိဝိနော။ တရားသဖြင့်သာအသက်မွေးလေ့ရှိထ သော။အပ္ပမတ္တဿ။ ထက်ြွလုံ့လစသောဆိုအပ်ပြီးသောတရား တို့၌မမေ့မလျော့သောသူအား။ ယသော။စည်းစိမ်ဥစ္စာရတနာ ဟူသမျှသည်။ အဘိဝဍုတိ။ တနေ့တခြား ပွါးများ တက်တိုး ၏။ ။ဧကနိပါတ်ပဋ္ဌမဝဂ်ရှုင္ဒကဇာတ်အဋ္ဌကထာ၌ရင်း။ ဧက အင်္ဂုတ္တိုရ်အဋ္ဌကထာ၌ရင်း လာသောစူဠကသူဌေးအထံနေလုင ၏ချမ်းသာခြင်းကိုအကြောင်းပြု၍လည်းဟောတော်မူသည်။

သက်တော်ကြီးသောမဟာတိဿမထေရ်သည်၊သုံးပါးကျန် သောဇာရိယာပုထ်တို့ဖြင့် နေအံ့ဟုဝတ်ပြု၍ အိပ်ခြင်းငိုက်မျည်း ခြင်းသည်လာသောအခါ၌။ ကောက်ရိုးခွေခေါင်းခုကိုရေဆွတ် ၍ခေါင်း၌ရွက်ပြီးလျှင်အိပ်ခြင်းငိုက်မျည်းခြင်းကိုပျောက်လျက် တဆဲ့နှစ်နှစ်တို့ဖြင့်ရဟန္တာ၏အဖြစ်သို့ရောက်သတတ်။ ။ဤ ဝတ္ထုသည်အာဠဝကသုတ်အဋ္ဌကထာ၌လာ၏။

အကြင်သူသည်ကား။ နေ့အတို့ပတ်လုံးအိပ်၍အမှုတို့ကိုမပြု ခြင်းလုပ်အပ်သည်၌လည်းထိုအမှုတို့ကိုပြုအံ့သောဌါမထ။အခါ ခပ်သိမ်းသူရာယစ်၏။ မိန်းမအစရှိသည်တို့၌လည်း ကြူး၏။ ထို သူသည်မိမိ၏ ပျင်းသည့်၏ အဖြစ်ကြောင့် အမှုကို နှောင့်ရှက် သည်ကိုပြု၏။အမှုတို့ကိုမပြုခြင်းသည်လျှင်အမှုတို့၏နှောင့်ရှက် ခြင်းမည်၏။ ထိုသို့ သဘောရှိသောသူသည် အိမ်ထောင်မှုကို တည်စိမ့်သောဌါမတတ်နိုင်သလျှင်ကတည်း။ ။ထိုကြောင့် မြတ်စွာဘုရားသည်သိဂ်ါလသုတ်၌။ ။နုဒိဝါသောပ္ပသိလေန။ ရတ္တိဥဋ္ဌာနဒေဿိနာ။ နိစ္စံမဒေနသောဏ္ဍေန။သက္ကာအာဝသိတုံ

ဗာရံ။ ။ဟူ၍ဟောတော်မူ၏။ ။ဒိဝါသောပ္ပသီလေန။ နေ့၌
အိပ်လေ့ရှိသော။ ရတ္တိံ ဥဋ္ဌာနဒေဿိနာ။ ညဉ့်၌ထကြွခြင်းကိုမုန်း
တတ်သောအလေ့ရှိသော။ နိစ္စံမဒေန။ အမြဲသူရာ ယစ်သော။
သောဏ္ဍေန။ မိန်းမအစရှိသည်တို့၌ ကြူးသောသူသည်။ ဗာရံ။
အိမ်၌။ အာဝသိတုံ။ နေအံ့သောငှါ။ နသက္ကာ။ မတတ်စွမ်းနိုင်။
မိန်းမ၊ ထမင်းရေနံ့သူရာတို့၌ကြူးသောသူကို။ မိန်းမအစရှိသည်
တို့၌ကြူးသောသူဆိုသည်။

အကြင်သူသည်အမှုကိစ္စ၌အလွန်ချမ်းသေးသည်။ အလွန်ပူ
သေးသည်၊ အလွန်စောသေးသည်၊ အလွန်မိုးချုပ်၍ညဉ့်အခါဖြစ်
သည်ဟုအခါကိုလင့်၍ မိမိပြုအပ်သောကိစ္စကိုဆိုင်း၏။ ထိုသူ
သည်မိမိပျင်းသည်၏အဖြစ်ကြောင့်အမှုတို့၏နှောင့်ရှက်ခြင်းတို့
ကိုပြုသည်မည်၏။ ထိုသို့သဘောရှိသောသူသည် စည်းစိမ်မှ
ဆုတ်ယုတ်၏။ ထိုကြောင့်အမှုတို့၏ နှောင့်ရှက်ခြင်းတို့ကို ပြု
သောသူ၏ အာဒီနဝအပြစ်ကို ဟောတော် မူလိုသော မြတ်စွာ
ဘုရားသည်။ ။အတိသီတံတိ ကမ္မံ နကရောတိ။ အတိဥဏှန္တိ
အတိ သာယန္တိ အတိပါတောတိ အတိဆာတောတိ ကမ္မံနက
ရောတိ။ တဿ ဧဝံကိစ္စာပဒေသဗဟုလဿ ဝိဟာရတော အ
နုပ္ပန္နာစေဝ ဘောဂါနုပ္ပဇ္ဇန္တိ ဥပ္ပန္နာစဘောဂါပရိက္ခယံဂစ္ဆန္တိ။ ။
ဟူ၍ဟောတော်မူ၏။ ။ယော။ အကြင်သူသည်။ အတိသီတန္တိ။
အလွန် ချမ်း၏ဟူ၍။ ကမ္မံ။ အမှုကို။ နကရောတိ။ မပြု။ အတိ
ဥဏှန္တိ။ အလွန်ပူ၏ဟူ၍။ ကမ္မံ။ အမှုကို။ နကရောတိ။ မပြု။ အတိ
သာယန္တိ။ အလွန်မိုးချုပ်၏ဟူ၍။ ကမ္မံ။ အမှုကို။ နကရောတိ။ မပြု။
အတိပါတောတိ။ အလွန်စော၏ဟူ၍။ ကမ္မံ။ အမှုကို။ နကရောတိ။
မပြု။ အတိဆာတောတိ။ အလွန်ဆာ၏ဟူ၍။ ကမ္မံ။ အမှုကို။ နက
ရောတိ။ မပြု။ ဧဝံ။ ဤသို့။ ကိစ္စာပဒေသဗဟုလဿ။ အမှု၌ရိုးမယ်
ဖွဲ့ခြင်းများသည်ဖြစ်၍။ ဝိဟာရတော။ နေသော။ တဿ။ ထိုသူ
အား။ အနုပ္ပန္နာစေဝဘောဂါ။ မဖြစ်ကုန်သေးသောစည်းစိမ်တို့
သည်လည်း။ နုပ္ပဇ္ဇန္တိ။ မဖြစ်ကုန်။ ဥပ္ပန္နာစဘောဂါ။ ဖြစ်ကုန်ပြီး

သောစည်းစိမ်တို့သည်လည်း။ ပရိက္ခယံ။ ကုန်ခြင်းသို့။ ဂစ္ဆန္တိ။ ရောက်ကုန်၏။

ထိုသို့သဘောရှိကုန်သောသူတို့ကို ဥစ္စာတို့သည် လွန်လေကုန်၏။ ထိုကြောင့်။ ။အတိသီတံအတိဥဏှံ။ အတိသာယမိဒံ အဟု။ ဣတိဝိဿဋ္ဌကမ္မန္တေ။ အတ္ထာအစ္စေန္တိမာဏဝေ။ ။ဟူ ဘုရားဟောတော်မူ၏။ ။ဣဒံ။ ဤအမှုသည်။ အတိသီတံ။ အ လွန်ချမ်းသောကာလ၌ရောက်သည်။အတိဥဏှံ။အလွန်ပူသော အခါ၌ ရောက်သည်။ အတိသာယံ။အလွန်မိုးချုပ်သောအခါသို့ ရောက်သည်။အဟု။ဖြစ်၏။ဣတိ။ဤသို့။ဝိဿဋ္ဌကမ္မန္တေ။ အမှုကို လွှတ်ကုန်သော။ မာဏဝေ။ လူတို့ကို။ အတ္ထာ။ ဥစ္စာတို့သည်။ အစ္စေန္တိ။လွန်ကုန်၏။

အကြင်သူသည် ကား အချမ်းအပူ အစရှိသည် တို့ကို မရေ တွက်မူ၍။ မိမိမပျင်းသည့်၏ အဖြစ်ကြောင့် အမှုတို့၏ မနှောင့် ရှက်ခြင်းတို့ကိုပြု၏။ ထိုသူသည်များစွာကုန်သော ဥစ္စာတို့ကို ဖြစ်စေ၍ချမ်းသာကိုရ၏။ထိုအရာ၌အဆုမာသကမင်း၊ဒဓိဝါဟန မင်းအစရှိသည်တို့သည်သက်သေဖြစ်ကုန်၏။ ထိုကြောင့်။ ။ ယောစသီတဉ္စဥဏှဉ္စ။ တိဏာ ဘိယျောနမညတိ။ ကရံပုရိသ ကိစ္စာနိ။သောသုခါနဝိဟာယတိ။ ။ဟူ၍ဘုရားဟောတော်မူ ၏။ ။ပုရိသကိစ္စာနိ။ ယောကျ်ားတို့၏အမှုကိစ္စတို့ကို။ကရံက ရောန္တော။ပြုသော။ယောစ။အကြင်သူသည်ကား။ သီတဉ္စ။ အ ချမ်းကိုလည်း။ဥဏှဉ္စ။အပူကိုလည်း။တိဏာ။မြက်ထက်။ဘိယျော။အ လွန်။နမညတိ။မအောက်မေ့။သော။ထိုသူသည်။ သုခါ။ချမ်းသာ မှ။နဝိဟာယတိ။ မယုတ်။ ။ထိုကြောင့်အိမ်ထောင်ခမ်းနားကို ရှာသောသူသည်အချမ်းအပူစသည်တို့ကို မရေတွက် မူ၍စည်း စိမ်ကိုသာလျှင် ရေတွက်ဆည်းပူးအပ်၏။ ဤသို့ဆည်းပူးခြင်း ကိုပြုသောသူအားစည်းစိမ်တို့သည်များကုန်၏။ထိုကြောင့်၊ ။ ဘောဂေသံဟရမာနဿ။ ဘမရဿေဝ ဣရိယတော။ ဘော ဂါသန္နိစယံယန္တိ။ဝမ္မိကောဝုပစီယတိ။ ။ဟူ၍ဘုရားဟော

တော်မူ၏။ ။ဣရိယတော။ ပန်းတို့၏အခင်းအနံ့ကိုမဖျက်ဆီးမူ၍ နှုတ်သီး အတောင်တို့ဖြင့် ပန်းဝတ်မှုံကို ယူခြင်းဌါ လုံ့လပြုသော။ ဘမရသ။ ပျားကြီး၏။ သံဟရဏံဍုဝ။ ဗှဦးဘီးကြီးပမာဏရှိသောပျားလဘို့ကိုဆည်းပူးခြင်းကဲ့သို့။ ဧဝံတာထာ။ ထိုအတူ။ ဘောဂေ။ စည်းစိမ်တို့ကို။ သံဟရမာနဿ။ မိမိကိုယ်ကိုမနှိပ်စက်မူ၍တရားသဖြင့်ဆည်းပူးသော။ အဿ။ ထိုသူ၏။ ဘောဂါ။ စည်းစိမ်တို့သည်။ ဝမ္မိကော။ တောင်ဘို့သည်။ ဥပစိယာတိဣဝ။ ပွါးသကဲ့သို့။ နိစယံ။ ပွါးခြင်းသို့။ ယန္တိ။ ရောက်ကုန်၏။ ။ထိုကြောင့်လယ်လုပ်ခြင်းကုန်သွယ်ခြင်းမှစ၍ မိမိပြုအပ်သောအမှုတို့ကိုကာလကိုမလွန်စေမူ၍ပြုအပ်ကုန်၏။ ထိုမနှောင့်ရှက်ကုန်သောအမှုတို့သည်။ နှစ်ပါးသောလောကဌ္ဌအစီးအပွါးကိုဆောင်တတ်သောကြောင့်မင်္ဂလာမည်ကုန်၏။ ။အဋ္ဌကထာဌ္ဌကား။ ။ဧတေအဏ္ဏနောဝါပုတ္တဒါရဒါသကမ္မကရာနံဝါဗျတ္တတာယဧဝပယောဇိတာဒိဋ္ဌေဝဓမ္မေဓနဓညဝုဍ္ဎိပဋိလာဘဟေတုတောမင်္ဂလန္တိဝုစ္စန္တိ။ ။ဟူ၍မိန့်ဆိုတော်မူ၏။ ။အတ္တနော။ မိမိ၏ဂုဏ်း။ ပုတ္တဒါရဒါသကမ္မကရာနံဝါ။ သားမယားကျွန်အမှုလုပ်တို့၏ဂုဏ်း။ ဗျတ္တတာယဧဝ။ လိမ္မာသည်၏အဖြစ်ဖြင့်သာလျှင်။ ပယောဇိတာ။ ယှဉ်အပ်ကုန်သော။ ဧတေ။ ထိုအမှုတို့ကို။ ဒိဋ္ဌေဝဓမ္မေ။ မျက်မှောက်သောကိုယ်၏အဖြစ်၌သာလျှင်။ ဓနဓညဝုဍ္ဎိပဋိလာဘဟေတုတော။ ဥစ္စာစပါးစီးပွါးကိုရခြင်း၏အကြောင်းဖြစ်သောကြောင့်။ မင်္ဂလန္တိ။ မင်္ဂလာဟူ၍။ ဝုစ္စာ။ ဟောတော်မူအပ်ကုန်၏။ ။အနာကုလာစကမ္မန္တာဟူသောမင်္ဂလာကထာပြီး၏။

---

## ၁၄။ ပေးကမ်းလှူဒါန်းခြင်း။ဒါနမင်္ဂလာ။

အလှူပေးကြောင်းဖြစ်သော စေတနာကို ဒါနဟူ၍မှတ်အပ်၏။ ထိုစေတနာနှင့်ယှဉ်သော အလောဘကိုလည်းဒါနဟူ၍မှတ်အပ်၏။ ထိုကြောင့်အဋ္ဌကထာဌ္ဌ။ ။ဒါနံနာမပရံဥဒ္ဒိဿသုဗုဒ္ဓိ

ပုဗ္ဗိကာ အန္နာဒိဒသ ဝတ္ထုကော၊ ဒါနပရိစာဂစေတနာ တံ သမ္ပယုတ္တော ဝါ အလောဘော။ ။ဟူ၍ဆိုအပ်၏။ ။ပရံ။ သူတပါးကို။ ဥဒ္ဒိဿ။ ရည်မှတ်၍။ သုဇုဒ္ဓိပုဗ္ဗိကာ။ အလှူစေတနာ၏အကျိုးသည်ရှိ၏ ဟုသို့ အစရှိသောနည်းဖြင့် ဖြစ်သော သမ္မာဒိဋ္ဌိ ရှေ့သွားရှိသော။ အန္နာဒိဒသဝတ္ထုကော။ အန္န အစရှိသော ဆယ်ပါးသော ဒေယျဓမ္မဝတ္ထုဟူသောအာရုံရှိသော။ ဒါနပရိစာဂစေတနာဝါ။ လှူကြောင်းစွန့်ကြဲကြောင်းဖြစ်သောစေတနာသည်လည်း။ ဒါနံနာမ။ ဒါနမည်၏။ တံသမ္ပယုတ္တော။ ထိုစေတနာနှင့်ယှဉ်သော။ အလောဘောဝါ။ အလောဘသည်လည်း။ ဒါနံနာမ။ ဒါနမည်၏။ ။အန္နအစရှိသောဆယ်ပါးသော ဒေယျဓမ္မဝတ္ထုကို။ ။အန္နံပါနံဝတ္ထံယာနံ။ မာလာဂန္ဓဝိလေပနံ။ သေယျာဝသထပဒီပေယျံ။ဒါနဝတ္ထူဒသမေဒသ။ ။ဟူ၍ဟောတော်မူ၏။ ။အန္နံ။ အလုံးစုံသောခဲဘွယ်ဘောဇဉ်သည်ဧ၀င်း။ ပါနံ။ ယာဂုပါနအစရှိသော အဖျော်ဆဲ့တပါးသည်ဧ၀င်း။ ဝတ္ထံ။ ခါးဝတ်ကိုယ်လွှမ်းအစရှိသောအဝတ်သည်ဧ၀င်း။ ယာနံ။အယုတ်သဖြင့်ဘိနပ်ကိုအစပြု၍သွားခြင်းကိစ္စကိုပြီးစေတတ်သော ရထားပေါင်းချုပ်အစရှိသောယာဉ်သည်ဧ၀င်း။မာလာဂန္ဓဝိလေပနံ။ကုံးသောပန်းမကုံးသောပန်းအစရှိသောအားဖြင့် ပြားသောအလုံးစုံသောပန်းအလုံးစုံသောနံ့သာမျိုး သွေးအပ်သော နံ့သာအဆိဖြင့်ပြီးသည်ဖြစ်၍စွန်းစေတတ်သောနံ့သာပျောင်းသည်ဧ၀င်း။ သေယျာဝသထပဒီပေယျံ။ ညောင်စောင်းအင်းပျဉ်အစရှိသောအိပ်ရာ ပထိုင်ကော်ဇောအစရှိသောအခင်း၊ လေနေပူအစ ရှိသောဘေးရန်ကိုဖျောက်တတ်သောကျောင်း၊တန်ဆောင်း၊ စရပ်၊ဆီမီးခွက်အစရှိသောဆီမီး၏အဆောက်အဦသည်ဧ၀င်း။ ဒသမေဒသ။ ဤဆယ်ပါးတို့သည်။ဒါနဝတ္ထု။ ဒါနဝတ္ထုမည်ကုန်၏။ ။ဣတိ ဝုတ္တနိဒ္ဒေသတော ယထာဝုတ္တဂုဏ္ဍာကသုတ်အဋ္ဌကထာနှင့်အညီယောဇနာအပ်သောအနက်တည်း။

တိုဒါနသည် များစွာသောလူနတ်တို့၏ ချစ်အပ်သည်၏ အ

ဖြစ်အစရှိကုန်သော မျက်မှောက် တမလွန်၌ဖြစ်ကုန်သော အ
ကျိုးအထူးတို့ကို ရခြင်း၏အကြောင်းဖြစ်သောကြောင့် မင်္ဂလာ
မည်၏။ထိုကြောင့်မြတ်စွာဘုရားသည်။ ။ဒဒံပိယောဟောတိ
ဘဇန္တိနံဗဟူ။ ကိတ္တိံစပပ္ပေါတိယသဿဝဍ္ဎတိ။ အမင်္ကုဘူ
တောပရိသံဝိဂါဟတိ။ဝိသာရဒေါဟောတိနရောအမစ္ဆရီ။
တသ္မာဟိ ဒါနာနိဒဒန္တိပဏ္ဍိတာ။ ဝိနေယျမစ္ဆေရမလံ သုခေသိ
နော။တေဒီဃရတ္တံတိဒိဝေပတိဋ္ဌိတာ။ ဒေဝါနံသဟဗျတံဂတာ
ရမန္တိတေ။ ။ကတာဝကာသာကတကုသလာ။ ဣတောစု
တာသယံပ္ပဘာအနုဝိစရန္တိ။နန္ဒနေတေတတ္ထနန္ဒန္တိရမန္တိမော
ဒရေ။သမပ္ပိတာကာမဂုဏေဟိပဉ္စဟိ။ ။ကတွာနဝါကျံအသိ
တဿတာဒိနော။ ရမန္တိသဂ္ဂေသုဂတာယသဿိနော။ ။ဟူ
ကုန်သောဂါထာတို့ကိုဟောတော်မူ၏။ ။ဒဒံ။ လှူတတ်သော
သူကို။ ပိယော။လူအများချစ်သည်။ ဟောတိ။ဖြစ်၏။ နံ။ ထိုလှူ
တတ်သောသူကို။ဗဟူ။များစွာကုန်သောသူတို့သည်။ ဘဇန္တိ။
ဆည်းကပ်ကုန်၏။ ဒဒံ။လှူတတ်သောသူသည်။ ကိတ္တိံစ။ကျော်
စောခြင်းသို့လည်း။ ပပ္ပေါတိ။ ရောက်၏။ အဿ။ ထိုလှူတတ်
သောသူ၏။ ယသော။အခြံအရံသည်။ ဝဍ္ဎတိ။ပွါး၏။အမင်္ကုဘူ
တော။အရှိန်အဝါမကင်းသည်ဖြစ်၍။ပရိသံ။ပရိသတ်သို့။ဝိဂါဟ
တိ။သက်ဝင်ရ၏။အမစ္ဆရီ။ဝန်တိုခြင်းမရှိသော။နရော။ လှူတတ်
သောသူသည်။ဝိသာရဒေါ။ရွံ့ရှာခြင်းကင်းသည်။ ဟောတိ။ဖြစ်
၏။ ။တသ္မာဟိ။ထိုကြောင့်လျှင်။ သုခေသိနော။ချမ်းသာကိုရှာ
ကုန်သော။ပဏ္ဍိတာ။ပညာရှိတို့သည်။ မစ္ဆေရမလံ။ ဝန်တိုခြင်း
ဟူသောအညစ်အကြေးကို။ဝိနေယျ။ဖျောက်၍။ ဒါနာနိ။အလှူတို့
ကို။ဒဒန္တိ။လှူကုန်၏။တေ။ထိုလှူဒါန်းကုန်သောပညာရှိတို့သည်။ဒီ
ဃရတ္တံ။အခါလေးမြင့်။တိဒိဝေ။နတ်ပြည်၌။ပတိဋ္ဌိတာ။တည်ကုန်
၏။ တေ။ ထိုလှူဒါန်းကုန်သောပညာရှိတို့သည်။ ဒေဝါနံ။နတ်တို့
၏။သဟဗျတံ။ တကွဖြစ်သောအပေါင်းအဖော်၏အဖြစ်သို့။ ဂ
တာ။ရောက်ကုန်သည်ဖြစ်၍။ရမန္တိ။မွေ့လျော်ရကုန်၏။ ။က

တာဝကာသာ။ပြုအပ်ပြီးသောကျေးဇူးကိုရှိကုန်သော။ကတညုသလာ။ပြုအပ်သောကျေးဇူးကိုသိကုန်သောအသူ့ရှင်တို့သည်။ ဇုတော။ ဤလူ့ပြည်မှ။ စုတာ။ စုတေကုန်သည်ရှိသော်။ နန္ဒနေ။ နှစ်သက်ခြင်းကိုဖြစ်စေတတ်သောနတ်ပြည်၌။ သယမ္ဘာ။ မိမိ၏ အရောင်အဝါရှိကုန်၍။အနုဝိစရန္တိ။အစဉ်သွားရကုန်၏။ တေ။ထိုပြုအပ်ပြီးသော လှူဒါန်းခြင်း ကျေးဇူးကိုသိကုန်သော သူတို့သည်။ တတ္ထ။ ထိုနတ်ပြည်၌။ပဉ္စဟိကာမဂုဏေဟိ။ ငါးပါးကုန်သော ကာမဂုဏ်တို့နှင့်။သမပ္ပိတာ။ ပြည့်စုံကုန်သည်ဖြစ်၍။နန္ဒန္တိ။နှစ်သက်ရကုန်၏။ ရမန္တိ။ မွေ့လျော်ရကုန်၏။ မောဒရေ။ ဝမ်းမြောက်ရကုန်၏။ ။အသိတသ။ တဏှာဟူသောအနှောင်အဖွဲ့ဖြင့်နှောင်ဖွဲ့ခြင်းမရှိသော။ တာဒိနော။သည်းခံခြင်းရှိသောမြတ်စွာဘုရား၏။ဝါကျံ။စကားတော်ကို။ကတွာ။မချွတ်မယွင်းပြု၍။သဗ္ဗေ။ခပ်သိမ်းကုန်သော။ သုဂတသ။ မြတ်စွာဘုရား၏။သာဝကာ။တပည့်တို့သည်။ ရမန္တိ။ချမ်းသာသုံးတန်စံပျော်မွေ့လျော်ရကုန်၏။

ဒါနမည်သည်ကား။ အာမိသဒါန ဓမ္မဒါန၏အစွမ်းအားဖြင့်နှစ်ပါးအပြားရှိကုန်၏။ ထိုကြောင့်ဒုကအင်္ဂုတ္တိုရ်တတိယပဏ္ဏာသက၏တတိယဝဂ်၌။ ။ဒွေမာနိဘိက္ခဝေဒါနာနိ။ ကတမာနိ ဒွေ။အာမိသဒါနဉ္စဓမ္မဒါနဉ္စ၊ဣမာနိခေါဘိက္ခဝေဒွေဒါနာနိ။ ဧတဒဂ္ဂံဘိက္ခဝေ ဣမေသံဒွိန္နံဒါနာနံ ယဒိဒံဓမ္မဒါနံ။ ။ဟူ၍ဟောတော်မူသည်။ ။ဘိက္ခဝေ။ရဟန်းတို့။ ဒါနာနိ။ဒါနတို့သည်။ဣမာနိဒွေ။ဤနှစ်ပါးတို့တည်း။ ဒွေ။နှစ်ပါးတို့သည်။ ကတမာနိ။အဘယ်သည်တို့နည်းဟူမူကား။ အာမိသဒါနဉ္စ။ ပစ္စည်းလေးပါးဟူသောအာမိသကိုလှူခြင်းဒါန်း။ ဓမ္မဒါနဉ္စ။ဓမ္မဒါနဒါန်း။ ဣမာနိ။ဤသည်တို့တည်း။ဘိက္ခဝေ။တို့။ ဒွေ။နှစ်ပါးကုန်သော။ ဣမာနိခေါဒါနာနိ။ဤဒါနတို့သည်။သန္တိ။ရှိကုန်၏။ဘိက္ခဝေ။တို့။ ဣမေသံဒွိန္နံဒါနာနံ။ဤနှစ်ပါးကုန်သောဒါနတို့တွင်။ ယဒိဒံဓမ္မဒါနံ။ အကြင်ဓမ္မဒါနသည်။ အတ္ထိ။ရှိ၏။ ဧတံ။ထိုဓမ္မဒါနသည်။ အဂ္ဂံ။မြတ်

၏။ ။ထိုဒါနသည်များစွာသောသူတို့၏ချစ်အပ်သောအဖြစ်
အစရှိကုန်သောမျက်မှောက်၌ဖြစ်သောအကျိုးအထူး၊တမလွန်
၌ဖြစ်သော အကျိုးအထူးတို့ကို ရခြင်း၏အကြောင်း ဖြစ်သော
ကြောင့်မင်္ဂလာမည်၏။

ထိုအာမိသဒါနကိုပြုပြီး၍ဓမ္မဒါနဟူသည်ကား။ဤလောက၌
အချို့သော သူသည် နိဗ္ဗာန်သို့ ရောက်ခြင်း၏ အကြောင်း ဖြစ်
သော ကောင်း သော အကျင့်ကို ဟော၍လှူ၏။ ဤအလှူ သည်
ဓမ္မဒါနမည်၏။ ။ဒုကအင်္ဂုတ္တိုရ်အဋ္ဌကထာ။ ။ဤလောက၌
အချို့သောသူသည်ဤတရားတို့သည်ကုသိုလ်ဖြစ်ကုန်၏။ဤတ
ရားတို့သည်အကုသိုလ်ဖြစ်ကုန်၏။ ဤတရားတို့သည်အပြစ်နှင့်
တကွမကောင်းကျိုးကိုပေးတတ်၍ပညာရှိတို့ကဲ့ရဲ့ကုန်၏။ ဤ
တရား တို့သည် ချမ်းသာခြင်းနှင့်တကွ ကောင်းကျိုးကို ပေး
တတ်၍ ပညာရှိတို့ ချီးမွမ်းကုန်၏။ ဤတရားသည်ဝဋ်နှင့်ယှဉ်
၏။ ဤတရားသည် ဝဋ်မှ ထွက် မြောက်တတ်၏ ဟူ၍ အကု
သလကမ္မပထတရားတို့ကို ကြဉ်ရှောင် စိမ့်သော်ငှါ ကုသလ
ကမ္မပထတရားတို့၌တည်စိမ့်သော်ငှါတရားဟော၏။ ဤတရား
ဟောခြင်းသည်ဓမ္မဒါနမည်၏။ ။ထိုအာမိသဒါန၊ ဓမ္မဒါနနှစ်
ပါးတို့တွင်ဓမ္မဒါနသည် ခပ်သိမ်းသောအကျိုးတို့ထက် လွန်ကဲ
သည်၏အဖြစ်ကိုဟောတော်မူလိုသောမြတ်စွာဘုရားသည်။ ။
သဗ္ဗဒါနံဓမ္မဒါနံဇိနာတိ။သဗ္ဗရသံဓမ္မရသောဇိနာတိ။သဗ္ဗရတိံ
ဓမ္မရတိဇိနာတိ။ တဏှက္ခယောသဗ္ဗဒုက္ခံဇိနာတိ။ ။ဟူ၍ဓမ္မ
ပဒတဏှာဝဂ်၌ သိကြားမင်းအားဟောတော်မူ၏။ ။သဗ္ဗဒါ
နံ။ခပ်သိမ်းသောအလှူကို။ ဓမ္မဒါနံ။တရားတည်းဟူသောအလှူ
သည်။ဇိနာတိ။အောင်နိုင်၏။ သဗ္ဗရသံ။ခပ်သိမ်းသောအရသာ
ကို။ဓမ္မရသော။တရားတည်းဟူသောအရသာသည်။ ဇိနာတိ။
အောင်နိုင်၏။သဗ္ဗရတိံ။ခပ်သိမ်းသောမွေ့လျော်ခြင်းကို။ ဓမ္မရ
တိ။တရား၌မွေ့လျော်ခြင်းသည်။ ဇိနာတိ။ အောင်နိုင်၏။ သဗ္ဗ
ဒုက္ခံ။ခပ်သိမ်းသောဆင်းရဲကို။ တဏှက္ခယော။ အရဟတ္တမဂ်

သည်။ဇိနာတိ။ အောင်နိုင်၏။ ။စကြဝဠာတိုက်၌ဖြဟ္မာ့ပြည်တိုင်အောင် အခြားမရှိသည်ပြု၍ စည်းဝေး ကုန်သော ဘုရား ပစ္စေကဗုဒ္ဓါ ရဟန္တာတို့အား ဧကပ်ပျောညွှန့်၏ အတွင်းအရွက်နှင့်တူကုန်သောသက်န်းတို့ကိုလှူပြားသော်လည်း။ ထိုအစည်းအဝေး၌ လေးပုဒ်ရှိသောဂါထာဖြင့် ပြုအပ်သော တရားဟောခြင်းသည်သာလျှင်မြတ်၏။ ထိုသို့သဘောရှိသော အလှူသည် ထိုလေးပုဒ်သော ဂါထာ၏ တဆဲ့ခြောက်စိတ်တွင် တစိတ်ကို တဆဲ့ခြောက်ရပုံပြု၍ တစုသောအဘို့ကိုမထိုက်။ ။ဤသို့တရား ဟော ခြင်း တရား တော်ကို ပြသ သင်ကြား ခြင်း သည် ပဋ္ဌပြုန်သံသရာနှစ်ပါးကြီးပွါးကြောင်းဖြစ်၍မင်္ဂလာမည်၏။ ။အလုံးစုံသောဒါနမျိုး၏ကောင်းကျိုးကိုချီးမွမ်းတော်မူလို၍။ ပဋ္ဌနိပါတ်သုမနသုတ်၌။ ။ယထာပိစန္ဒောဝိမလော။ဂစ္ဆံအာကာသဓာတုယာ။ သဗ္ဗေတာရာဂဏေလောကေ။ အာဘာယအတိရောစတိ။ ။တထေဝသီလသမ္ပန္နော။ သဒ္ဓေါပုရိသပုဂ္ဂလော။ သဗ္ဗေမစ္ဆရိနောလောကေ။စာဂေနအတိရောစတိ။ ။ယထာပိမေဃောထနယံ။ဝိဇ္ဇုမာလီသတက္ကကု။ထလံနိန္နဉ္စပူရေတိ။အဘိဝဿံဝသုန္ဓရံ။ ။ဧဝံဒဿနသမ္ပန္နော။သမ္မာသမ္ဗုဒ္ဓသာဝကော။ မစ္ဆရိအဓိဂဏှာတိ။ ပဉ္စဌာနေဟိပဏ္ဍိတော။ ။ဟူ၍ဟောတော်မူအပ်၏။ ။ဝိမလော။ တိမ်တိုက်အညိုးအညစ်နှင်းမြူအသုရိန်တို့မှကင်းလွတ်သော။ စန္ဒောတာရကရာဇာ။ စန္ဒရာ ကြိုဟ်မင်းသည်။ အာကာသဓာတုယာ။ အဇဋာကာသ ယုဂန်ဝ၌။ ဂစ္ဆံ။ လှည့်လွန်းသည် ရှိသော်။ လောကေ။ ဩကာသ လောက၌။ သဗ္ဗေ။အလုံးစုံကုန်သော။တာရာဂဏေ။ကြယ်အပေါင်းတို့ကို။ အာဘာယ။မိမိအရောင်ဖြင့်။အတိရောစတိယထာ။လွှမ်းမိုး၍တင့်တယ်သကဲ့သို့။ တထေဝ။ထိုအတူလျှင်။ သီလသမ္ပန္နော။သီလနှင့်ပြည့်စုံသော။ သဒ္ဓေါ။သဒ္ဓါတရားရှိသော။ ပုရိသပုဂ္ဂလော။ ယောကျ်ားမြတ်ဖြစ်သောပုဂ္ဂိုလ်သည်။လောကေ။ သတ္တလောက၌။သဗ္ဗေ။ကုန်သော။မစ္ဆရိနော။ ဝန်တိုကုန်သောသူတို့ထက်။

စာဂေန။ ဝွန့်လွှာခြင်းဖြင့်။ အတိရောစတိ။ လွှမ်းမိုး၍တင့်တယ်၏။ ပိဋ္ဌမာလီ။ လျှပ်စစ်ပန်းလည်းရှိထသော။ သတက္ကကုဣ။ အထပ်တရာတိမ်လွှာလည်းရှိထသော။ မေဃော။ မိုယ်းကြီးသည်။ ထနယံ။ ထစ်ချုန်းလျက်။ ဝသုန္ဓရံ။ မြေပြင်အလုံးကို။ အဘိဝဿံ။ မွေ့သောအိုးပမာရွာသည်ရှိသော်။ ထလဉ္စ။ ကြည်းကုန်းမြင့်ခေါင်တောင်ပေါ်အလုံးကိုဎင်း။ နိန္နဉ္စ။ အိုင်ထုံးစလုတ်သမုဒ်သီတာမဟာမဟီ ကုန္နဒီ ချောင်းကမ်း အလုံးကိုဎင်း။ ပူရေတိယထာ။ ပြည့်စေသကဲ့သို့။ ဧဝံ။ ဤအတူ။ ဒဿနသမ္ပန္နော။ ဉာဏ်အမြင်ရှိသော။ သမ္မာသမ္ဗုဒ္ဓသာဝကော။ ဘုရားတပည့်ဖြစ်သော။ ပဏ္ဍိတော။ ပညာရှိသည်။ မစ္ဆရိ။ ဝန်တိုခြင်းရှိကုန်သောသူတို့ကို။ ပစ္စဋ္ဌာနေဟိ။ အသက်ရှည်ခြင်းအဆင်းလှခြင်းချမ်းသာခြင်းအခြံအရံများခြင်း အတွင်းအပသုံးဆောင်ရာ ရတနာပေါများခြင်း အကြောင်းငါးပါးတို့ဖြင့်။ အဓိဂဏှာတိ။ သာလွန်၏။ ။ဒါနဉ္စဟူသောမင်္ဂလာ၏နှစ်သာရနှင့်စပ်သောအဆုံးအဖြတ်ကား ပြီး၏။

---

၁၅။ ကုသလကမ္မပထတရားဆယ်ပါးကိုကျင့်ခြင်း။
ဓမ္မစရိယာမင်္ဂလာ။

ဆယ်ပါးသော ကုသလကမ္မပထတရားကို ကျင့်ကြောင်းဖြစ်သောစေတနာသည် ဓမ္မစရိယမည်၏။ ထိုစေတနာသည် ချမ်းသာသုံးပါးကို ဆောင်တတ်သည်၏အဖြစ်ကြောင့် မင်္ဂလာမည်၏။ ။ကုသလကမ္မပထတရားဆယ်ပါးမည်သည်ကား။ ကာယကံသုံးပါး၊ ဝစီကံလေးပါး၊ မနောကံသုံးပါးတည်း။ ထိုဆယ်ပါးသော ကုသလကမ္မပထတို့သည်ဓမ္မမည်၏။ အကျင့်သည်စရိယမည်၏။ ထိုဆယ်ပါးသောတရားတို့ကို ကျင့်ခြင်းသည်ဓမ္မစရိယမည်၏။ ထိုစရိယာပုဒ်၏အရဆယ်ပါးသော ကုသလကမ္မပထကို။ ကိုယ်နှုတ်နှလုံးသုံးပါးတို့ဖြင့်ကျင့်မှုသာလျှင် စရိယမင်္ဂလာမည်သောကြောင့် ထိုဓမ္မစရိယမင်္ဂလာသည်သိ

လမည်၏။ ထို့ကြောင့်မွေစရိယမင်္ဂလာအရ ဟောတော်မူလိုသောမြတ်စွာဘုရားသည်။ ။အပ္ပမာဒေါအမတံပဒံ။ ပမာဒေါပစ္စုနောပဒံ။ အပ္ပမတ္တာနမိယန္တိ။ ယေပမတ္တာမတာယထာ။ ။ ဟူ၍ဟောတော်မူ၏။ ။အပ္ပမာဒေါ။ ဒါနသီလစသောကုသလကမ္မပထတရားဆယ်ပါးတို့၌မမေ့မလျော့သောသူသည်။ အမတံ။ သေခြင်းကင်းသောနိဗ္ဗာန်သို့။ ပဒံ။ ရောက်ခြင်း၏ အကြောင်းတည်း။ ပမာဒေါ။ ဒါနသီလစသောကုသလကမ္မပထတရားဆယ်ပါးတို့၌မေ့လျော့သောသူသည်။ မစ္စုနော။ အဘန်တလဲလဲသေရခြင်း၏။ ပဒံ။ အကြောင်းတည်း။ အပ္ပမတ္တာ။ ဒါနသီလစသော်ကုသလကမ္မပထတရားတို့၌မမေ့မလျော့သောသူတို့သည်။ နမိယန္တိ။ သေသည်မမည်ကုန်။ ယေ။ အကြင်သူတို့သည်။ ပမတ္တာ။ ဒါနသီလစသော ကုသလ ကမ္မပထတရားတို့၌ မေ့လျော့ကုန်၏။ တေ။ ထိုကုသလကမ္မပထတရားတို့၌မေ့လျော့သောသူတို့သည်။ ဇီဝန္တာပိ။ အသက်ရှိကုန်လျက်လည်း။ မတာယထာ။ သေသည်မည်ကုန်၏။

ဒါနသီလစသောကုသလကမ္မပထတရားဆယ်ပါးတို့ကို မမေ့မလျော့ ကျင့်လေ့ ဆောက်တည်လေ့ ရှိသောသူတို့ သည်သေးမရှိသောနိဗ္ဗာန်သို့ ရောက်စေတတ်သော အကြောင်းဖြစ်၍။ နိဗ္ဗာန်သို့မရောက်မီအကြားဘဝတို့၌သေရငြားသော်လည်းသေသည်မမည်ကုန်။ အကြင်သူသည် ထိုတရားတို့၌မေ့လျော့ကုန်၏။ ထိုသူတို့သည်အဘန်တလဲလဲသေရလေသည်မည်ကုန်၏။ ထို့ကြောင့်။ ။ယောစဝဿသတံဇီဝေ။ ဒုဿီလောအသမာဟိတော။ ဧကာဟံဇီဝိတံသေယျော။ သီလဝန္တဿဈာယိနော။ ။ ဒုဿီလော။ သီလမရှိသော။ အသမာဟိတော။ သီလနှင့်မပြည့်စုံသော။ ယော။ အကြင်သူသည်ကား။ ဝဿသတံ။ အနှစ်တရာတိုင်တိုင်။ ဇီဝေ။ အသက်ရှည်ငြားအံ့။ တဿ။ ထိုသူ၏။ ဇီဝိတံ။ အသက်ရှည်ခြင်းသည်။ န သေယျော။ မမြတ်။ ဈာယိနော။ မကောင်းမှုကိုဘုတ်ကြည်းတတ်သော။ ဝါ။ အကုသလကမ္မပထ

တရား ဆယ်ပါးတို့ကို ပယ်ရှား သန့်စင် လေ့ရှိသော။ သီလ ဝန္တဿ။ သီလရှိသောသူအား။ ဝါ။ သီလနှင့်ပြည့်စုံသောသူ အား။ဧကာဟံ။တရက်မျှ။ဇီဝိတံ။အသက်ရှည်ရခြင်းသည်။ ဝါ။ တမိနစ်တစသ္ဒိတနာရီမျှအသက်ရှည်ရခြင်းသည်။ သေယျော။ မြတ်လှ၏။ ။ထိုကြောင့်သီလမရှိမူ၍လျှင် အသက်တရာပင် နေရ ငြားသော်လည်း။ သီလဖြင့်ပြည့်စုံလျက် တနာရီမျှနေ၍ သေရလေသောသူကဲ့သို့ မမြတ်သလျှင် ကတည်း။ ။ထို ကြောင့်စောင့်ရှောက်အပ်ကျင့်အပ်သောသီလကိုကျောက်ထီး ကဲ့သို့ အလေးအမြတ် စောင့်ရှောက်အပ်သော အကြောင်းကို ဟောတော်မူလိုသောမြတ်စွာဘုရားသည်။ ။ကာယေစဇီဝိ တေစ အနပေက္ခိတွာ သီလသံဝါတံ ကုသလဓမ္မမေဝ အဘိ သက္ကစ္စံဂရုံကတွာရက္ခိတဗ္ဗံ။ ။ဟူ၍ဟောတော်မူ၏။ ။ကာ ယေစ။ကိုယ်ကိုငဲ့။ဇီဝိတေစ။အသက်ကိုငဲ့။အနပေက္ခိတွာ။ မရေတွက်မူ၍။သီလသံဝါတံ။ သီလဟုဆိုအပ်သော။ ကုသလ ဓမ္မမေဝ။ ကုသလကမ္မပထတရားဆယ်ပါးဟူသောကုသိုလ် တရားကိုသာလျှင်။အဘိသက္ကစ္စံ။ အလွန်ရိုသေစွာ။ ဂရုံကတွာ။ ကျောက်ထီးကဲ့သို့ အလေးအမြတ်ပြုသည်ဖြစ်၍။ ဝါ။ လူနတ် နိဗ္ဗာန်သုံးတန်ရသောမြတ်ချမ်းသာကို မှန်စွာဆတ်ဆတ်ပေးပေ တတ်သောတရားဟု အလေးအမြတ်ပြုသည်ဖြစ်၍။ ရက္ခိတဗ္ဗံ။ စောင့်ရှောက်ကျင့်ပေအပ်၏။ ။ထိုတရား၏အနက်အဓိပ္ပါယ် အရစောင့်ရှောက်ထိန်းသိမ်းကျင့်ပေအပ်သော ကုသလကမ္မပ ထတရားဆယ်ပါးကို ကျောက်ထီးကဲ့သို့ အလေးအမြတ်ပြုပိမ့် သော၍၊ ထိုသီလတည်းဟူသောတရားမှတပါးကိုးကွယ်ရာမ ရှိသောသာသနာတော်တွင်း၌ ရောက်လာသောအမျိုးကောင်း သားတို့အားဟောကြားတော်မူလိုသည်ဖြစ်၍။ ။သာသနေ ကုလပုတ္တာနံ။ပတိဋ္ဌာနတ္ထိယံဝိနာ။ အာနိသံသပရိစ္ဆေဒံ။တဿ သီလဿဝဏ္ဏဒေ။ ။ဟူ၍ဝိသုဒ္ဓိမဂ်၌လာ၏။ ။သာသနေ။ မြတ်စွာဘုရားသာသနာတော်၌။ ကုလပုတ္တာနံ။ အမျိုးကောင်း

သားတို့၏။ ယံ။ အကြင်သီလတည်းဟူသောကုသလဓမ္မကို။ ဝိနာ။ကြဉ်၍။ပတိဋ္ဌာ။မှီခိုကိုးကွယ်ရာသည်။ နတ္ထိ။မရှိ။တံ။ထိုသီလတည်းဟူသောကုသလကမ္မပထတရား၏။အာနိသံသပရိတ္တေ။ အကျိုးဆက်၏အပိုင်းအခြားကို။ကော။အဘယ်သူသည်။ ဝဒေ။ ပြောဆိုနိုင်အံ့နည်း။ ။ထိုသာသနာတော်တွင်း၌ရောက်လာသောအမျိုးကောင်းသားတို့သည်။ သီလတည်းဟူသောတရားမှတပါးကိုးကွယ်ရာမရှိသည်ဖြစ်၍။ ထိုသီလတည်းဟူသော ကုသလကမ္မပထတရားကိုကိုးကွယ်အပ်သည့်အတိုင်း။ ကိုးကွယ် ကျင့်ဆောင်တတ်သော အမျိုးကောင်းသားတို့အား။ ဒိဋ္ဌဓမ္မအကျိုးသမ္ပရာယိကအကျိုးနှစ်ပါးတို့နှင့် ပြည့်စုံ နိုင်သည်၏ အဖြစ်ကိုဟောတော်မူလို၍ဝိသုဒ္ဓိမဂ်၌။ ။သီလဝန္တံ နဗာဓေန္တိ။အာသဝါဒိဋ္ဌဓမ္မိကာ။သမ္ပရာယိကဒုက္ခာနံ။မူလံခနတိသီလဝါ။ ။ဟူ၍ဟောတော်မူ၏။ ။သီလဝန္တံ။သီလရှိသော။ဝါ။သီလနှင့်ပြည့်စုံသော သီလဝန္တပုဂ္ဂိုလ်ကို။ ဒိဋ္ဌဓမ္မိကာ။ မျက်မှောက်သောကိုယ်၏အဖြစ်၌ဖြစ်ကုန်သော။အာသဝါ။ ဝဓဗန္ဓနစသောသတ်ခြင်း နှောင်ဖွဲ့ခြင်းတည်းဟူသော အာသဝေါ တရားတို့သည်။ နဗာဓေန္တိ။ မနှိပ်စက်မညှဉ်းဆဲနိုင်ကုန်။ သမ္ပရာယိကဒုက္ခာနံ။တမလွန်၌ရောက်အပ်သောဒုက္ခ။ ဝါ။သံသရာဘဝ၌ကြုံအပ်သောဒုက္ခတို့၏။မူလံ။အမြစ်ကို။သီလဝါ။သီလရှိသောသီလဝန္တပုဂ္ဂိုလ်သည်။ဝါ။သီလနှင့်ပြည့်စုံသောသူသည်။ခနတိ။တူးဖြိုဖျက်ဆီးနိုင်၏။ ။ထိုစောင့်ရှောက်အပ်သောကုသလကမ္မပထတရားတို့ကို စောင့်ရှောက် တတ်သော သီလနှင့် ပြည့်စုံသောသူသည် မျက်မှောက်၌ တွေ့အပ်သောဒုက္ခ၊ တမလွန်၌တွေ့အံ့သော ဒုက္ခတို့၏ အရင်း အမြစ်တို့ကို တူးဖြို ချတ်ထွင်သုတ်သင်ရှင်းလင်း နိုင်သည်၏အဖြစ်ကြောင့်။ ပဋ္ဌပ္ပန်သံသရာနှစ်ဖြာသောချမ်းသာစီးပွါးကို ကောင်းစွာဆောင်စေတတ်၏။ ထိုကြောင့်သီလတည်းဟူသော ကုသလကမ္မပထတရားဆယ်ပါးကိုစောင့်ရှောက်ကြောင်းကျင့်ကြောင်းဖြစ်သော စေတနာ

သည်ဓမ္မစရိယမင်္ဂလာမည်၏။ ထိုကြောင့်အရှိအသေအလေးအမြတ်ကျင့်ဆောက်တည်အပ်ကြောင်းကိုဗိသုဒ္ဓိမဂ်၌။ ။ကိကီဝအဏ္ဍ စမရိဝဝါလဓိ ။ပိယံဝပုတ္တံနယနံဝဧကကံ။ တထေဝသီလံအနုရက္ခမာနကာ။ သုပေသလာ ဟောထသဒါသဂါရဝါ။ ။ဟု၍ ဟောတော်မူသည်။ ။ကိကီ။ တီတီတွတ် ငှက်သည်၊ အဏ္ဍံ။ မိမိအဥကို၊ အနုရက္ခတိ ဣဝ။ အစဉ်စောင့်ရှောက်သကဲ့သို့ငှင်း။ စာမရီ။ စာမရီအမည်ရှိသောသားသည်၊ ဝါလဓိံ။ မိမိ၏အမြီးကို။ အနုရက္ခတိ ဣဝ။ အစဉ်စောင့်ရှောက်သကဲ့သို့ငှင်း၊ ဧကပုတ္တာ။ တယောက်ထည်းသောသား၏မိခင်သည်။ ပိယံ။ ချစ်ဖွယ်ရှိသောသားကို။ အနုရက္ခတိ ဣဝ။ အစဉ်စောင့်ရှောက်သကဲ့သို့ငှင်း။ နယနံ။ မျက်စေ့တလုံးသာရှိသောသူသည်။ ဧကကံ။ တလုံးတည်းသော မျက်စေ့ကို။ အနုရက္ခတိ ဣဝ။ အစဉ် စောင့်ရှောက်သကဲ့သို့ငှင်း။ တထေဝ။ ထိုအတူပင်လျှင်။ သီလံ။ သီလဟူသောကုသလကမ္မပထတရားဆယ်ပါးကို။ အနုရက္ခမာနကာ။ အစဉ်စောင့်ရှောက်ကုန်သည်။ သုပေသလာ။ သီလဟူသောကုသလကမ္မပထ တရားကို ချစ်မြတ်နိုးကုန်သည်။ သဒါ။ အခါခပ်သိမ်း။ သဂါရဝါ။ အရှိအသေအလေးအမြတ်ပြုကုန်သည်။ ဟောထ၊ ဖြစ်ကြကုန်လော့။ ။ဓမ္မစရိယာဟူသောမင်္ဂလာ၏နှစ်သာရကားပြီး၏။

---

## ၁၆။ ဆွေမျိုးကိုသင်္ဂြိုဟ်ထောက်ပံ့ခြင်း၊ ဉာတကသင်္ဂဟမင်္ဂလာ။

အမိမှငှင်းအဘမှငှင်းခုနစ်ဆက်မြောက်ဖြစ်သော အတ္တိုတိုင်အောင်စပ်ကုန်သောသူတို့သည်။ ။ဉာယန္တေ အမှာကံဣမေတိဉာတကာ။ ။ဟူသော ဝစနတ္ထနှင့်အညီ။ ဤသူတို့သည်ကား ငါတို့၏ အတွင်း သား တို့တည်းဟု သိအပ် ကုန် သောကြောင့်ဉာတိမည်ကုန်၏။ ပည်းစိမ်ပျက်စီးခြင်း၊ ရောဂါဘေး

ဒေါ်ရန်သူနှိပ်စက်ခြင်းအစရှိသောအကြောင်းတို့ကြောင့်။ မိမိ၏အနီးသို့လာရောက်ကုန်သော ထိုဉာတိတို့ကိုမိမိအစွမ်းအားလျော်စွာ။ အစားအဝတ်ဥစ္စာစပါးအစရှိသည်တို့ဖြင့်သင်္ဂြိုဟ်ထောက်ပံ့ခြင်းသည်။ အဆွေအမျိုးတို့အား ထောက်ပံ့သင်္ဂြိုဟ်ခြင်းမည်၏။ ထိုအဆွေအမျိုးတို့အား သင်္ဂြိုဟ် ထောက်ပံ့ခြင်းသည်ချီးမွမ်းခြင်းအစရှိကုန်သော မျက်မှောက် အကျိုးကိုရင်း။ သုဂတိဘဝသို့လားရခြင်းအစရှိကုန်သော တမလွန်အကျိုးထူးတို့ကိုရင်းရခြင်း၏ အကြောင်း ဖြစ်သောကြောင့် မင်္ဂလာမည်၏။ ထိုကြောင့်အဆွေအမျိုးတို့အား သင်္ဂြိုဟ်ထောက်ပံ့ခြင်းကိုပြုအပ်သည်သျှင်ကတည်း။

ထိုအဆွေ အမျိုးတို့ အား သင်္ဂြိုဟ် ထောက်ပံ့ ခြင်းကို ပြုသောသူသည်။ ဘုရားလောင်း၏ အတုကို ပြုသည် မည်၏။ ထိုစကား သည် မှန်၏။ ဘုရားလောင်း တို့သည် ဉာတတ္ထစရိယကို ကျင့်ကုန်လျက် ဆွေမျိုး တို့အား သင်္ဂြိုဟ် ထောက်ပံ့ခြင်းကို ပြုကုန်သသျှင် ကတည်း။ ထိုစကား၌။ လွန်လေပြီးသောအခါ။ ဘုရားလောင်း ကျီးဖြစ်၍ ရှစ်သောင်း သောအဆွေအမျိုးတို့ ခြံရံလျက် ထိုအဆွေအမျိုးတို့အား သင်္ဂြိုဟ်ချီးပင့်လျက်ဗာရာဏသီပြည်၏အနီးသုသာန်ကြီးရပ်၌နေစဉ်။ ဗာရာဏသီမင်းကြီး၏ ပုရောဟိတ် အမတ်သည်။ မိမိ၏ဦးခေါင်းသို့တချသော ကျီးမိုက်သည် မစင်တို့ဖြင့် စွန့်ပစ်ဘူး သောအကြောင်းကြောင့်။ ကျီးအပေါင်းတို့ကိုရန်ငြိုးပြု၍နေစဉ်။ တရံသောအခါ။ဗာရာဏသီမင်းကြီး၏ဆင်တော်တို့၌ မီးလောင်မာအနာတို့ကိုဆေးကုလေသောဟု မင်းကြီးသည်ပုရောဟိတ် အမတ်အားကြားလေသျှင်။ ပုရောဟိတ်သည်။ ထိုအခါ ငါ၏ဦးခေါင်းကိုမစင်ဖြင့်စွန့်၍ နှိပ်စက်ဘူးသောကျီးတို့ကိုသတ်အံ့ သောငှါအခွင့်ရပြီဟူ၍။ အရှင်မင်းကြီး။ ကျီးဆီတို့ကိုရသျှင် ကောင်း၏ဟုဆို၏။ မင်းကြီးသည်းကျီးဆီ ရစေလေသောဟုကျီးအပေါင်းတို့ကိုသတ်စေ၏။ထိုအခါ။ဘုရားလောင်းကျီး သည်ထိုအကြောင်း

ကိုသိ၍။ ငါတို့၏သွေးမျိုးတို့သည်ကား ကြီးစွာသောဘေးတို့သည်ရောက်ကုန်လတံ့။ ငါသည်။ဤသွေးမျိုးတို့အား သဖြူဟ်ထောက်ပံ့ခြင်းကိုပြုသဖြင့် ထိုဘေးမှလွတ်စေအံ့ဟုကြံ၍။ မိမိ၏ မေတ္တာပါရမီကိုပရမတ္ထ မြောက်စေသတည်းဟု ရည်သန်တော်မူ၍။ တဟုံခြင်းဖြင့် သာလျှင် လေသွန်ပြတင်းဝမှ ဝင်၍မင်း၏နေရာအောက်သို့ရောက်လေလျှင်။ အတန်ငယ်အပန်းဖြေ၍နေရာ။ အောက်မှထွက်ပြီးလျှင်။ အရှင်မင်းကြီး။ မင်းတို့မည်သည်ဆန္ဒာဂတိအစရှိသည့်၏အစွမ်းအားဖြင့်မလားမူ၍ မင်းပြုခြင်းငှါအပ်၏။ အကြင်အကြင် အမှုကိုပြု၏။ ထိုထိုအမှုကိုရှုစမ်းဆင်ခြင်၍ ပြုခြင်းငှါအပ်၏။ အကြင်အမှုသည်ပြုအပ်သည်ရှိသော်ပြီး၏။ ထိုအမှုကိုသာလျှင်ပြုအပ်၏။ မပြီးသော အမှုကိုမပြုအပ်။ရှေးမင်းတို့သည်။အကြင်အမှုကားပြု၍မပြီး။ ထိုအမှုကိုကားမပြုကုန်။ ပုရောဟိတ်သည် ငါတို့အမျိုးဇာတ်တို့အား ရန်ငြိုးဖွဲ့ခြင်း၏ အလိုသို့လိုက်သည်ဖြစ်၍။ မဟုတ် မမှန်သောစကားကိုဆို၏။ ငါတို့အမျိုးဇာတ်ဖြစ်သောကျီးတို့အားအဆီမည်သည်မရှိကုန်ဟူ၍ဆို၏။ ထိုစကားကိုကြား၍ မင်းသည်ကြည်ညိုသောစိတ်ရှိသည်ဖြစ်၍။ ထိုဘုရားလောင်းကျီးကို ရွှေဖြင့်ပြီးသောမြတ်သော အင်းပျဉ်၌နေစေ၍။ အကြိမ်တထောင် ချက်ကုန်သောဆီတို့ဖြင့်။အတောင်နှစ်ဘက်ကြားတို့ကို လိမ်းစေပြီးလျှင်။ ရွှေခွက်၌မင်းသည်စားခြင်းငှါထိုက်သော သုဓါဘုတ်ကိုကျွေးပြီးလျှင်။ပညာရှိကျီးမင်း။ကျီးတို့အား အဆီမရှိခြင်းသည်အဘယ့်ကြောင့် နည်းဟုမေးလေလျှင်။ မင်းကြီးအားကျီးတို့တွင်အဆီမရှိကြောင်းကို ဟောလိုရကား။ ဧကနိပါတ် ရုဒ္ဒသမဝဂ်ကာကဇာတ်၌။ ။နိစ္စံ ဥဗ္ဗိဂ္ဂဟာဒယာ။ သဗ္ဗလောကဝိဟေသိတာ။တသ္မာ နေသံ ဝသာ နတ္ထိ။ ကာကာနမှာကံ ဉာတိနံ။ ။ဟူသောဂါထာကိုဆို၏။ ။မဟာရာဇ။မြတ်သောမင်းကြီး။ကာကာနံ။ကျီးတို့မည်သည်ကား။နိစ္စံ ဥဗ္ဗိဂ္ဂဟာဒယာ။ အမြဲထိတ်လန့်သော စိတ်နှလုံးရှိကုန်၏။ သဗ္ဗလောကဝိဟေသိတာ။ ခပ်

သိမ်းကုန်သော လူတို့သည်- ၄ပ်စက်အပ်ကုန်၏။ တဘ္ဗာ။ ထိုကြောင့်။အမှာကာံ။ငါတို့၏။ဉာတိနံ။ အဆွေအမျိုးဖြစ်ကုန်သော။ နေသံကာကာနံ။ထိုကျီးတို့အား။ဝသာ။အဆီသည်။နတ္ထိ။ မရှိ။ ။ ထိုစကားကိုကြား၍။ မင်းကြီးသည်ဘုရားလောင်းကျီးကို မင်း၏အဖြစ်ဖြင့်ပူဇော်လေ၏။ ဘုရားလောင်းသည်လည်း မင်း၏အဖြစ်ကို မယူမူ၍။ ခပ်သိမ်းသော သတ္တဝါတို့အား ဘေးမဲ့ကိုတောင်းပြီးလျှင်။ မင်းအားပဉ္စသီလ၌တည်စေ၍။ မင်းရင်ပြင်မှ ဘဲလေ၏။ ။မင်းသည်ခပ်သိမ်းသောသတ္တဝါတို့အား ဘေးမဲ့ကိုပေး၍ ကျီးတို့အားဆံတဆဲ့ တစိတ်ချက်တို့ကို အထူးထူးသောဘောဇဉ်အရသာတို့ဖြင့်အမြဲကျွေးလေ၏။ ဘုရားလောင်းအားကားမင်း၏စားတော်ကိုသာလျှင်ကျွေးလေ၏။ (။ကာကဝဏ္ဏ။)

သတ္တနိပါတ်ဒုတိယဝဂ်၌လည်း။ မဟာကပိလ မျောက်မင်းသည်ခပ်သိမ်းသောအဆွေအမျိုး၌ ရောက်အံ့သော မင်းဘေးမှလွှတ်စေမည်ဟုရည်သန်တော်မူပြီးလျှင်။ ဗာရာဏသီမင်းကြီးအား။ ။ရဉ္ဉာရ ဋ္ဌဿ ယောဂ္ဂဿ။ ဗလဿ နိဂမဿစ။ သဗ္ဗေသံသုခံဧတဗ္ဗံ။ခတ္တိယေနပဇာနတာ။ ။ဟူသော ဂါထာကိုဆို၏။ ။မဟာရာဇ၊မြတ်သောမင်းကြီး။ရဋ္ဌဿစ။ ပြည်တိုင်းကားကိုရင်း။ယောဂ္ဂဿစ။ ဆင်မြင်းရထားစသောယာဉ်အပေါင်းကိုရင်း။ ဗလဿစ။ ရဲမက်စစ်သည်ဗိုလ်ပါအပေါင်းကိုရင်း။ နိဂမဿစ။ နိဂုံးရွာငယ်ဇနပုဒ်ကိုရင်း။ ဋ္ဌာဿ ရေနု။ အစိုးရသော။ခတ္တိယေန။ ခတ္တိယမဟာသာလအနွယ်ဖြစ်သော။ ပဇာနတာ။ အကြောင်း အကျိုး သိသော။ ရဉ္ဉာ။ မင်းသည်။ သဗ္ဗေသံ။ ခပ်သိမ်းကုန်သောသတ္တဝါအပေါင်းတို့၏။သုခံ။ ချမ်းသာရေကို။ ဧတဗ္ဗံ။ ရှာမှီးအပ်၏။ ။မြတ်သောအရှင်မင်းကြီး။ အရှင်မင်းကြီးတို့လူဖြစ်ရသည်ကား ဆိုဘွယ်မရှိ။ ငါတို့သည် တိရစ္ဆာန် ဖြစ်လျက်ပင်လျှင်။ နွယ်တန်း စသည်နှင့် ကိုယ်ကိုဆက်လျက် မိမိအမျိုးဇာတ်တို့ကို ဤမှာဘက်ကမ်းမှသည်ထို

မှာဘက်ကမ်းသို့ပို့ဆောင်၍ သေဘေးမှ လွှတ်နိုင်စေ၏။ ပြည့်တိုင်းကားစသော ဆင်းမြင်းရထားရဲမက်ဇနပုဒ်တို့ကို အစိုးရသောအရှင်မင်းကြီးတို့မှာမူကား။ ဆယ်ဖြာသောရာဇဓမ္မ လေးဝသောသင်္ဂဟတရား။ ခြောက်ပါးသော နာယကဂုဏ်တို့နှင့်ပြည့်စုံ ညီညွတ်စွာ မင်းပြုအပ်၏ဟု ဆိုလျှင်။ မင်းကြီးသည်မျောက်မင်းအား အလွန်ကြည်ညို၍။ မျောက်မင်းသည် မိမိအဆွေအမျိုး အပေါင်းတို့ကို နွယ်ဖြင့်မိမိကိုယ်ကို ဆက်၍ထိုမှာဘက်ကမ်းသို့ ကူးစေရာ။ ပြင်းထန်သော ဒဏ်ထိသည်ဖြစ်၍။ ခါးကျိုးသော ကိုယ်ရှိသော မဟာကပိလ မည်သောဘုရားလောင်းမျောက်မင်းကို ရွှေဖြင့်ပြီးသော ယာဉ်ဖြင့် ထမ်းစေ၍။ တိုင်းပြည်သို့ယူဆောင်ကိုးကွယ်လေ၏။ (။သတ္တနိပါတ်ဒုတိယဝဂ်မဟာကပိလဇာတ်။)

အကြင်သူသည်ကား။ များစွာသောဥစ္စာကိုရ၍။ မိမိလည်းမသုံးဆောင်။ ဆွေမျိုးတို့ကိုလည်းမသင်္ဂြိုဟ်။ ထိုသူကိုမယှက်ဌက်နှင့်တူသောသူဟူ၍ဆိုအပ်၏။ ထိုသို့သဘောရှိသောသူတို့၏ချမ်းသာခြင်းကို မင်းမီးအစရှိသောရန်သူအပေါင်းတို့ ဖျက်ဆီး၍ ပျက်စီး ခြင်းသို့ ရောက်လေ၏။ ထို့ကြောင့် အမိမှ ဌင်း။ အဘမှရင်းအထက်သို့ရင်း။ အောက်သို့ရင်း။ နွယ်သောအဆွေအမျိုးတို့အား။ ဧကနိပါတ်တတိယဝဂ်ကုရုင်္ဂဇာတ်၌။ ဘုရားလောင်းဒွေးမင်းသည် အဆွေအမျိုးဖြစ်သော ဒွေးအပေါင်းတို့ကိုသေဘေးမှလွှတ်စေသဖြင့် သင်္ဂြိုဟ်ထောက်ပံ့သကဲ့သို့ရင်း။ ဧကနိပါတ်ရုဒ္ဒသမဝဂ်ကာကဇာတ်၌ ဘုရားလောင်း ကျီးမင်းသည် အဆွေအမျိုး ဖြစ်သော ကျီးအပေါင်းတို့ကို သေဘေးမှလွှတ်စေသဖြင့်။သင်္ဂြိုဟ်ထောက်ပံ့သကဲ့သို့ရင်း။ သတ္တနိပါတ်ဒုတိယဝဂ် မဟာကပိလဇာတ်၌ မဟာကပိလမျောက်မင်းသည်အဆွေအမျိုးဖြစ်သော မျောက်အပေါင်းတို့အား သေဘေးမှလွှတ်စေသဖြင့်သင်္ဂြိုဟ်ထောက်ပံ့သကဲ့သို့ရင်း။ မိမိမိမိတို့မိဘနှစ်ပါးတို့မှ ဆက်ပွါးဆင်းသက်လာသောခုနစ်ဆက်သော အဆွေအ

မျိုးတို့အား မိမိတို့တွင်အင်ခွင်ဥစ္စာရှိလာသည်အား အလျောက်
ချီးမြှောက်သင်္ဂြိုဟ်ခြင်းကိုပြုထိုက်၏။ အင်ခွင်ဥစ္စာမဲ့သူမှာလည်း
ကာယကံမြောက်ကိုယ်ဖြင့်ထောက်၍ ချီးမြှောက်သင်္ဂြိုဟ်ခြင်း
ကိုပြုထိုက်၏ဟုဉာတကာနဉ္စသင်္ဂဟောဟူသောပါဌ်ကို ဟော
တော်မူသလျှင်ကတည်း။ ထိုသို့ဟောတော်မူသောတရားနှင့်အ
ညီ။ အဆွေအမျိုးတို့အားအာဏတ္တိကဖြင့်၎င်း။ သာဟတ္ထိကဖြင့်
၎င်း။ သင်္ဂြိုဟ်ချီးမြှောက် ထောက်ပံ့သောသူတို့သည် ပစ္စုပ္ပန်
သံသရာ နှစ်ပါးတွင် စီးပွါးချမ်းသာရသော အကြောင်းဖြစ်၍
မင်္ဂလာမည်၏။ ။ဉာတကာနဉ္စသင်္ဂဟောကထာမင်္ဂလာပြီး၏။

---

## ၁၇။ အပြစ်မရှိသောအမှုကိုပြုခြင်း။
## အနဝဇ္ဇကမ္မမင်္ဂလာ။

ဥပုသ်သုံးခြင်း၊ ဝေယျာဝစ္စ ကိုပြုခြင်း၊ အရံ ဥယျာဉ်ပျိုး
ခြင်း၊ တံတားဆောက်ခြင်း၊ လမ်းပြင်ခြင်း၊ ရေတွင်းရေကန်တူး
ခြင်းအစရှိသောအမှုတို့သည် အပြစ်မရှိသော အမှုမည်ကုန်၏။
ထိုအပြစ်မရှိဟူသောအတ္ထအရကားအနဝဇ္ဇတည်း။ ထိုဥပုသ်အ
စရှိသော ဆိုအပ်ပြီးသော အမှုဟူသော အတ္ထ အရကား ကမ္မ
တည်း။ ထိုဥပုသ်အစရှိသောဆိုအပ်ပြီးသောအပြစ်မရှိသောအ
မှုတို့ကိုပြုခြင်းသည်အနဝဇ္ဇကမ္မမည်သတည်း။ ထိုအနဝဇ္ဇကမ္မ
ဟုဆိုအပ်သောဥပုသ်သုံးခြင်း၊ ဝေယျာဝစ္စအမှုကိုပြုခြင်း၊ အ
ရံဥယျာဉ်ပျိုးခြင်း၊ တံတားဆောက်ခြင်း၊ လမ်းပြင်ခြင်း၊ ရေ
တွင်းရေကန်တူးခြင်းအစရှိသောအပြစ်မရှိသောအမှုတို့ကိုပြုရ
ခြင်းသည်။ လူနတ်နိဗ္ဗာန်သုံးတန်သော ချမ်းသာစီးပွါးကိုရစေ
တတ်သောအကြောင်းဖြစ်၍မင်္ဂလာမည်၏။ ။ထိုအမှုတို့တွင်
ဥပုသ်သည်။ ပကတိဥပုသ်၊ ပဋိဇာဂရဥပုသ်အားဖြင့်နှစ်ပါးအ
ပြားရှိ၏။ ထိုကြောင့်တိကနိပါတ်အင်္ဂုတ္တိုရ် ပဉ္စမပဏ္ဏာသအဋ္ဌ
ကထာ၌။ ။ဥပေါသထံဥပဝသန္တီတိမာသဿအဋ္ဌဝါရေဥ

ပေါသထင်္ဂါနိအမိဋ္ဌဟန္တိ။ ပဒိုဇာဂရေတ္တိတိပဋိဇာဂရဉပေါ
သထကမ္မံနာမကရောန္တိ။ တံကရောန္တာ ကောသ္ဇိအဒ္ဓမာသေ
စတုဒ္ဒသီဥပေါသထဒိဝသာနံပစ္စုဂ္ဂမနာနုဂမနဝသေနကရောန္တိ၊
ပဉ္စမီ ဥပေါသထံ ပစ္စုဂ္ဂစ္ဆန္တာ စတုတ္ထိယံ ဥပေါ သထိကာ
ဟောန္တိ။အနုဂစ္ဆန္တာ ဆဋ္ဌိယံ။အဋ္ဌမီဥပေါသထံပစ္စုဂ္ဂစ္ဆန္တာသတ္တ
မိယံအနုဂစ္ဆန္တာနဝမိယံ။စတုဒ္ဒသီဥပေါသထံပစ္စုဂ္ဂစ္ဆန္တာတေ
ရသမိယံ။ပန္နရသီဥပေါသထံအနုဂစ္ဆန္တာပါဋိပဒေဥပေါသထိ
ကာဟောန္တိ။ ။ဟူ၍ဆိုအပ်၏။ ။ဥပေါသထံဥပဝသန္တိတိ၊
ဥပေါသထံဥပဝသန္တိဟူသည်ကား။ မာသဿ။လ၏။ အဋ္ဌဝါ
ရေ။ရှစ်ကြိမ်၌။ဥပေါသထင်္ဂါနိ။ဥပုသ်အင်္ဂါတို့ကို။အဓိဋ္ဌဟန္တိ၊
ဆောက်တည်ကုန်၏။ ပဋိဇာဂရေန္တိတိ။ ပဋိဇာဂရေန္တိဟူ
သည်ကား။ ပဋိဇာဂရဉပေါသထကမ္မံနာမ။ ပဋိဇာဂရ ဥပုသ်
မည်သည်ကို။ကရောန္တိ။ပြုကုန်၏။ တံ။ထိုပဋိဇာဂရဥပုသ်ကို၊
ကရောန္တာ။ ဆောက်တည်ကုန်သောသူတို့သည်၊ ကောသ္ဇိအဒ္ဓ
မာသေ။တကြိမ်သောလခွဲ၌။စတုဒ္ဒသီဥပေါသထဒိဝသာနံ။ လေး
ရက်ကုန်သောဥပုသ်နေ့တို့ကို။ ပစ္စုဂ္ဂမနာနုဂမနဝသေန။ ကြို
ခြင်းပို့ခြင်း၏အစွမ်းအားဖြင့်။ကရောန္တိ။ ဆောက်တည်ကုန်၏။
ပဉ္စမီဥပေါသထံ။ပဉ္စမီဥပုသ်ကို။ ပစ္စုဂ္ဂစ္ဆန္တာ။ ကြိုကုန်သော
သူတို့သည်။ စတုတ္ထိယံ။ လေးရက်မြောက်နေ့၌။ ဥပေါသထိ
ကာ။ ဥပုသ်ဆောက်တည်ကုန်သည်၊ ဟောန္တိ။ဖြစ်ကုန်၏။ အ
နုဂစ္ဆန္တာ။ ပို့ကုန်သောသူတို့သည်၊ ဆဋ္ဌိယံ။ ခြောက်ရက်
မြောက်နေ့၌။ ဥပေါသထိကာ။ဥပုသ်ဆောက်တည်ကုန်သည်၊
ဟောန္တိ။ ဖြစ်ကုန်၏။ အဋ္ဌမီဥပေါသထံ။ ရှစ်ရက်နေ့ဥပုသ်ကို။
ပစ္စုဂ္ဂစ္ဆန္တာ။ ကြိုကုန်သောသူတို့သည်။ သတ္တမိယံ။ခုနစ်ရက်
နေ့၌။ဥပေါသထိကာ။ဥပုသ်ဆောက်တည်ကုန်သည်။ ဟောန္တိ၊
ဖြစ်ကုန်၏။ အနုဂစ္ဆန္တာ။ ပို့ကုန်သောသူတို့သည်။နဝမိယံ။ကိုး
ရက်နေ့၌။ ဥပေါသထိကာ။ ဥပုသ်ဆောက်တည်ကုန်သည်၊
ဟောန္တိ။ ဖြစ်ကုန်၏။ စာတုဒ္ဒသီဥပေါသထံ။ တဆဲ့လေးရက်

ဥပုသ်ကို။ပဋိဇာဂရဥပုသ်။ဆောက်တည်ကြကုန်သောသူတို့သည်။တေရသီမှစ၍။
တဆဲ့သုံးရက်နေ့၌။ဥပေါသထိကာ။ ဥပုသ်ဆောက်တည်ကုန်
သည်။ဟောန္တိ။ဖြစ်ကုန်၏။ ပန္နရသီဥပေါသထ။ ပန္နရသီဥပုသ်
ကို။အနုဂစ္ဆန္တာ။ပို့ကုန်သောသူတို့သည်။ပါဋိပဒေ။ အကြွက်တ
ရက်နေ့၌။ ဥပေါသထိကာ။ ဥပုသ်ဆောက်တည်ကုန်သည်။
ဟောန္တိ။ ဖြစ်ကုန်၏။ ။တဆဲ့လေးရက်ဥပုသ်အားအနုဂမနံမပို့
ခြင်းဥပုသ်ကိုမရသကဲ့သို့။ တဆဲ့ငါးရက်ဥပုသ်အားပစ္စုဂ္ဂမနံ
ကြိုခြင်းဥပုသ်ကိုမရအပ်။အဘယ့်ကြောင့်နည်းဟူမူကား။ နေ့မ
ရှိသောကြောင့်တည်း။ ။ထိုအဋ္ဌကထာ၏ဆိုကား။ ။ထို
ကျမ်းစကား၌ ဤဆိုလတံ့သည်ကားအဆုံးအဖြတ်တည်း။ ။
ငါးရက်ရှစ်ရက်တဆဲ့လေးရက် တဆဲ့ငါးရက်ဟူ၍ဆွန်းပက္ခ၌
လေးရက်။ ထို့အတူသွာတ်ပက္ခ၌ လေးရက်အားဖြင့်လ၏ ရှစ်
ရက်တို့သည် ပကတိဥပုသ်၏ ကာလ ဖြစ်ကုန်၏။ လေးရက်
ခြောက်ရက် ခုနစ်ရက် ကိုးရက် တဆဲ့သုံးရက်ဆွန်းပက္ခ၌ငါး
ရက်။ သပြည့်ကျော်တရက် လေးရက် ခြောက်ရက်ခုနစ်ရက်
ကိုးရက် တဆဲ့နှစ်ရက် တဆဲ့သုံးရက်တို့တွင် တရက်ရက်ကို
ထည့်၍။ သွာတ်ပက္ခ၌ခြောက်ရက်အားဖြင့်လ၏တဆဲ့တရက်
တို့သည် ပဋိဇာဂရဥပုသ်၏ကာလဖြစ်ကုန်၏။ ထိုမှတပါးကုန်
သော အပရိပုဏ္ဏလ၌ဆယ်ရက် ပရိပုဏ္ဏလ၌တဆဲ့တရက်တို့
သည်ဥပုသ်၏ ကာလမဟုတ်ကုန်။ ဥပုသ်ကိုမဆောက်တည်
သောသူသည် အလုံးစုံသောလပတ်လုံးလည်း ပဉ္စသီကိုစောင့်
ခြင်းငှါအပ်၏။ အလုံးစုံသောလသည်ပဉ္စသီ၏ကာလဖြစ်၏။ ဤ
ကားထိုကျမ်းစကား၌ အဆုံးအဖြတ်တည်း။ ။ဤသို့ဆိုအပ်ပြီး
သောစကားကိုလည်း။ ပါဋိဟာရိယပက္ခကိုမပြုသောသူ၏ အ
စွမ်းအားဖြင့်ဆိုအပ်၏။ ထိုပါဋိဟာရိယပက္ခကို ပြုသောသူ၏
ကာလကား။ရှိယ်းတွင်းလေးလတည်း။ ထိုကြောင့်ရာဇသုတ်အ
ဋ္ဌကထာ၌။ ။ပါဋိဟာရိယပက္ခောနာမအန္တောဝဿေ တေ
မာသံနိရန္တရုပေါသထောတဋ္ဌိအသက္ကောန္တဿ ဒွိန္နံပဝါရဏာနံ

အန္တရေကေမာသံနိဗဒ္ဓုပေါသထောတမ္ပိ အသက္ကောန္တဿ ပ
ထမပဝါရဏာတောပဋ္ဌာယ ဧကောအဍ္ဎမာသော ပါဋိဟာရိ
ယပက္ခောယေဝနာမ။ ဟူ၍ဆိုအပ်၏။ ။အန္တောဝသော
ဝ။ ဝါတွင်း၌လျှင်။ တေမာသံ။ သုံးလပတ်လုံး။ နိဗဒ္ဓုပေါသ
ထော။မပြတ်ဖြစ်သောဥပုသ်သည်။ ပါဋိဟာရိယပက္ခောနာမ
ပါဋိဟာရိယ ပက္ခ မည်၏။ တမ္ပိ။ ထိုဥပုသ် ကို လည်း။ အ
သက္ကောန္တဿ။ မစွမ်းနိုင်သောသူ၏။ ဒွိန္နံပဝါရဏာနံ။ နှစ်ပါး
ကုန်သောပဝါရဏာတို့၏။ အန္တရေ။အလယ်၌။ ကေမာသံ။တ
လပတ်လုံး။ နိဗဒ္ဓုပေါသထော။ မပြတ်ဖြစ်သောဥပုသ်သည်။
ပါဋိပါဟာရိယပက္ခော။ ပါဋိဟာရိယပက္ခမည်၏။ တမ္ပိ။ ထိုဥ
ပုသ်ကိုလည်း။ အသက္ကောန္တဿ။ မစွမ်းနိုင်သောသူ၏။ ပဉ္စမ
ပဝါရဏာတော။ ပဉ္စမပဝါရဏာမှ။ ပဋ္ဌာယ။စ၍။ဧကောအဍ္ဎ
မာသော။ တခုသောလခွဲသည်။ ပါဋိဟာရိယပက္ခောယေဝနာ
မ။ပါဋိဟာရိယပက္ခဥပုသ်၏ကာလမည်သလျှင်ကတည်း။
ပါဋိဟာရိယပက္ခဉ္စာတိ ပဋိဟာရကပက္ခဉ္စ စာတုဒ္ဒသီပန္နရသီ
အဋ္ဌမီနံ ယထာက္ကမံ အာဒိတောအန္တတော ပစ္စုဂ္ဂမနာနုဂမနဝ
သေနဥပေါသထသီလဿ ပဋိဇဂ္ဂနပက္ခဉ္စ။ တေရသီပါဋိပဒ
သတ္တမီနဝမီသုစာတိအတ္ထော။ ။ဥတ္တရိမာနအဋ္ဌကထာ။
ပါဋိဟာရိယပက္ခဉ္စာတိ။ ပါဋိဟာရိယပက္ခဉ္စဟူသည်ကား။ပဋိ
ဟာရကပက္ခဉ္စ။ဆန့်ကျင်ဘက်အကုသိုလ်ကိုပယ်သောအဘို့
၌လည်း။ စာတုဒ္ဒသီပန္နရသီအဋ္ဌမီနံ။ စာတုဒ္ဒသီပန္နရသီအဋ္ဌမီတို့
၏။ယထာက္ကမံ။အစဉ်အားလျော်စွာ။အာဒိတော။အစမှ၎င်း။အန္တ
တော။အဆုံးမှ၎င်း။ ပစ္စုဂ္ဂမနာနုဂမနဝသေန။ကြိုခြင်းပို့ခြင်းတို့
၏အစွမ်းအားဖြင့်။ဥပေါသထသီလဿ။ဥပုသ်သီလကို။ပဋိဇဂ္ဂ
နပက္ခဉ္စ။ကျင့်ဆောက်တည်ရာအဘို့၌လည်း။ တေရသီပါဋိပဒ
သတ္တမီနဝမီသုစ။ တဆဲ့သုံးရက်အထွက်တရက် ခုနစ်ရက်ကိုး
ရက်နေ့တို့၌လည်း။ဣတိအယံ။ ဤသည်ကား။ အတ္ထော။ အနက်
တည်း။ ။ဤအဋ္ဌကထာ၏အလိုအားဖြင့်စာတုဒ္ဒသီ၏အကြိုဖြစ်

သောတေရသိပဉ္စရသိ၏အတွဲဖြစ်သော ပါဠိပဒ။အဋ္ဌမိ၏အကြွံ ဖြစ်သော သတ္တမီအတွဲဖြစ်သော နဝမီရက်တို့သည် ပါဠိဟာရိ ယပက္ခမည်၏။ ။ဘုရားခွင့်ပြုတော်မူသောမာသပက္ခအတွဲ တို့၌ပါကတိဥပုသ်၊ပါဠိဇာဂရဥပုသ်၊ ပါဠိဟာရိယဥပုသ်နေ့တို့ တွင်။ရှစ်ပါးသော အင်္ဂါနှင့်ပြည့်စုံကုန်သောအဋ္ဌင်္ဂသီလ၊ ဆယ် ဆယ်ပါးသောအင်္ဂါတို့နှင့်ပြည့်စုံကုန်သော ဒသင်္ဂ သီလတို့ကို ကျင့်သုံး ဆောက်တည်ခြင်း၌ အပြစ်မရှိသော အဖြစ်ကြောင့် မင်္ဂလာမည်၏။ ထိုမင်္ဂလာမည်သောအပြစ်မရှိသောရှစ်ပါးသီ လဆယ်ပါးသီလတို့ကို ကျင့်သုံးဆောက်တည်ခြင်း တည်းဟူ သောသီလကုသိုလ်စေတနာတို့မှာမှုကား ဆိုဘွယ်မရှိသောအ အကျိုးထူးတို့ကိုပေးလေသည်၏အဖြစ်ကို။ ဝေယျာဝစ္စကရကို ပြုခြင်း၊ အရုံဥယျာဉ်ပျိုးခြင်း၊ တံတားဆောက်ခြင်း၊ လမ်းပြင် ခြင်း၊ ရေတွင်းရေကန်တူးခြင်းဟူသောအကျိုးဆက်တို့ကိုပြရာ ၌သိအပ်သလျှင်ကတည်း။ ။ထိုသို့အပြစ်မရှိသော ဝေယျာ ဝစ္စအမှုကိုပြုခြင်း၊ အရုံဥယျာဉ်ပျိုးခြင်း တံတားဆောက်ခြင်း၊ လမ်းပြင်ခြင်း၊ ရေတွင်းရေကန်တူးခြင်းဟူသော အပြစ်မရှိမင်္ဂ လာမည်သောအမှုတို့ကိုပြုခြင်း၌အကျိုးထူးမြတ်သည်၏အဖြစ် ကိုဤဝတ္ထုကိုထောက်၍သိအပ်ကုန်၏။

လွန်လေပြီးသောအခါ သာဝတ္ထိပြည်၌ တယောက်သောသိ တင်းသည်သည်။ တော၌နေကုန်သောရဟန်းတို့၏ရွာသို့ဆွမ်း ခံအံ့သောဌါလာရာခရီးအကြား၌ မညီညွတ်သည်ကို ညီညွတ် စွာပြုခြင်း၊ ဆူးခြောင့်တို့ကိုပယ်သုတ်သင်ခြင်း၊ သစ်ပင်ချုံတို့ကို ခုတ်ထွင်ခြင်း၊ သစ်မရှိသော အရပ်တို့၌ အရိပ်နှင့် ပြည့်စုံကုန် သောအရုံဥယျာဉ်တို့ကိုစိုက်ခြင်း၊ ရေချမ်းစသည်တို့ကိုတည် ခြင်း၊ စည်းစိမ်အားလျော်စွာ အလှူပေးခြင်း၊ သီလ ဆောက် တည်ခြင်းအပြစ်မရှိသောအမှုတို့ကိုပြု၍နောက်အဘို့၌သေလွန် လေလျှင်။ တာဝတိံသာနတ်ပြည်၌ တဆဲ့နှစ်ယူဇနာ ရှိသော ဗိမာန်၌နတ်သားဖြစ်၏။ ထိုနတ်သားကိုအရှင်မဟာမောဂ္ဂလာန်

မထေရ်ကပ်၍ဂါထာတို့ဖြင့်မေးတော်မူ၏။ ။ဥစ္စမိဒံမဏိထု ဏံဝိမာနံ။သမန္တတောဒွါဒသယောဇနာနိ။ကူဋာဂါရာသတ္တသ တာဥဠာရာ။ ဝေဠုရိယထမ္ဘာရုစိရတ္ထကာ။ ။သုဘာတတ္ထပိ ဝသိခါဒသိစ။ ဒိဗ္ဗာစ ဝီဏာ ပဝဒန္တိဝဂ္ဂု။ ဒိဗ္ဗရသာ ကာမဂု ဏေတ္ထပဉ္စ။နာရိယောစနစ္စန္တိသုဝဏ္ဏဆန္နာ။ ။ကေနတေတာ ဒိသောဝဏ္ဏော။ကေနတေဣဓမိဇ္ဈတိ။ ဥပ္ပဇ္ဇန္တိစတေဘောဂါ။ ယေကေစိမနသောပိယာ။ ပုစ္ဆာမိတံဒေဝမဟာနုဘာဝ။ ။မ နုဿဘူတောကိမကာသိပုညံ။ ကေနာသိဧဝဇ္ဇလိတာ နုဘာ ဝေါ။ ဝဏ္ဏောစတေသဗ္ဗဒိသာပဘာသတီ။ ။မဟာနုဘာဝ။ ကြီးသောအာနုဘော်ရှိသော။ဒေဝ။နတ်သား။တေ။သင်၏။ဣဒံဝိ မာနံ။-ဤဗိမာန်သည်။ ဥစ္စံ။ မြင့်၏။ မဏိထုဏံ။ ပဒုမရာဂအစရှိ သောပတ္တမြားဖြင့် ပြီးသောတိုင်ရှိ၏။ သမန္တတော။ ဗိမာန်၏ ထက်ဝန်းကျင်ဟူကုန်သောလေးမျက်နှာတို့၌။ ဒွါဒသယောဇနာ နိ။တဆဲ့နှစ်ယူဇနာတို့သည်။ဟောန္တိ။ဖြစ်ကုန်၏။ ကူဋာဂါရာ။ရု သစ်မွန်းချွန်တပ်ကုန်သောအဆောင်တို့သည်။ သတ္တသတာ။ ခု နစ်ရာရှိကုန်၏။ ဥဠာရာ။ ပြန့်ပြောကုန်၏။ ဝေဠုရိယထမ္ဘာ။ ကျောက်မျက်ရွဲတို့ဖြင့်ပြီးသောတိုင်ရှိကုန်၏။ ရုစိရတ္ထကာ။ ရွှေ ပျဉ်တို့ဖြင့်ခင်းအပ်ကုန်၏။ သုဘာ။တင့်တယ်ကုန်၏။ တတ္ထ။ထို ဗိမာန်၌။ပိဝသိ။သောက်သည်းသောက်၏။ခါဒသိ။ခဲလည်းခဲ ၏။ဝဂ္ဂု။သာယာကုန်သော။ ဒိဗ္ဗာစဝီဏာ။နတ်စောင်းတို့သည် လည်း။ပဝဒန္တိ။မြည်ကုန်၏။ ဧတ္ထ။ဤသင်၏ဗိမာန်၌။ ဒိဗ္ဗရသာ။ နတ်တို့၏အရသာနှင့်ပြည့်စုံကုန်သော။ ပဉ္စကာမဂုဏာ။ငါးပါး ကုန်သော ကာမဂုဏ်တို့သည်။ သံဝိဇ္ဇန္တိ။ ရှိကုန်၏။ သုဝဏ္ဏ ဆန္နာ။ ရွှေတန်းဆာဆင်ယဉ်ကုန်သော။ နာရိယောစ။ နတ်သမီး တို့သည်လည်း။ နစ္စန္တိ။ကကုန်၏။ ကေန။အဘယ်ကောင်းမှုအ ကျုးကြောင့်။တေ။သင်၏။ဝဏ္ဏော။အဆင်းသည်။ ဧတာဒိသော။ ဤသို့ သဘောရှိသနည်း။ ကေန။ အဘယ် ကောင်းမှု အကျုး ကြောင့်။တေ။သင်အား။ဣဓ။ဤအရပ်၌။သုစရိတဖလံ။ သုစရိုက်

အကျိုးသည်။ဗုဿတိ။ပြည့်စုံသနည်း။ တေ။သင်အား။ယေကေ
စိ။ခပ်သိမ်းကုန်သော။ မနသောပိယာ။ စိတ်သည်ချစ်အပ်ကုန်
သော။ ဘောဂါစ။ အသုံးအဆောင်တို့သည်လည်း။ ကေန။ အ
ဘယ်ကောင်းမှု အထူးကြောင့်။ ဥပ္ပဇ္ဇန္တိ။ မပြတ်ဖြစ်ကုန်သ
နည်း။တံ။သင့်ကို။ ပုစ္ဆာမိ။ငါမေး၏။မနုဿဘူတော။ လူဖြစ်၍
ဖြစ်သောသင်သည်။ကိံ ပုညံ။အဘယ်ကောင်းမှုကို။အကာသိ။
ပြုသနည်း။ကေန။အဘယ်ကောင်းမှုအထူးကြောင့်။ ဧဝံ။ဤသို့။
ဇလိတာနုဘာဝေါ။ထွန်းပသောအာနုဘော်ရှိသည်။ အသိ။ဖြစ်
သနည်း။ တေ။သင်၏။ဝဏ္ဏောစ။အဆင်းသည်လည်း။ ကေန။အ
ဘယ်ကောင်းမှုအထူးကြောင့်။ သဗ္ဗဒိသာ။ ခပ်သိမ်းကုန်သော
အရပ်တို့ကို။ပဘာသတိ။ထွန်းပသနည်း။ ။ဤသို့အရှင်မောဂ္ဂ
လာန်မထေရ်မေးအပ်သောနတ်သားသည်ပြဿနာကိုဖြေလိုရ
ကား။ ဤဂါထာတို့ကိုဆို၏။ ။အဟံမနုဿေသု မနုဿဘူ
တော။ ပဝနေပထေသက်မနံအကာသိ။ အာရာမရုက္ခာနိရော
ပေသိ။ ပိယာစမေသီလဝန္တော အဟောသုံ။ ။အန္နဉ္စပါနဉ္စပ
သန္နစိတ္တော။ သက္ကစ္စဒါနံဝိပုလံအဒါသိ။ တေနမေ တာဒိသော
ဝဏ္ဏော။ တေနမေဣဓသမိဇ္ဈတိ။ ။ဥပ္ပဇ္ဇန္တိစမေဘောဂါ။ယေ
ကေစိမနသောပိယာ။တေနမှိဧဝံဇလိတာနုဘာဝေါ။ဝဏ္ဏောစ
မေသဗ္ဗဒိသာပဘာသတိ။ ။ဘန္တေ။ အရှင်ဘုရား။ အဟံ။ အ
ကျွန်ုပ်သည်။မနုဿေသု။လူတို့အတွင်း၌။မနုဿဘူတော။လူဖြစ်
၍ဖြစ်လတ်သော်။ ပဝနေ။တော၌။ ပထေ။ခရီး၌။ သက်မနံ။တံ
တားကို။ အကာသိ။ပြုခဲ့၏။အာရာမရုက္ခာနိ။ အရံသစ်ပင်တို့ကို။
တနည်းကား။ အာရာမရုက္ခာနိ။ အရံကိုပြု၍ သစ်ပင် မရှိ သော
ထိုအရပ်၌သစ်ပင်တို့ကို။ အဝရောပေသိ။ စိုက်ပျိုးခဲ့၏။ မေ။အ
ကျွန်ုပ်သည်။သီလဝန္တော။သီလရှိကုန်သောအရှင်မြတ်တို့ကို။ပိ
ယာစ။ ချစ်အပ်ကုန်သည်လည်း။ အဟောသုံ။ဖြစ်ကုန်၏။ အန္နဉ္စ။
ဆွမ်းကိုရင်း။ ပါနဉ္စ။အဖျော်ကိုရင်း။ ပရိစ္စဇန္တော။ စွန့်လျက်။ပ
သန္နစိတ္တော။ ကြည်ညိုသောစိတ်ရှိသည်ဖြစ်၍။ သက္ကစ္စံ။ရိုသေ

စွာ။ဝိပုလံ။ပြန့်ပြောသော။ဒါန်။အလှူကို။အခါသိ။လှူခဲ့၏။တနည်းကား။ဒါန်။အလှူကို။ဝိပုလံ။ပြန့်ပြောစွာ။အခါသိ။လှူခဲ့၏။ကထံ။အသို့လှူခဲ့သနည်းဟူမူကား။ ပသန္နစိတ္တော။ကြည်ညိုသောစိတ်ရှိသည်ဖြစ်၍။ သက္ကစ္စံ။ ရိုသေစွာ။ အခါသိ။လှူခဲ့၏။ ကိံဒိသံ။ အဘယ်သို့သဘောရှိသောအလှူကို။ အခါသိ။ လှူခဲ့သနည်း ဟူမူကား။ အန္နဉ္စ။ဆွမ်းကို၎င်း။ ပါနဉ္စ။ အဖျော်ကို၎င်း။ အခါသိ။လှူခဲ့၏။တေန။ထိုကောင်းမှုအထူးကြောင့်။ မေ။အကျွန်ုပ်၏။ဝဏ္ဏော။အဆင်းသည်။ ဧတာဒိသော။ ဤသို့သဘောရှိ၏။ တေန။ ထိုကောင်းမှုအထူးကြောင့်။ မေ။ အကျွန်ုပ်အား သုစရိုက်အကျိုးသည်။ဣဓ။ဤအရပ်၌။ သမိဇ္ဈတိ။ပြည့်စုံ၏။တေန။ထိုကောင်းမှုအထူးကြောင့်။ယေကေစိ။ခပ်သိမ်းကုန်သော။ မနသော ပိယာ။စိတ်သည် ချစ်အပ်ကုန်သော။ ဘောဂါစ။ စည်းစိမ်တို့သည်လည်း။မေ။အကျွန်ုပ်အား။ဥပ္ပဇ္ဇန္တိ။ မပြတ်ဖြစ်ကုန်၏။တေန။ထိုကောင်းမှုအထူးကြောင့်။ အဟံ။အကျွန်ုပ်သည်။ ဧဝံ။ဤသို့။ဇလိတာနုဘာဝေါ။ထွန်းပသောအာနုဘော်ရှိသည်။အမှိ။ဖြစ်၏။တေန။ထိုကြောင့်။မေ။အကျွန်ုပ်၏။ဝဏ္ဏောစ။အဆင်းသည်လည်း။သဗ္ဗဒိသာ။ ခပ်သိမ်းသောအရပ်မျက်နှာတို့ကို။ ပဘာသတိ။ ထွန်းပ၏။ (။မဏိထူဏာဝိမာနအဋ္ဌကထာလာသာသိတင်းသည်ဝတ္ထု။)

ဤသို့အနဝဇ္ဇာနိ ကမ္မာနိဟူသောပုဒ်၌ ဥပုသ်သုံးခြင်းအစရှိသော ဆိုအပ်ခဲ့ပြီးသော အပြစ်မရှိသော အမှုတို့ကို ပြုရခြင်းတည်းဟူသော ကုသလကမ္မစေတနာသည်။ လောကီ လောကုတ္တရာအစီးအပွါးကိုမချွတ်ဖြစ်စေတတ်သောကြောင့်။ ထိုအနဝဇ္ဇကမ္မသည်မင်္ဂလာမည်၏။ ။အနဝဇ္ဇကမ္မကထာပြီး၏။

---

## ၁၈။ မကောင်းမှုမှဝေးစွာရှောင်ကြဉ်ခြင်း။
## ပါပအာရတိဝိရတိမင်္ဂလာ။

မကောင်းမှု၌ အပြစ်ကိုရှုသောသူ၏စိတ်ဖြင့်သာလျှင် ကြဉ်

ခြင်းသည်အာရုံတိမည်၏။ကမ္မဒွါရ၏အစွမ်းအားဖြင့်ကိုယ်နှုတ်
တို့ဖြင့်ကြည်ခြင်းသည်ဝိရတိမည်၏။ ထိုဝိရတိသည်သမ္ပတ္တဝိရ
တိ၊သမာဒါနဝိရတိ၊သမုစ္ဆေဒဝိရတိဟူ၍သုံးပါးအပြားရှိ၏။ယ
ရအခါ၌အဖွဲ့သာလိနီအစရှိသည်တို့၌ဆိုအပ်သောနည်းဖြင့်။ဝိရ
တိသုံးပါးတို့၏သရုပ်ကိုဆိုအပ်၏။ ထိုသုံးပါးကုန်သော ဝိရတိ
တို့တွင်။ မိမိ၏အမျိုးအားဖြင့်အရွယ်အားဖြင့်အကြားအမြင်များ
သည်၏အဖြစ်အစရှိသည်တို့ကိုဆင်ခြင်ကုန်၍ ငါတို့အား၍သို့
သဘောရှိသော အမှုကိုပြုခြင်း၌ါ မလျောက် ပတ်ဟု ရောက်
သောဝတ္ထုကို။ မလွန်ကျူးကုန်ဘဲဆောက်တည်သောသိက္ခာ
ပုဒ်မရှိကုန်သောသူတို့အား ဖြစ်သောဝိရတိကို။ သီဟိုဠ်ကျွန်း၌
စက္ကနသိတင်းသည်၏ ဝိရတိကဲ့သို့သမ္ပတ္တဝိရတိမည်၏ဟူ၍
သိအပ်၏။ ။ယောသိက္ခာပဒါနိ အဂဟေတွာ ကေဝလံအတ္တ
နောဇါတိကုလပ္ပဒေသာဒီနိအနုဿရိတွာန မေတ္တာဒံပတိရူပ ်တိ
ပါဏာတိ ပါတာဒီနိ နကရောတိ သမ္ပတ္တဝတ္ထုံ ပရိဟရတိတ
ဿာရမတိတဿသာဝိရတိသမ္ပတ္တဝိရတီတိဝေဒိတဗ္ဗာ။
အဖွဲ့ဘဂ္ဂေဇာတိတဟောတုပိ ပါဏံနဟနာမိတိဝါ။ ပါဏာတိပါ
တာဝိရမာမိတိဝါ။ ဝေရဏီံသမာဒိယာမိတိဝါဇာဝံသိက္ခာပဒါ
နိဂဏှန္တဿသပနဝိရတိသမာဒါနဝိရတိ။ ။ကျူဠ်နိဿယုတ်အဖွ
ကထာ။ ။ယော။အကြင်သူသည်။သိက္ခာပဒါနိ။သိက္ခာပုဒ်တို့
ကို။အဂဟေတွာ။မယူမူ၍။ ကေဝလံ။သက်သက်။အတ္တနော။မိမိ
၏။ဇါတိကုလပ္ပဒေသာဒီနိ။ အနွယ်အမျိုးအရပ်အစရှိသည်တို့
ကို။အနုဿရိတွာ။အောက်မေ့၍။ ဣဒံ။ ဤပါဏာတိပါတအစရှိ
သောအမှုသည်။မေ။ငါ့အား။နပတိရူပံ။မလျောက်ပတ်။ဣတိ။ဤ
သို့နှလုံးသွင်း၍။ ပါဏာတိ ပါတာဒီနိ။ ပါဏာတိပါတ် အစရှိ
သည်တို့ကို။နကရောတိ။မပြု။သမ္ပတ္တဝတ္ထုံ။ ရောက်သောဝတ္ထု
ကို။ ပရိဟရတိ။ကြဉ်၏။ တဿ။ ထိုရောက်သောကြဉ်အပ်
သောဝတ္ထုမှ။အာရမတိ။ စိတ်ဖြင့်ကြဉ်၏။ ဝိရမတိ။ကိုယ်နှုတ်
ဖြင့်ကြဉ်၏။တဿ။ ထိုစက္ကနလုင်ကဲ့သို့ကြဉ်သောသူ၏။ သာဝိ

ရတိ။ထိုပိရတိကို။ သမ္ပတ္တပိရတိတိ။ သမ္ပတ္တပိရတိဟူ၍။ ဝေဒိတဗ္ဗာ။ သိအပ်၏။ အဇ္ဈတ္တဂေဇ္ဇိပိတဟောတုပိပါဏံနဟာနာမီတိဝါ။ အဇ္ဈတ္တဂေဇ္ဇိပိတဟောဟုပိပါဏံနဟာနာမိဟူ၍ရင်း။ ပါဏာတိပါတာပိရမာမီတိဝါ။ ပါဏာတိပါတာပိရမာမိ ဟူ၍ရင်း။ ဝေရမဏိံ သမာဒိယာမီတိဝါ။ ဝေရမဏိံ သမာဒိယာမိဟူ၍ရင်း။ဧဝံ။ဤသို့။သိက္ခာပဒါနိ။ သိက္ခာပုဒ်တို့ကို။ဂဏှန္တဿပန၊ ယူသောသူ၏ကား။ ဝိရတိ။ ဝိရတိကို၊သမာဒါနဝိရတိ။ ဥတ္တရဝဍ္ဍမာနရွာ၌နေသော သီတင်းသည်၏ ဝိရတိကဲ့သို့။ သမာဒါနဝိရတိဟူ၍။ ဝေဒိတဗ္ဗာ။သိအပ်၏။ ။အရိယာမဂ်နှင့်ယှဉ်သောဝိရတိကား သမုစ္ဆေဒဝိရတိဟူ၍ သိအပ်၏။ အကြင်သမုစ္ဆေဒဝိရတိ၏ ဖြစ်သောအခါမှစ၍။ သတ္တဝါကို သတ်အံ့ဟူသောစိတ်သည်လည်းအရိယာပုဂ္ဂိုလ်တို့အားမဖြစ်။ ။သမာဒိဋ္ဌိသုတ်အဋ္ဌကထာစသည်မှလာသောနည်း။ ။ဤအဋ္ဌကထာ၌ငါးပါးသော ဝေရစိတ်သည်ငြိမ်းသလျှင်ကတည်း ဟူသောအနက်ကိုပြ၏။ ထိုကြောင့် အဋ္ဌကထာ၌။ ။အရိယမဂ္ဂ သမ္ပယုတ္တာသမုစ္ဆေဒဝိရတိနာမယဿ ပဝတ္တိတော ပဘုတိအရိယသာဝကဿပဉ္စဘယာနိဝူပသန္တာနိဟောန္တိ။ ။ဟူ၍ဆိုအပ်၏။ ။အရိယမဂ္ဂသမ္ပယုတ္တာ။အရိယမဂ်နှင့်ယှဉ်သောဝိရတိသည်။ သမုစ္ဆေဒဝိရတိနာမ။ သမုစ္ဆေဒဝိရတိမည်၏။ ယဿ။အကြင်သမုစ္ဆေဝိရတိ၏။ ပဝတ္တိတော။ဖြစ်သည်မှ၊ ပဘုတိ။စ၍။ အရိယသာဝကဿ။အရိယာဖြစ်သောဘုရားတပည့်အား။ပဉ္စ။ ငါးပါးကုန်သော။ဘယာနိ။ဘေးကိုပြုတတ်ကုန်သောစေတနာဟူကုန်သောသဘောတို့သည်။ ဝေရာနိ။ ရန်ကိုပြုတတ်ကုန် သောသဘောတို့သည်။ ဝေရာနိ။ရန်ကိုပြုတတ်ကုန်သော စေတနာဟူကုန်သော သဘော တို့သည်။ ဝူပသန္တာနိ။ ငြိမ်းကုန် သည်။ ဟောန္တိ။ဖြစ်ကုန်၏။ ။ဝိရတိသုံးပါးသရုပ်တည်း။ ။ကံကိလေသာဟု ဆိုအပ်သော လေးပါး အပြားရှိသော အကုသိုလ်သည်။ ပါပမကောင်းမှုမည်၏။ ထိုစကားသည်မှန်၏။ သင်္ဂါလ

သုတ်၌။ ။ကတမဿ စတ္တာရော ကမ္မကိလေသာ ပဟီနာ
ဟောန္တိ။ ပါဏာတိပါတော ခေါ ဂဟပတိပုတ္တ ကမ္မကိလေ
သော။ အဒိန္နာဒါနံ ကမ္မကိလေသော။ ကာမေသုမိစ္ဆာစာရော
ကမ္မကိလေသော။ မုသာဝါဒေါ ကမ္မကိလေသော။ ဣမဿ
စတ္တာရောကမ္မကိလေသာ ပဟီနာဟောန္တီတိ။ ဣဒမဝေါစဘ
ဂဝါ။ဣဒံဝတွာနသုဂတော။အထာပရံဧတဒဝေါစသတ္ထာ။ ။ပါ
ဏာတိပါတောအဒိန္နာဒါနံ။ မုသာဝါဒေါစဝုစ္စတိ။ ပရဒါရဂမ
နဉ္စေဝ။နပ္ပသံသန္တိပဏ္ဍိတာ။ ။ဟူသောစကားကိုဟော
တော်မူအပ်၏။ ။အဿ။ ထိုသောတာပန်သည်။ကတမေ။
အဘယ်မည်ကုန်သော။ စတ္တာရော။လေးပါး ကုန်သော။ ကမ္မ
ကိလေသာ။ကံကိလေသာတို့ကို။ ပဟီနာ။ ပယ်အပ်ကုန်သည်။
ဟောန္တိ။ဖြစ်ကုန်သနည်း။ ဂဟပတိပုတ္တ။ သူကြွယ်သား။ခေါ။
စင်စစ်။ပါဏာတိပါတော။ ပါဏာတိပါတ်သည်။ ကမ္မကိလေ
သော။ ကံကိလေသာတည်း။အဒိန္နာဒါနံ။ အဒိန္နာဒါန်သည်။ကမ္မ
ကိလေသော။ ကံကိလေသာတည်း။ ကာမေသုမိစ္ဆာ စာရော။
ကာမေသုမိစ္ဆာစာရသည်။ ကမ္မကိလေသော။ ကံကိလေသာ
တည်း။မုသာဝါဒေါ။မုသာဝါဒသည်။ကမ္မကိလေသော။ကံကိ
လေသာတည်း။ စတ္တာရော။ လေးပါးကုန်သော။ ဣမေကမ္မကိ
လေသေ။ဤကံကိလေသာတို့ကို။အဿ။ထိုသောတာပန်ပုဂ္ဂိုလ်
သည်။ ပဟီနာ။ ပယ်အပ်ကုန်သည်။ဟောန္တိ။ ဖြစ်ကုန်၏။ဣတိ
ဣဒံဝစနံ။ဤစကားကို။ဘဂဝါ။ မြတ်စွာဘုရားသည်။ အဝေါစ။
မိန့်တော်မူ၏။ သုဂတော။ ကောင်းသောစကားကို ဆိုတော်
မူတတ်သော မြတ်စွာဘုရားသည်။ ဣဒံ။ဤစကားကို။ ဝတွာန။
ဟောတော်မူပြီး၍။ သတ္ထာ။ မြတ်စွာဘုရားသည်။ အထ။ ထို
နောက်မှ။ပရံ။ တပါးသော။ပါဏာတိပါတော။လ။နပ္ပသံသန္တိ
ပဏ္ဍိတာတိ။ ပါဏာတိပါတော။ လ။ နပ္ပသံသန္တိပဏ္ဍိတာဟူ
သော။ဧတံဝစနံ။ထိုစကားကို။အဝေါစ။မိန့်တော်မူ၏။ ။ပါဏာ
တိပါတော။ ပါဏာတိပါတ်ကိုရင်း။အဒိန္နာဒါနံ။ အဒိန္နာဒါန်ကို

၎င်း။ မုသာဝါဒေါစ။ မုသာဝါဒကို၎င်း။ ပရဒါရဂမနဉ္စ။ ကာမေသုမိစ္ဆာစာရကို၎င်း။ ဝုတ္တိ။ ကံကိလေသာဟူ၍ဆိုအပ်၏။ ဣတိ ဣမေ ကမ္မကိလေသေ။ ဤကံကိလေသာတို့ကို။ ပဏ္ဍိတာ။ ပညာရှိတို့သည်။ နပ္ပသံသန္တိ။ မချီးမွမ်းကုန်။ ။ ထိုပါဏာတိပါတကံ အဒိန္နာဒါနကံ ကာမေသုမိစ္ဆာစာရကံ မုသာဝါဒကံ ဟုဆိုအပ်သော ကံကိလေသာ ဟူသောတရားတို့သည် ပါပမည်၏။ ထိုပါပ တည်းဟူသော မကောင်းမှုတို့၌ အပြစ်ကိုရှုသော သူ၏ စိတ်ဖြင့်သာလျှင်ကြဉ်ခြင်းသည်အာရတိမည်၏။ ကမ္မဒွါရ၏အစွမ်းအားဖြင့် ကိုယ်နှုတ်တို့ဖြင့် ကြဉ်ခြင်းသည် ဝိရတိမည်၏။ ထိုမကောင်းမှုတို့ကို ဝေးစွာကြဉ်ခြင်း အလူးကြဉ်ခြင်း တို့ဖြင့် ကြဉ်ခြင်း သည်ကား။ ပစ္စုပ္ပန် သံသရာအကျိုး ကြီးပွါးရာအကြောင်းဖြစ်သောကြောင့် မင်္ဂလာမည်၏။ ။ အာရတိဝိရတိ ပါပါဟူသောမင်္ဂလာ၏ကထာပြီး၏။

---

## ၂၀။ သေအရက်သောက်ခြင်းမှ ကောင်းစွာရှောင် ကြဉ်ခြင်း။ မဇ္ဇပါနသံယမမင်္ဂလာ။

သုရာငါးပါး မေရယ ငါးပါး၏ အစွမ်းအားဖြင့်။ ဆယ်ပါးသောယစ်ခြင်းကို ပြုတတ်သော ဝတ္ထုသည်။ မဇ္ဇမည်၏။ ထိုစကားသည်မှန်၏။ မြတ်စွာဘုရား သည်။ သုရာပါန သိက္ခာပုဒ်ဝိဘင်း၌။ ။ သုရာနာမ ပိဋ္ဌသုရာ။ ပူဝသုရာ။ ဩဒနသုရာ။ ကိဏ္ဏပက္ခိတ္တာ။ သမ္ဘာရသံယုတ္တာ။ မေရယောနာမ ပုပ္ဖါသဝေါ၊ ဖလာသဝေါ။ မဓွါသဝေါ။ ဂုဠာသဝေါ။ သမ္ဘာရ သံယုတ္တော။ ဟူ၍ ဟောတော်မူအပ်၏။ ။ သုရာနာမ။ သုရာမည်သည်ကား။ ပိဋ္ဌသုရာ။ မုန့်ညက်ကိုအိုး၌ထည့်၍ထိုမုန့်ညက်အား လျော်သောရေကိုလောင်းနယ်၍ပြုအပ်သောသုရာ၎င်း။ ပူဝသုရာ။ မုန့်ညက်ကိုအိုး၌ထည့်၍ ထိုမုန့်အား လျော်သော ရေကို လောင်းနယ်ပြီးလျှင်ပြုအပ်သောသုရာ၎င်း။ ဩဒနသုရာ။ ထမင်းကိုအိုး၌ထည့်၍

ထိုထမင်းအား လျော်သောရေကို သောင်းနယ်၍ ပြုအပ်သော သုရာငှင်း။ ကိဏ္ဏပက္ခိတ္တာ။ သုရာ၏မျိုးစေ့ကိုထည့်၍ပြုအပ်သော သုရာသည်ငှင်း။ တနည်းကား။ ကိဏ္ဏပက္ခိတ္တာ။ ရန့်ညက်မှုန့်အစရှိသည်တို့ကို ထည့်၍ ကိဏ္ဏဟုဆိုအပ်သော စပါးညွန့်အစရှိသောသုရာ၏ မျိုးစေ့ကိုခပ်၍ ပြုအပ်သော သုရာ ငှင်း။ သမ္ဘာရ သံယုတ္တာ။ ဆီးဖြူရှားရှား မုန်ညင်း အစရှိသော အထူးထူးကုန်သော အဆောက်အဦတို့နှင့် ယှဉ်အပ်သော သုရာ ငှင်း။ တနည်းကား။ သမ္ဘာရသံယုတ္တာ။ ဆီးဖြူရှားရှားမုန်ညင်းအစရှိကုန်သော များစွာကုန်သော အဆောက်အဦတို့နှင့် ယှဉ်အပ်သော အထူးထူးသော သုရာငှင်း။ ဣတိ၊ ဤသို့၊ ပဉ္စဝိဓါ။ ငါးပါးအပြားရှိ၏။ မေရယောနာမ။ မေရယမည်သည်ကား။ ပုပ္ဖါသဝေါ။ သစ်မည်စည်ပွင့် အစရှိ သည်တို့၏ အရည်ဖြင့် ပြုအပ်သော အရက် ငှင်း။ ဖလာသဝေါ။ မုဒရက်သီး အစ ရှိသည် တို့ကို နယ်၍ ထိုမုဒရက်သီးအစရှိ သည်တို့၏ အရည်ဖြင့် ပြုအပ်သောအရက်ငှင်း။ တနည်းကား။ ဖလာသဝေါ။ ပိန္နဲ အစရှိကုန်သောအသီးတို့၏ ကြာမြင့်စွာ ထုံအပ်သော အရည် ဟူသော အရက် ငှင်း။ မဓွါသဝေါ။ မုဒရက်အစ ရှိသည်တို့၏ ဓာတ်အရည်ဖြင့် ပြုအပ်သော အရက်ငှင်း။ တနည်းကား။ မဓွါ သဝေါ၊ ယင်းပျား ရည်ဖြင့် ပြုအပ်သော အရက် ငှင်း။ ဂုဠာသဝေါ။ ကြံရည်ဖြင့် ပြုအပ်သော အရက် ငှင်း။ သမ္ဘာရ သံယုတ္တော။ ဖန်ခါးရှားစပ်သော ဘဏ္ဍာအစရှိသော အထူးထူးသော အဆောက်အဦ တို့၏ ကြာမြင့်စွာ ထုံအပ်သော အရည်ဟူသော အရက်ငှင်း။ ဣတိ။ ဤသို့။ ပဉ္စဝိဓော။ ငါးပါးအပြားရှိ၏။ ။တံသဗ္ဗံဒုဿီလမ္ဘိမဒကရဏဝသေနမဇ္ဇံပိဝန္တဿမဒယတိတိကတွာ။ ။အဋ္ဌကထာနှင့်တကွသောသင်္ဂါလသုတ်ဒီကာ။ ။ဒသဝိဓမ္ဘိ။ဆယ်ပါးအပြားရှိသည်လည်းဖြစ်သော။ တံသဗ္ဗံ။ ထိုအလုံးစုံသောသုရာမေရယဟူသောယစ်မျိုးသည်။ မဒကရဏဝသေန။ ယစ်ခြင်းကိုပြုတတ်သည်၏ အစွမ်းအားဖြင့်။ မဇ္ဇံ။ မဇ္ဇ

မည်၏။ပိဝန္တံ။ သောက်သောသူကို။ မဇယတိ။ယစ်စေတတ်၏။ ဣတိကတွါ။ဣမိနာကါရဏေန။ဤသို့သောအကြောင်းကြောင့်။ မဇ္ဇံ။မဇ္ဇမည်၏။ ။တဒုဘယမေဝမဒနီယဋ္ဌေနမဇ္ဇံ။ယံဝါပနညံ့ ကိဉ္စိအတ္ထိမဒနီယံယေနပီတေနမတ္တောဟောတိ။ ပမတ္တော။ဣဒံ ဝုစ္စတိမဇ္ဇံ။ ။ခုဒ္ဒကပါဠအဋ္ဌကထာ။ ။တဒုဘယမေဝ။ထို သုရာမေရယနှစ်ပါးတို့၏ အပေါင်းသည်သာလျှင်။ မဒနီယဋ္ဌေ န။ယစ်စေတတ်သောသဘောကြောင့်။မဇ္ဇံ။ မဇ္ဇမည်၏။ပီတေ န။သောက်အပ်သော။ယေန။အကြင်ဝတ္ထုကြောင့်။မတ္တော။ယစ် သည်၊ ဟောတိဖြစ်၏။ ပမတ္တော။ အပြားအားဖြင့် ယစ်သည်၊ ဟောတိ။ဖြစ်၏။အညံ့။သုရာငါးပါးမေရယငါးပါးမှတပါးသော။ ကိဉ္စိ။ တစုံတခုသော။ယံဝါပနမဒနီယံ။ အကြင်ယစ်စေတတ် သောဘိန်းဘင်းဟူသောဝတ္ထုသည်လည်း။ အတ္ထိ။ရှိ၏။ဣဒံ။ ဤ သို့ဆိုအပ်ပြီးသော ယစ်မျိုးအပေါင်းကို။မဇ္ဇံ။မဇ္ဇဟူ၍၊ ဝုစ္စတိ။ ဆိုအပ်၏။ ။တဒေဝဥဘယံယံဝါ ပနညံ့ပိသုရာသဝဝိနိမုတ္တံ့ မဒနီယံ။ ။သံယုတ္တမဟာဝဂ်အာမကဓညပေယျာလအဋ္ဌက ထာ။ ။တဒေဝဥဘယံ။ထိုသုရာမေရယ နှစ်ပါးသည်လျှင်၎င်း။ သုရာသဝဝိနိမုတ္တံ့။ သုရာငါးပါး မေရယငါးပါးမှ လွတ်သော။ အညံ့ပိ၊ တပါးလည်း ဖြစ်သော။ ယံဝါပန မဒနီယံ။ အကြင် ဘိန်းဘင်း ဟူသောယစ်မျိုးသည်၎င်း။ မဇ္ဇံ၊ မဇ္ဇမည်၏။ ။ ယစ်ခြင်း မေ့လျော့ ခြင်း၏ အကြောင်း ဖြစ်သော။ သောက် ကြောင်းစေတနာသည် ပါနမည်၏။ ထိုကြောင့်လျှင်။ အာမက ဓညပေယျာလ အဋ္ဌကထာ၌။ ။ယာယစေတနာယတံပိဝန္တိ၊ သာပမာဒဿကာရဏတ္တာပမာဒဋ္ဌာနံနာမ။ ။ဟူ၍ဆိုအပ် ၏။ ။ထိုအတူခုဒ္ဒကပါဠအဋ္ဌကထါသိက္ခါလသုတ်အဋ္ဌကထါတို့ ၌လည်းဆို၏။ ။ယာယစေတနာယ။အကြင်စေတနာဖြင့်။တံ။ ထိုယစ်မျိုးကို။ပိဝန္တိ။သောက်ကုန်၏။သာ၊ ထိုစေတနာသည်။ ပမာဒဿ။ယစ်ခြင်းမေ့လျော့ခြင်း၏။ကာရဏတ္တာ။အကြောင်း ဖြစ်သောကြောင့်။ပမာဒဋ္ဌာနံနာမ။ပမာဒဋ္ဌာနမည်၏။ ။သံယ

မမည်သည်ကားပိရုံတိတည်း။ ထိုကြောင့်အဋ္ဌကထာ၌။ ။
မဇ္ဇပါန သံယမောနာမ သုရာမေရယ မဇ္ဇပမာဒဋ္ဌာနာ ဝေရ
မဏိယာဧဝေတံအဓိဝစနံ။ ဟူ၍ဆို၏။ ။မဇ္ဇပါနသံယမော
နာမ။ မဇ္ဇပါနသံယမမည်သည်။ အဋ္ဌ။ ရှိ၏။ ဧတံအဓိဝစနံ။ ဤ
အမည်သည်၊ သုရာမေရယမဇ္ဇပမာဒဋ္ဌာနာ။ သုရာမေရယဟူ
သောယစ်ခြင်း မေ့လျော့ခြင်း၏ အကြောင်းဖြစ်သော ဝတ္ထုကို
သောက်ခြင်းမှ။ ဝေရမဏိယာဧဝ။ ကြဉ်ခြင်း၏သာလျှင်။ အဓိဝ
စနံ။ အမည်တည်း။ ။ဤသို့ဆိုအပ်ပြီးသော။ သုရာငါးပါး။ မေရ
ယငါးပါးဘိန်းဘင်းအစရှိသောယစ်မျိုးတို့ကိုယစ်ခြင်းမေ့လျော့
ခြင်းအကြောင်းဖြစ်၍။ သုံးဆောင်သောက်စားခြင်းမှကြဉ်ခြင်း
သည် ပစ္စုပ္ပန်သံသရာအကျိုးနှစ်ပါးကြီးပွါးရာအကြောင်းဖြစ်၍
မင်္ဂလာမည်၏။ ။ထိုကြောင့် ထိုယစ်မျိုးအပေါင်းတို့မှကြဉ်
ရှောင်နိုင် စေခြင်းငှါ။ ထိုယစ်မျိုး အပေါင်းတို့ကို သုံးဆောင်
သောက်စားသူတို့၏ အပြစ်တည်းဟူသော အာဒီနဝကိုဟော
တော်မူလိုသောမြတ်စွာဘုရားသည် အင်္ဂုတ္တိုရ်၌။ ။သုရာမေ
ရယပါနံ ဘိက္ခဝေ အာသေဝိတံ ဘာဝိတံဗဟုလီကတံ နိရ
ယသံဝတ္တနိကံတိရစ္ဆာနယောနိ သံဝတ္တနိကံ ပေတ္တိ ဝိသယ
သံဝတ္တနိကံ။ ယော သဗ္ဗလဟု သောသုရာမေရယ ပါနဿ
ဝိပါကော မနုဿဘူတဿ ဥမ္မတ္တက သံဝတ္တနိကော ဟော
တိ။ ။ဟူ၍ဟောတော်မူ၏။ ။ဘိက္ခဝေ။ သံသရာဘေးကိုရှု
လေ့ရှိသော လူရဟန်းတို့။ အာသေဝိတံ။ အဘန်တလဲလဲ မှီဝဲ
အပ်သော။ ဘာဝိတံ။ ပွါးစေအပ်သော။ ဗဟုလီကတံ။ အ
ကြိမ်များစွာအလေ့အလာပြုအပ်သော။ သုရာမေရယပါနံ။ သု
ရာငါးပါး။ မေရယငါးပါး မှစ၍ ယစ်မျိုးအပေါင်းကို သောက်
ခြင်းသည်။ နိရယသံဝတ္တနိကံ။ ငရဲ၌လည်းဖြစ်စေတတ်၏။ တိ
ရစ္ဆာနယောနိ သံဝတ္တနိကံ။ တိရစ္ဆာန်အမျိုး၌ လည်း ဖြစ်စေ
တတ်၏ ။ပေတ္တိဝိသယသံဝတ္တနိကံ။ ပြိတ္တာဘုံ၌လည်း ဖြစ်စေ
တတ်၏။ သုရာမေရယပါနဿ။ ယစ်မျိုးအပေါင်းတို့ကို သော

ဓါးခြင်း၏။ယောဝိပါကော်။အကြောင်အကျိုးသည်။သဗ္ဗလဟုသော်၊ အလုံးစုံတို့အောက်အားနည်းစွာ။ ဝါ။ပေါ့သောယုတ်သောအား ဖြင့်ဖြစ်သော။ဝိပါကော။ထိုအကျိုးသည်။ မနုဿဘူတဿ။လူ ဖြစ်သောသူအား။ ဥမ္မတ္တကသံဝတ္တနိကော။ ရူးသွပ်ပျက်စီးခြင်း သို့ရောက်သည်။ဟောတိ။ဖြစ်၏။ ။မဇ္ဇပါနာ၀စ သံယမောဟု သောမင်္ဂလာ၏ ကထာပြီး၏။

---

## ၂၁။ ကုသိုလ်တရားတို့၌မမေ့မလျော့ခြင်း ဓမ္မေအပ္ပမာဒမင်္ဂလာ။

အပ္ပမာဒမည်သည်ကား။ ပမာဒ၏ဆန့်ကျင်ဘက်ဖြစ်သော တပါးသောတရားတည်း။ပမာဒဟူသည်ကား မေ့လျော့သော အခြင်းအရာတည်း။ထိုစကားသည်မှန်၏။ ။တတ္ထကတမော ပမာဒေါ ကာယဒုစ္စရိ တေနဝါ ဝစီဒုစ္စရိတေနဝါ မနောဒုစ္စရိ တေနဝါ။ပဉ္စသုကာမဂုဏေသုစိတ္တဿဝေါဿဂ္ဂေါဝေါဿဂ္ဂါ နုပ္ပဒါနံ ကုသလာနံဝါဓမ္မာနံ ဘာဝနာယ အသက္ကစ္စကိရိယတာ အသာတစ္စကိရိယတာ အနိဋ္ဌိတကိရိယတာ ဩလီနဝုတ္တိတာ နိက္ခိတ္တ ဆန္ဒတာနိက္ခိတ္တဓုရတာအနာသေဝနာအဘာဝနာအဗဟုလီကမ္မံ အနဓိဋ္ဌာနံအနနုယောဂေါအနာသေဝနာအဘာဝနာအဗဟုလီကမ္မံယောဧဝရူပေါပမာဒေါပမဇ္ဇ နာပမဇ္ဇိတတ္တံ။အယံဝုစ္စတိပမာဒေါ။ ဟူသောစကားကို ခုဒ္ဒက ဝတ္ထုဝိဘင်းပါဠိတော်၌ဟောတော်မူ၏။ ။တတ္ထ။ထိုသဘော တရားတို့တွင်။ ကတမော။ အဘယ်သဘောကို။ ပမာဒေါ။မေ့ လျော့ခြင်းဟူ၍။ဝုစ္စတိ။ ဆိုအပ်သနည်း။ ကာယဒုစ္စရိတေနဝါ။ ကာယဒုစရိုက်ဖြင့်၎င်း။ ဝစီဒုစ္စရိတေနဝါ။ ဝစီဒုစရိုက်ဖြင့်၎င်း။ မနောဒုစ္စရိတေနဝါ။မနောဒုစရိုက်ဖြင့်၎င်း။ပဉ္စသု။ ငါးပါးကုန် သော။ ကာမဂုဏေသု။ကာမဂုဏ်တို့၌။စိတ္တဿ။ စိတ်၏။ ဝေါ ဿဂ္ဂေါ။သတိမှကင်းခြင်းသည်။ ဝေါဿဂ္ဂါနုပ္ပဒါနံ။ သတိမှ အဘန်တလဲလဲကင်းခြင်းသည်။ ကုသလာနံ။ ကုသိုလ်ဖြစ်ကုန်

သော။ဓမ္မာနံ ဝါ။တရားတို့ကိုလည်း။ဘာဝနာယ။ ဖြစ်စေခြင်းငှါ၊ အသက္ကုဏ္ဏကိရိယတာ။ ပုဂ္ဂိုလ်ကိုဒင်း။ ဒေယျဓမ္မကိုဒင်း။ မရိုမသေပြုသည့်၏အဖြစ်သည်။ အသာတစ္စကိရိယတာ။ အမြဲအားဖြင့်ပြုခြင်းမရှိသည့်၏အဖြစ်သည်။အနိပ္ပစ္စကိရိယတာ။မပြတ်ဖြစ်စေခြင်းကို မပြုသည့်၏အဖြစ်သည်။ ဩလီနဝုတ္တိတာ။ မပြတ်ပြုခြင်းဟူသော ဖြန့်ခြင်း၏မရှိသဖြင့် တွန့်သောဖြစ်ခြင်းရှိသည့်၏ အဖြစ်သည်။ နိက္ခိတ္တစ္ဆန္ဒတာ။ ကုသိုလ်ကိုပြုခြင်းငှါချသောဆန္ဒရှိသည့်၏ အဖြစ်သည်။ နိက္ခိတ္တဓုရတာ။ ဝီရိယဟူသောဝန်ကိုချသည့်၏အဖြစ်သည်။အနဓိဋ္ဌာနံ။ ကုသိုလ်ပြုခြင်းငှါ မတည်ခြင်းသည်။ အနနုယောဂေါ။ ကုသိုလ်တရားတို့၌ အားမထုတ်ခြင်းသည်။ အနာသေဝနာ။ အဘန်တလဲလဲ မမှီဝဲခြင်းသည်။အဘာဝနာ။မပွါးစေခြင်းသည်။ အဗဟုလီကမ္မံ။ အကြိမ်များစွာမပြုခြင်းသည်။ အတ္ထိ။ရှိ၏။အာဒိတော။အစမှ။ ပဋ္ဌာယ။ စ၍။ဝုတ္တော။ဆိုအပ်သော။ ယောသဘာဝေါ။ အကြင်သဘောသည်ဒင်း။ ဝေရူပေါ။ ဤသို့သဘောရှိသော။ အညော။ တပါးသော။ ယောသဘာဝေါပိ။အကြင်သဘောသည်ဒင်း။ပမာဒေါ။ မေ့လျော့ခြင်း၊ ပမဇ္ဇနာ။ မေ့လျော့သော အခြင်းအရာ။ ပမဇ္ဇိတတ္တံ။ မေ့လျော့သည့်၏ အဖြစ်ဟူသော အရေအတွက် သို့။ ဂစ္ဆတိ။ ရောက်၏။ အယံသဘာဝေါ။ ဤသဘောကို။ပမာဒေါ။ မေ့လျော့ခြင်းဟူ၍။ဝုစ္စတိ။ဆိုအပ်၏။ ။ထိုနှစ်ပါးတို့တွင်၊ ပမာဒ။မေ့လျော့ခြင်းသည်။အကုသိုလ်ဖြစ်ခြင်းဌါဒင်း၊ ကုသိုလ်၏ယုတ်ခြင်းဌါဒင်း ဖြစ်၏။ အပ္ပမာဒ။ မမေ့မလျော့ခြင်းသည် ကုသိုလ်ဖြစ်ခြင်းဌါဒင်း။ အကုသိုလ်၏ယုတ်ခြင်းဌါဒင် းဖြစ်၏။ ထိုကြောင့်ဧကအင်္ဂုတ္တိုရ်အဋ္ဌကထာ၌။ ။နာဟံဘိက္ခဝေအညံ ဧကဓမ္မံပိ သမနုပဿာမိ ယေနအနုပ္ပန္နာဝါ အကုသလာ ဓမ္မာ ဥပ္ပဇ္ဇန္တိ ဥပ္ပန္နာဝါကုသလာဓမ္မာ ပရိဟာယန္တိ။ယထယိဒံဘိက္ခဝေပမာဒေါ။ပမတ္တဿဘိက္ခဝေအနုပ္ပန္နာစေဝအကုသလာဓမ္မာ ဥပ္ပဇ္ဇန္တိဥပ္ပန္နာစကုသလာဓမ္မာပရိဟာယန္တိ။ ။ဟူ၍ဒင်း။ ။

နာပဟံဘိက္ခဝေအညံကေဓမ္မံပိသမနုပဿာမိ ယေနအနုပ္ပန္နာဝါ
အကုသလာဓမ္မာ ဥပ္ပဇ္ဇန္တိ။ ဥပ္ပန္နာဝါအကုသလာဓမ္မာ ပရိဟာ
ယန္တိ။ ယထယိဒံ ဘိက္ခဝေ အပ္ပမာဒေါ။အပ္ပမတ္တဿ ဘိက္ခဝေ
အနုပ္ပန္နာစေဝကုသလာဓမ္မာ ဥပ္ပဇ္ဇန္တိ၊ဥပ္ပန္နာစအကုသလာဓမ္မာ
ပရိဟာယန္တိ။ ။ဟူ၍ရှင်းဟောတော်မူ၏။ ။ဘိက္ခဝေ၊
ရဟန်းတို့။ ယေန။အကြင်တရားကြောင့်။ အနုပ္ပန္နာ။ မဖြစ်ကုန်
သေးသော။အကုသလာ။အကုသိုလ်ဖြစ်ကုန်သော။ ဓမ္မာဝါ။တ
ရားတို့သည်လည်း။ ဥပ္ပဇ္ဇန္တိ။ ဖြစ်ကုန်၏။ ဥပ္ပန္နာ။ ဖြစ်ကုန်ပြီး
သော။ ကုသလာ။ ကုသိုလ် ဖြစ်ကုန်သော။ ဓမ္မာဝါ။ တရားတို့
သည်လည်း။ ပရိဟာယန္တိ။ ယုတ်ကုန်၏။ တံဓမ္မံ။ထိုတရားကို
သမနုပဿာမိယထာ။မြင်သကဲ့သို့။ဧဝံတထာ။ထိုအတူ။အညံ၊
တပါးသော။ဧကဓမ္မံပိ။ တခုသောတရားကိုလည်း။ အဟံ။ငါ
ဘုရားသည်။နသမနုပဿာမိ။မြင်တော်မမူ။ ဘိက္ခဝေ။ ရဟန်း
တို့။ဣဒံအယံဓမ္မော။ ဤမဖြစ်ကုန်သေးသော အကုသိုလ်တရား
တို့ကိုဖြစ်စေတတ်သော။ ဖြစ်ကုန်ပြီးသော ကုသိုလ်တရားတို့
ကိုယုတ်စေတတ်သော သဘောတရားသည်ကား။ ပမာဒေါ။
မေ့လျော့ခြင်း သဘောတည်း။ ဘိက္ခဝေ။တို့။ပမတ္တဿ။ မေ့
လျော့သောသူအား။ အနုပ္ပန္နာ။ မဖြစ်ကုန်သေးသော။ အကုသ
လာ။အကုသိုလ်ဖြစ်ကုန်သော။ဓမ္မာစေဝ။ တရားတို့သည်လည်း။
ဥပ္ပဇ္ဇန္တိ။ဖြစ်ကုန်၏။ဥပ္ပန္နာ။ဖြစ်ကုန်ပြီးသော၊ကုသလာ။ကုသိုလ်
ဖြစ်ကုန်သော။ဓမ္မာစ။တရားတို့သည်လည်း။ပရိဟာယန္တိ။ ယုတ်
ကုန်၏ ။ဘိက္ခဝေ။တို့။ ယေန။အကြင်တရားကြောင့်။ အနုပ္ပန္နာ။
မဖြစ်ကုန်သေးသော။ ကုသလာ။ကုသိုလ်ဖြစ်ကုန်သော။ ဓမ္မာ
ဝါ။တရားတို့သည်လည်း။ဥပ္ပဇ္ဇန္တိ။ဖြစ်ကုန်၏။ဥပ္ပန္နာ။ ဖြစ်ကုန်ပြီး
သော။အကုသလာ။အကုသိုလ်ဖြစ်ကုန်သော။ဓမ္မာဝါ။တရားတို့
သည်လည်း။ ပရိဟာယန္တိ။ ယုတ်ကုန်၏။တံဓမ္မံ။ ထိုတရားကို
သမနုပဿာမိယထာ။မြင်သကဲ့သို့။ဧဝံတထာ။ထိုအတူ၊ အညံ၊
တပါးသော။ ဧကဓမ္မံပိ။ တခုသော တရားကိုလည်း။ အဟံ။ငါ

သုံးသည်။နသမနုပဿာမိ။မြင်တော်မမူ။ ဘိက္ခဝေ၊တို့၊ ဣဓ
အယံဓမ္မော၊ ဤမဖြစ်ကုန်သေးသောကုသိုလ်တရားတို့ကို ဖြစ်
စေတတ်သော။ ဖြစ်ကုန် ပြီးသော အကုသိုလ်တရား တို့ကို
ယုတ်စေ တတ်သော သဘော တရားသည်။ အပ္ပမာဒေါ။ မ
မေ့မလျော့ခြင်းတရားတည်း။ဘိက္ခဝေ။တို့။ အပ္ပမတ္တဿ။မမေ့
မလျော့သောသူအား။ အနုပ္ပန္နာ။ မဖြစ်ကုန်သေးသော။ ကုသ
လာ။ ကုသိုလ်ဖြစ်ကုန်သော။ ဓမ္မာ စေဝ။ တရားတို့ သည်
လည်း။ ဥပ္ပဇ္ဇန္တိ။ဖြစ်ကုန်၏၊ ဥပ္ပန္နာ။ဖြစ်ကုန်ပြီးသော။ အကုသ
လာ။အကုသိုလ်ဖြစ်ကုန်သော။ဓမ္မာစ။ တရားတို့သည်လည်း။ပ
ရိဟာယန္တိ။ ယုတ်ကုန်၏။ ။ထိုသို့မမေ့မလျော့ခြင်းတည်း
ဟူသောဤအပ္ပမာဒတရားသည်။ကုသိုလ်ဖြစ်ခြင်း၌လည်းဖြစ်
သောကြောင့်အနဝဇ္ဇတရားတို့၌ ကျေးဇူးများသည်ဖြစ်၏။ ထို
ကြောင့် ရဟန်းတို့အား တရားဟောတော်မူသော အရှင်သာရိ
ပုတ္တရာမထေရ်သည်။ ။ဧကောအာဝုသောဓမ္မောဗဟုပကာ
ရော။ကတမောဧကောဓမ္မောဗဟုပကာရော။အပ္ပမာဒေါကုသ
လေသုဓမ္မေသု။အယံဧကောဓမ္မောဗဟုပကာရော။ ။ဟူ၍ဟော
တော်မူ၏။ ။ပါထိကဝဂ်ဒသုတ္တရသုတ်ပါဠိတော်။ ။
အာဝုသော။ငါ့ရှင်တို့။ဧကော။တပါးသော။ဓမ္မော။တရားသည်။
ဗဟုပကာရော။ များသောကျေးဇူးရှိ၏။ ဗဟုပကာရော။ များ
သောကျေးဇူးရှိသော။ ဧကောဓမ္မော။ တပါးသော တရားဟူ
သည်။ကတမော။ အဘယ်တရားနည်းဟူမူကား။ ကုသလေသု
ဓမ္မေသု။ အပြစ်မရှိကုန်သောတရားတို့၌။ အပ္ပမာဒေါ။ မမေ့မ
လျော့ခြင်းတရားသည်။ ဧကော။တပါးသော။အယံဓမ္မော။ဤမ
မေ့မလျော့ခြင်းတရားသည်။ဗဟုပကာရော။များစွာကျေးဇူးရှိ
၏။ ။ဤသို့ထိုအပ္ပမာဒတရား၏များသောကျေးဇူးရှိသည်၏
အဖြစ်ကြောင့်၊ အပ္ပမာဒတရားကိုပြုအပ်သလျှင်ကတည်း။ ထို
စကားသည်သင့်၏၊ထိုအပ္ပမာဒတရားကိုပြုသောသူသည် သေ
ခြင်းမှ မကြောက်ခြင်းအစရှိသော ကျေးဇူးသို့ ရောက်၏။ ထို

ကြောင့် စတုက္ကအင်္ဂုတ္တိုရ်တတိယပဏ္ဏာသက၌။ ။စတူဟိ
ဘိက္ခဝေဌာနေဟိအပ္ပမာဒေါကရဏီယော။ ကတမေဟိစတူ
ဟိ။ကာယဒုစ္စရိတံဘိက္ခဝေပဇဟထ။ ကာယသုစရိတံဘာဝေ
ထ။တတ္ထစမာပမာဒတ္ထ။ဝစီဒုစ္စရိတံဘိက္ခဝေပဇဟထ။ဝစီသုစ
ရိတံဘာဝေထ။တတ္ထစမာပမာဒတ္ထ။မနောဒုစ္စရိတံဘိက္ခဝေပဇ
ဟထ။မနောသုစရိတံဘာဝေထ။တတ္ထစမာပမာဒတ္ထ။မိစ္ဆာဒိဋ္ဌိံ
ဘိက္ခဝေပဇဟထ။ သမ္မာဒိဋ္ဌိံဘာဝေထ။တတ္ထစမာပမာဒတ္ထ။
ယတောခေါဘိက္ခဝေဘိက္ခုနော ကာယဒုစ္စရိတံ ပဟီနံ ဟော
တိ။ကာယသုစရိတံဘာဝိတံ။ဝစီဒုစ္စရိတံပဟီနံဟောတိ။ လ။ မ
နော ဒုစ္စရိတံ ပဟီနံဟောတိ။ လ။ မိစ္ဆာဒိဋ္ဌိ ပဟီနာ ဟောတိ။
သမ္မာဒိဋ္ဌိဘာဝိတာ။ သောန ဘာယတိသမ္ပရာ ယိကဿ အန္တ
ကဿ။ ။ဟူ၍၎င်း။ ။စတူသုဘိက္ခဝေဌာနေသုအတ္တရူပေ
နအပ္ပမာဒေါသတိစေတသောအါရက္ခာကရဏီယော။ကတ
မေသုစတူသု။ မာမေရဇ္ဇနီယေသုဓမ္မေသုစိတ္တံရဇ္ဇီတိအတ္တရူပေ
နအပ္ပမာဒေါသတိစေတသောအာရက္ခာကရဏီယော။မါမေ
ဒေါသနီယေသု ဓမ္မေသုစိတ္တံဒုဿီတိ။ မာမေမောဟနီယေသု
ဓမ္မေသုစိတ္တံမုယှီတိ။မါမေမဒနီယေသုဓမ္မေသုစိတ္တံမဇ္ဇီတိအတ္တရူ
ပေနအပ္ပမာဒေါသတိစေတသောအာရက္ခာကရဏီယော။ယ
တောခေါဘိက္ခုနော ရဇ္ဇနီယေသုဓမ္မေသု စိတ္တံနရဇ္ဇ
တိဝီတရာဂတ္တါ။ဒေါသနီယေသုဓမ္မေသုစိတ္တံနဒုဿတိဝီတဒေါ
သတ္တာ။ မောဟနီယေသုဓမ္မေသုစိတ္တံနမုယှတိဝီတမောဟတ္တာ။
မဒနီယေသုဓမ္မေသုစိတ္တံ နမဇ္ဇတိဝီတမဒတ္တာ။ သောနဆမ္ဘတိန
ကမ္ပတိနစလတိနသန္တာသံအာပဇ္ဇတိနစပနသမဏဝစနဟေတု
ပိဂစ္ဆတိ။ ။ဟူ၍၎င်းဟောတော်မူ၏။ ။ဘိက္ခဝေ။ရဟန်းတို့။
စတူဟိဌာနေဟိ။လေးပါးကုန်သောအကြောင်းတို့ဖြင့်။ အပ္ပမာ
ဒေါ။မမေ့မလျော့ခြင်းကို။ကရဏီယော။ပြုအပ်၏။ကတမေဟိ။
အဘယ်မည်ကုန်သော။စတူဟိ။လေးပါးကုန်သောအကြောင်း
တို့ဖြင့်။ကရဏီယော။ပြုအပ်သနည်း။ ဘိက္ခဝေ။တို့။ကာယဒုစ္စ

ရှိတံ။ကာယဒုစရိုက်ကို။ပဇဟာထ။ပယ်ကြကုန်လော့။ ကာယသု
စရိတံ။ ကာယသုစရိုက်ကို။ ဘာဝေထ။ ပွါးကြစေကုန်လော့။
တဿစ။ ထိုကာယဒုစရိုက်ကိုပယ်ခြင်းကာယသုစရိုက်ကိုပွါး
စေခြင်း၌လည်း။မာပမာဒတ္ထ။မမေ့မလျော့ကုန်လင့်။ ဘိက္ခဝေ။
ရဟန်းတို့။ ဝစီဒုစ္စရိတံ။ဝစီဒုစရိုက်ကို။ပဇဟာထ။ ပယ်ကြကုန်
လော့။ ဝစီသုစရိတံ။ဝစီသုစရိုက်ကို။ ဘာဝေထ။ ပွါးစေကုန်
လော့။ တဿစ။ ထိုဝစီဒုစရိုက်ကိုပယ်ခြင်းဝစီသုစရိုက်ကိုပွါး
စေခြင်း၌လည်း။မာပမာဒတ္ထ။မမေ့မလျော့ကုန်လင့်။ ဘိက္ခဝေ။
တို့။မနောဒုစ္စရိတံ။မနောဒုစရိုက်ကို။ ပဇဟာထ။ပယ်ကုန်လော့။
မနောသုစရိတံ။ မနောသုစရိုက်ကို။ ဘာဝေထ။ ပွါးစေကုန်
လော့။တဿစ။ထိုမနောဒုစရိုက်ကိုပယ်ခြင်းမနောသုစရိုက်ကို
ပွါးစေခြင်း၌လည်း။ မာပမာဒတ္ထ။မမေ့မလျော့ကုန်လင့်။ ဘိက္ခ
ဝေ။တို့။မိစ္ဆာဒိဋ္ဌိံ။မိစ္ဆာဒိဋ္ဌိကို။ပဇဟာထ။ ပယ်ကုန်လော့။သမ္မာ
ဒိဋ္ဌိံ။ သမ္မာဒိဋ္ဌိကို။ ဘာဝေထ။ ပွါးစေကုန်လော့။တဿစ။ ထို
မိစ္ဆာဒိဋ္ဌိကိုပယ်ခြင်းသမ္မာဒိဋ္ဌိကိုပွါးစေခြင်း၌လည်း။ မာပမာ
ဒတ္ထ။မမေ့မလျော့ကုန်လင့်။ဘိက္ခဝေ။တို့။ယတောခေါ။ အကြင်
အခါ၌လျှင်။ဘိက္ခုနော။ရဟန်းသည်။ ကာယဒုစ္စရိတံ။ကာယဒု
စရိုက်ကို။ပဟီနံ။ပယ်အပ်သည်။ ဟောတိ။ဖြစ်၏။ကာယသုစရိ
တံ။ကာယသုစရိုက်ကို။ဘာဝိတံ။ ပွါးစေအပ်သည်။ ဟောတိ။
ဖြစ်၏။ ဝစီဒုစ္စရိတံ။ ဝစီ ဒုစရိုက်ကို။ ပဟီနံ။ ပယ် အပ် သည်။
ဟောတိ။ဖြစ်၏။ ဝစီသုစရိတံ။ဝစီသုစရိုက်ကို။ ဘာဝိတံ။ ပွါး
စေအပ်သည်။ဟောတိ။ဖြစ်၏။မနောဒုစ္စရိတံ။မနောဒုစရိုက်ကို။
ပဟီနံ။ပယ်အပ်သည်။ ဟောတိ။ဖြစ်၏။မနောသုစရိတံ။ မနော
သုစရိုက်ကို။ဘာဝိတံ။ ပွါးစေအပ်သည်။ဟောတိ။ဖြစ်၏။ မိစ္ဆာ
ဒိဋ္ဌိ။ မိစ္ဆာဒိဋ္ဌိကို။ ပဟီနာ။ ပယ်အပ်သည်။ ဟောတိ။ ဖြစ်၏။
သမ္မာဒိဋ္ဌိံ။သမ္မာဒိဋ္ဌိကို။ဘာဝိတာ။ပွါးစေအပ်သည်။ ဟောတိ။
ဖြစ်၏။သော။ထိုရဟန်းသည်။သမ္ပရာယိကာသ။ တမလွန်၌ဖြစ်
သော။အဿကာသ။သေခြင်းမှ။နဘာယတိ။မကြောက်။ ။ရှာ

နသုတ်အဋ္ဌကထာ။ ။ဘိက္ခဝေ။ တို့။ စတူသု။ လေးပါးကုန်
သော။ ဌာနေသု။ ဌာနတို့၌။ အတ္တရူပေန။ မိမိအားလျော်သောအ
စီးအပွါးကိုလိုသဖြင့်။ စေတသော။ စိတ်၏။ အာရက္ခာ။ အ
စောင့်အရှောက်ဖြစ်သော။ သတိ။ သတိဟူသော။ အပ္ပမာဒေါ။ မ
မေ့မလျော့ခြင်းကို။ ကရဏီယော။ ပြုအပ်၏။ ကတမေသု။ အ
ဘယ်မည်ကုန်သော။ စတူသု။ လေးပါးကုန်သောဌာနတို့၌။ က
ရဏီယော။ ပြုအပ်သနည်း။ ရဇ္ဇနီယေသု။ ရာဂ၏အကြောင်းဖြစ်
ကုန်သော။ ဓမ္မေသု။ ဆုဋ္ဌာရုံတရားတို့၌။ မေ။ ငါ၏။ စိတ္တံ။ စိတ်
သည်။ မာရဇ္ဇိ။ မတပ်စွန်းစေသတည်း။ ဣတိ။ ဤသို့။ အတ္တရူပေ
န။ မိမိအားလျော်သော အစီးအပွါးကိုလိုသဖြင့်။ စေတသော။
စိတ်၏။ အာရက္ခာ။ အစောင့်အရှောက်ဖြစ်သော။ သတိ။ သတိ
ဟူသော။ အပ္ပမာဒေါ။ မမေ့မလျော့ခြင်းကို။ ကရဏီယော။ ပြု
အပ်၏။ ဒေါသနီယေသု။ ဒေါသ၏အကြောင်း ဖြစ်ကုန်သော။
ဓမ္မေသု။ တရားတို့၌။ မေ။ ငါ၏။ စိတ္တံ။ စိတ်သည်။ မာဒုဿိ။ မပြစ်
မှားစေသတည်း။ ဣတိ။ ဤသို့။ အတ္တရူပေန။ မိမိအားလျော်သော
အစီးအပွါးကိုလိုသဖြင့်။ စေတသော။ စိတ်၏။ အာရက္ခာ။ အ
စောင့်အရှောက်ဖြစ်သော။ သတိ။ သတိဟူသော။ အပ္ပမာဒေါ။ မ
မေ့မလျော့ခြင်းကို။ ကရဏီယော။ ပြုအပ်၏။ မဒနီယေသု။ ယစ်
ခြင်း၏အကြောင်းဖြစ်ကုန်သော။ ဓမ္မေသု။ တရားတို့၌။ မေ။ ငါ၏။
စိတ္တံ။ စိတ်သည်။ မာမဇ္ဇိ။ မယစ်စေသတည်း။ ဣတိ။ ဤသို့။ အတ္တရူ
ပေန။ မိမိအားလျော်သော အကျိုးကိုလိုသဖြင့်။ စေတသော။
စိတ်၏။ အာရက္ခာ။ အစောင့်အရှောက်ဟူသော။ သတိ။ သတိ
ဖြစ်သော။ အပ္ပမာဒေါ။ မမေ့မလျော့ခြင်းကို။ ကရဏီယော။ ပြု
အပ်၏။ ဘိက္ခဝေ။ ရဟန်းတို့။ ယတော ခေါ။ အကြင်အခါ၌လျှင်။
ရဇ္ဇနီယေသု။ ရာဂ၏အကြောင်းဖြစ်ကုန်သော။ ဓမ္မေသု။ တရား
တို့၌။ ဘိက္ခုနော။ ရဟန်း၏။ စိတ္တံ။ စိတ်သည်။ ဝီတရာဂတ္တာ။ ရာဂ
ကင်းသည်၏အဖြစ်ကြောင့်။ နရဇ္ဇတိ။ မတပ်။ ဒေါသနီယေသု။
ဒေါသ၏အကြောင်းဖြစ်ကုန်သော။ ဓမ္မေသု။ တရားတို့၌။ ဝီတဒေါ

သတ္တာ။ ဒေါသကင်းသည့်၏အဖြစ်ကြောင့်။ စိတ္တံ။စိတ်သည်။နဒုဿတိ။မပြစ်မှား။မောဟနီယေသု။ မောဟ၏အကြောင်းဖြစ်ကုန်သော။ဓမ္မေသု။တရားတို့၌။ ဝိတမောဟတ္တာ။ မောဟကင်းသည့်၏အဖြစ်ကြောင့်။စိတ္တံ။စိတ်သည်။ နမုယှတိ။မတွေဝေ။မဒနီယေသု။ယစ်ခြင်း၏အကြောင်းဖြစ်ကုန်သော။ဓမ္မေသု။တရားတို့၌။ ဝိတမဒတ္တာ။ယစ်ခြင်းကင်းသည့်၏အဖြစ်ကြောင့်။ စိတ္တံ။စိတ်သည်။ နမဇ္ဇတိ။မယစ်။ သော။ထိုရဟန်းသည်။ နဣဋ္ဌတိ။ ဣဋ္ဌာအစွမ်းအားဖြင့်မလှုပ်။နကမ္ပတိ။ဣဋ္ဌ၏အစွမ်းအားဖြင့်မတုန်။နစလတိ။ ဣဋ္ဌ၏အစွမ်းအားဖြင့်မရွေ့။ သန္တာသံ။ထိတ်လန့်ခြင်းသို့။ နအာပဇ္ဇတိ။မရောက်။ သမဏာဝစနဟေတုပိ။ ပရဝါဒရဟန်းတို့၏စကားဟူသောအကြောင်းကြောင့်လည်း။ အတ္တနော။မိမိ၏။ ဣဋ္ဌံ။အယူကို။ ပဟာယ။ပယ်၍။ တေသံ။ ထိုပရဝါဒရဟန်းတို့၏။ ဣဋ္ဌိဝသေန။ အယူ၏အစွမ်းအားဖြင့်။ နစပနဂစ္ဆတိ။ မလား။

ဤသို့လျှင် အပ္ပမာဒတရားသည် အပြစ်မရှိကုန်သောတရားတို့၌ကျေးဇူးများသည်ဖြစ်၍။ ထိုအပ္ပမာဒတရားကိုပြုသောသူအားသေခြင်းမှမကြောက်ခြင်းအစရှိသော ကျေးဇူးကိုဆောင်၏။ ထိုကြောင့် ထိုအပ္ပမာဒသည်မင်္ဂလာမည်၏။ အဋ္ဌကထာ၌လည်းဤအနက်ကိုသာရည်၍။ ။သောနာနပ္ပကာရကုသလာဓိဂမဟေတုတောအမတာဓိဂမဟေတုတောဝါမင်္ဂလံ။ ။ဟူ၍ဆို၏။ ။သော။ ထိုအပ္ပမာဒသည်။ နာနပ္ပကာရကုသလာဓိဂမဟေတုတော။ အထူးထူးအပြားပြားသော အပြစ်မရှိသောတရားတို့ကိုရခြင်း၏အကြောင်းဖြစ်သောကြောင့်ရင်း။အမတာဓိဂမဟေတုတော ဝါ။ အမြိုက် နိဗ္ဗာန်ကို ရခြင်း၏ အကြောင်းဖြစ်သောကြောင့်ရင်း။ မင်္ဂလံ။ မင်္ဂလာမည်၏။ ။တနည်းလည်း။ ။အပ္ပမတ္တဿအာတာပိနော။ပဟိတတ္တဿဘိက္ခုနော။အဝိရဇ္ဈံဝါစိတ္တံဝိရဇ္ဈတိ။အပရိက္ခိဏာဝါအာသဝါပရိက္ခယံဂစ္ဆန္တိ။ ။ဟူသော၍သုတ်ပုဒ်ကို ပဋ္ဌမအင်္ဂုတ္တိုရ်ဝိရုဏ်

သုတ်၌ဟောတော်မူ၏။ ။အပ္ပမတ္တာသော။ မမေ့လျော့သည်ဖြစ်၍။အာတာပိနော။လုံ့လရှိသည်ဖြစ်၍။ ပဟိတတ္တာသော။ ကိုယ်၏အသက်ကို ငဲ့ကွက်ခြင်းမရှိသဖြင့် အကြွင်အကြွင် အလိုရှိ အပ်သောအကျိုး၏ပြီးခြင်းသို့စေလွှတ်အပ်သောစိတ်ရှိသည်ဖြစ်၍။ ဝိဟရတော။ နေသောသူအား။ အပိမုတ္တံ။ကိလေသာမှမလွတ်သေးသော။စိတ္တံဝါ။စိတ်သည်မူလည်း။ ဝိမုစ္စတိ။ကိလေသာမှလွတ်၏။အပရိက္ခီဏာ။မကုန်သေးကုန်သော။အာသဝါဝါ။အာသဝေါတို့သည်လည်း။ပရိက္ခယံ။ ကုန်ခြင်းသို့။ ဂစ္ဆန္တိ။ ရောက်ကုန်၏။ ။အပ္ပမာဒေါစဓမ္မေသု ဟူသောမင်္ဂလာ၏ နှစ်သာရကားပြီး၏။

---

## ၂၂။ ရှိသေထိုက်သောသူတို့ကိုရိုသေခြင်း ဂါရဝမင်္ဂလာ။

ဂရူနံဘာဝေါဂါရဝေါ။ ။ဂရူနံ။ အလေးအမြတ်ပြုတတ်ကုန်သောသူတို့၏။ ဘာဝေါ။အကြောင်းတည်း။ ဂါရဝေါ။ အလေးအမြတ် ပြုတတ်ကုန်သောသူတို့၏အကြောင်း။ ။ဤသို့သောဝစနတ္ထနှင့်အညီ။ အလေးအမြတ်ပြုတတ်ကုန်သောသူတို့အားအလေးအမြတ်ပြုခြင်းသည်ဂါရဝမည်၏။ ထို့ကြောင့် အဋ္ဌကထာ၌။ ။ဂါရဝေါနာမ ဂရုကာတဗ္ဗ ယောဂါရဟောသုဗုဒ္ဓပစ္စေကဗုဒ္ဓတထာဂတသာဝကေအာစရိယုပဇ္ဈာယ မာတာပိတုဇေဋ္ဌဘာတိကဘဂိနီအာဒိသု ယထာနုရူပံ ဂရုကာရော သဂါရဝတာ။ ။ဟူ၍မိန့်ဆို၏။ ။ဂါရဝေါနာမ။ဂါရဝမည်သည်ကား။ ဂရုကာ တဗ္ဗယောဂါရဟောသု။ အလေးအမြတ် ပြုအပ်သည့်၏အဖြစ်နှင့်ယှဉ်ကုန်သော။ ဗုဒ္ဓပစ္စေက ဗုဒ္ဓတထာဂတသာဝကအာစရိယုပဇ္ဈာယမာတာပိတု ဇေဋ္ဌဘာတိက ဘဂိနီအာဒိသု။ဘုရားပစ္စေကဗုဒ္ဓါဘုရားတပည့် ဆရာဥပဇ္ဈာယ် အမိအဘအစ်ကိုကြီးအစ်မကြီးအစရှိကုန်သောသူတို့၌။ ယထာနု

ပ်။အကြွင်အကြွင်အလေးအမြတ်ပြုသင့်သည့်အားလျော်စွာ။ ဂရု
ကရဏံ။ အလေးပြုခြင်းတည်း။ သဂါရဝတာ။ အလေးပြုခြင်း
ရှိသည့်၏အဖြစ်တည်း။ ။ထိုဂါရဝသည်ပစ္စုပ္ပန်သံသရာအ
ကျိုးကြီးပွါးရာအကြောင်းဖြစ်သောကြောင့်မင်္ဂလာမည်၏။ ။
ထိုဂါရဝ၏ မင်္ဂလာမည်သည့်၏အဖြစ်ကို ဟောတော်မူသဖြင့်
သည်းအဂါရဝ၏ မင်္ဂလာမမည်သည့်၏အဖြစ်ကို ပြတော်မူ၏။
ထိုစကားမှန်၏။ အဂါရဝသည် ဒုဂ္ဂတိသို့ လားရ ခြင်း အစရှိ
သောအကြောင်းကြောင့် အမင်္ဂလာမည်၏။ ထိုကြောင့် သုဘ
လုင်အားတရား ဟောတော်မူသော မြတ်စွာဘုရားသည်။ ။
ဗ္ဗမာဏဝကောဋ္ဌောဗ္ဗုဒ္ဓိဝါပုရိသောဝါထဒ္ဓေါဟောတိ။ ။အ
စရှိသောဒေသနာတော်ကိုဟောတော်မူရာ၌သိအပ်ကုန်၏။ ထို
မှတပါးလည်း နိဒါနဝဂ်ကာသသပသံယုတ် အဋ္ဌကထာ၌။ ။
ယောစေတိယင်္ဂဏံအာရောဟန္တော ဆတ္တံဓာရေတိဥပါဟနံဓာ
ရေတိအညတောဩလောကေတွာ ကထံကထေန္တောဂစ္ဆတိ။
အယံသတ္ထရိ အဂါရဝေါနာမ။ ယောဓမ္မသဝန ကာလေ ဃုဋ္ဌေ
ဒဟရသာမဏေရေဟိပရိဝါရိတော နိသီဒတိ။ အညာနိဝါနဝ
ကမ္မာဒီနိကရောတိ။ဓမ္မသဝနဂ္ဂေနိသန္နောနိဒ္ဒါယတိ။ ဝိက္ခိတ္တော
ဝါပနအညံကထေန္တောနိသီဒတိ။ အယံဓမ္မေအဂါရဝေါနာမ။
ယောထေရုပဋ္ဌာနံဂန္တွာအဝန္ဒိတွာနိသီဒတိ။ ဟတ္ထပလ္လတ္ထိကံဝါ
ကရောတိ။အညံဝါပနဟတ္ထပါဒကုက္ကုစ္စံကရောတိ။ ဝုဍ္ဎာနံသန္တိ
ကေအနုဋ္ဌာမ္ဗောကထေတိ။အယံသံဃေအဂါရဝေါနာမ။ ။ဟု
၍ဟောတော်မူသည်ကိုလည်း သိအပ်၏။ ။ယော။ အကြွင်ရ
ဟန်းသည်။စေတိယင်္ဂဏံ။ စေတီရင်ပြင်သို့။ အာရောဟန္တော။
တက်သည့်ရှိသော်။ဆတ္တံ။ထီးကို။ဓာရေတိ။ဆောင်း၏။ဥပါဟ
နံ။ဘိနပ်ကို။ ဓာရေတိ။ဆောင်၏။ အညတော။ တပါးသို့။ ဩ
လောကေတွာ။ကြည့်၍။ ကထံ။စကားကို။ ကထေန္တော။ပြော
ဆိုလျက်။ဂစ္ဆတိ။သွား၏။အယံ။ဤသိုအပ်ပြီးသည့်ကား။သတ္ထရိ။
ဘုရား၌။ အဂါရဝေါနာမ။ မရိုမသေပြုခြင်းမည်၏။ ယော။ အ

ကြောင်းရပါဟန်းသည်။ ဓမ္မသဝနကာလေ။ တရားနာသောကာလကို။ ဃုဋ္ဌေ။ ကြွေးကြော်လတ်သော်။ ဒဟာရသာမဏေရေပါ။ ပဉ္စင်းငယ်သာမဏေတို့ဖြင့်။ ပရိဝါရိတော။ ခြံရံလျက်။ နိသိဒတိ။ နေ၏။ အညာနိ။ တပါးကုန်သော။ နဝကမ္မာဒီနိဝါ။ အမှုသစ်အစရှိသည်တို့ကိုမူလည်း။ ကရောတိ။ ပြု၏။ ဓမ္မသဝနဂ္ဂေ။ တရားနာ တင်း ကုပ်၌။ နိသိန္နော။ နေလျက်။ နိဒ္ဒါ ယတိ။ အိပ်၏။ ဝိက္ခိတ္တော။ ပြန့်လွင့်သည်ဖြစ်၍။ အညံဝါပန။ တပါးသောစကားကိုမူလည်း။ ကထေန္တော၊ ပြောဆိုလျက်။ နိသီဒတိ။ နေ၏၊ အယံ။ ဤဆိုအပ်ပြီးသည့်ကား။ ဓမ္မေ။ တရားတော်၌။ အဂါရဝေါနာမ။ မရိုမသေပြုခြင်းမည်၏။ ယော။ အကြောင်းရပါဟန်းသည်။ ထေရူပဋ္ဌာနံ။ သီတင်းကြီးအားခစားရာသို့။ ဂန္တွာ။ သွား၍။ အဝန္ဒိတွာ။ ရှိမခိုးမူ၍။ နိသီဒတိ။ နေ၏။ ဟတ္ထပလ္လတ္ထိကံဝါ။ လက်အာယောဂပတ်ဖွဲ့ခြင်းကိုမူလည်း။ ကရောတိ။ ပြု၏။ အညံ။ တပါးသော။ ဟတ္ထပါဒကုက္ကုစ္စံဝါပန။ လက်ခြေတို့၏လှုပ်ခြင်းကိုမူလည်း။ ကရောတိ။ ပြု၏။ ဝုဍ္ဎာနံ။ သီတင်းကြီးတို့၏။ သန္တိကေ။ အထံ၌။ အနဇ္ဈိဋ္ဌော။ မတိုက်တွန်းဘဲ။ ကထေတိ။ တရားဟော၏။ အယံ။ ဤဆိုအပ်ပြီးသည့်ကား။ သံဃေအဂါရဝေါနာမ။ သံဃာ၌မရိုမသေပြုခြင်းမည်၏။ ။ဤသို့ဘုရားကို မရိုသေခြင်း၊ တရားတော်ကိုမရိုသေခြင်း၊ သံဃာတော်ကိုမရိုသေခြင်း၊ သိက္ခာကိုမရိုသေခြင်း၊ သမာဓိကို မရိုသေခြင်း၊ အပ္ပမာဒကို မရိုသေခြင်း၊ ပဋိသန္ထာရကိုမရိုသေခြင်းတည်းဟူသော အဂါရဝတရားရှိသောသူတို့သည်။ ပစ္စုပ္ပန် သံသရာအကျိုး ကြီးပွါးရာအကြောင်းမှ ဆုတ်ယုတ်သောကြောင့် မင်္ဂလာမမည်။ ထိုကြောင့်ထိုအကျိုးနှစ်ပါးတို့မှ ဆုတ်ယုတ်စေတတ်သောပရိဟာနိယတရား၏ပြန်ဘက်ဖြစ်သောအပရိဟာနိယတရားကို ဟောတော်မူလိုသော မြတ်စွာဘုရားသည်။ သတ္တအင်္ဂုတ္တိုရ်ပဌမပဏ္ဏာသကစတုတ္ထဝဂ်အပ္ပမာဒသုတ်၌။ ။သတ္ထုဂရုဓမ္မဂရု။ သံဃေစ တိဗ္ဗဂါရဝေါ။ သမာဓိဂရုအာတာပီ။ သိက္ခာယတိဗ္ဗဂါရဝေါ။ ။ဟူ၍သော

တော်မူ၏။ ။သဒ္ဓါဂုဏ်။ တရားဟူသောအလေးအမြတ်ပြုအပ်သောဝတ္ထုရှိသော၊ ဓမ္မဂရု။ တရားဟူသောအလေးအမြတ်ပြုအပ်သောဝတ္ထုရှိသော။ သံဃော။ သဃာဝ္ဘလည်း။ တိဗ္ဗဂါရဝေါ။ထက်သောအလေးအမြတ်ပြုခြင်းရှိသော။ အပ္ပမာဒဂရု။ မမေ့မလျော့ခြင်းဟူသော အလေးအမြတ် ပြုအပ်သော တရားရှိသော။ပဋိသန္ထာရဂါရဝေါ၊ အစေ့အစပ်ပြုခြင်း၌အလေးအမြတ်ပြုခြင်းရှိသော။ ဘိက္ခု။ရဟန်းသည်၊ ပရိဟာနာယ။ သမထဝိပဿနာတရား မဂ်ဖိုလ် တရားတို့မှ ဆုတ်ယုတ် ခြင်းငှါ။ အဘဗ္ဗော။မထိုက်။ နိဗ္ဗာနဿ။ နိဗ္ဗာန်၏။ သန္တိကေဧဝ။ အထံ၌သာလျှင်။ဟောတိ။ဖြစ်၏။ ။ထိုကြောင့်ဂုဏ်ဖြင့်ကြီးသောသူ၊ အသက်ဖြင့်ကြီးသောသူတို့ကို အရိုအသေအလေးအမြတ် ပြုအပ်ကုန်သည်ဖြစ်၍။ ပြုတတ်သောသူတို့ ပြုလေ့ရှိသောသူ၏အာနိသံသကိုကေနိပါတ်စတုက္ကဝဂ်တိတ္တိရဇာတ်၌။ ။ယေဝုဍ္ဎမပစာယန္တိ။နရာဓမ္မဿကောဝိဒါ။ ဒိဋ္ဌေဝဓမ္မေပါသံသာ။ ပေဿစသုဂ္ဂတိ။ ။ဟူသောဂါထာဖြင့်ဟောတော်မူ၏။ [illegible] ဓမ္မဿ။ကြီးသောသူတို့အားအရိုအသေပြုခြင်း [illegible] ဒါ။လိမ္မာကုန်သော။ ယေနရာ။ [illegible]

[illegible]

[illegible]

[illegible]

[illegible]

[illegible]

[illegible] ။ဝိဂြ ဝေမဝိဒ္ဒိုဒိသ

[illegible]

[illegible]

ဒွိဋ္ဌကိုယ်ကျိုးနှင့်ချုခြင်း။ နိဂုံးမင်္ဂလာ။

[illegible]

[illegible]

[illegible]

ချခြင်းစိတ်ရှိသည်၏ အဖြစ်နှင့်ပြည့်စုံသော ပုဂ္ဂိုလ် တို့သည် ပယ်အပ်သောမာနရှိသည်၊ ပယ်အပ်သော ခိုင်မာခြင်းရှိသည်၊ ခြေသုတ်ပုဆိုးနှင့်တူသည်၊ ဦးချိုကျိုးသော နွားလားဥသဘနှင့် တူသည်၊ နတ်ပယ်ပြီးသောအစွယ်ရှိသော မြွေနှင့်တူသည်ဖြစ်၍နူးညံ့သည်ပြေပြစ်သည်ချမ်းသာသောစကားရှိ၏။ ထိုပုဂ္ဂိုလ်၏ဤနှိမ့်ချသောစိတ်ရှိသည်၏အဖြစ်သည်။ နှိမ့်ချသောအသက်မွေးခြင်းရှိသည်၏အဖြစ်သည်နိဝါတမည်၏။ ။အဋ္ဌကထာ။ : နှိမ့်ချသော အသက် မွေးခြင်း ဟူသည်ကား ရှိခိုးခြင်း အလေ့တည်း။ ။ပဋ္ဌအင်္ဂုတ္တိုရ်ဋီကာ။ ။အလွန်မာနရှိသည်၏အစွမ်းအားဖြင့် ခိုင်မာခြင်း၌အပြစ်ကိုမြင်သော တစုံ တယောက်သောသူသည်၊ နှိမ့်ချခြင်းရှိသည်ဖြစ်၍ ပစ္စုပ္ပန်သံသရာအကျိုးနှစ်ပါးကြီးပွါးရာ အကြောင်းဖြစ်၍ မင်္ဂလာမည်၏။ ထိုစကားသည်မှန်၏။ မာနရှိသည်၏အဖြစ် ခိုင်မာသည်၏ အဖြစ်သည် ပျက်စီးခြင်း၏အကြောင်းဖြစ်၏။ ထိုကြောင့်။ ။ဇာတိထဒ္ဓေါ ဓနတ္ထဒ္ဓေါ။ ဂေါတ္တတ္ထဒ္ဓေါစယောနရော။ သဉာတိံ အတိမညေတိ။တံပရာဘဝတောမုခံ။ ။ဟူ၍ဟောတော်မူ၏။ ။ယောနရော။အကြင်သူသည်။ ဇာတိထဒ္ဓေါစ။ ဇာတ်ဖြင့်လည်းခိုင်မာ၏။ဓနတ္ထဒ္ဓေါစ။ ဥစ္စာအားဖြင့်လည်းခိုင်မာ၏။ ဂေါတ္တတ္ထဒ္ဓေါစ။ အနွယ်အားဖြင့်လည်းခိုင်မာ၏။ သဉာတိံ။မိမိ၏အမျိုးကို။အတိမညတိ။အလွန်မထေမဲ့မြင်ပြု၏။တဿနရဿ။ထိုလူ၏။ တံ။ထိုခိုင်မာခြင်းမထေမဲ့မြင်ပြုခြင်းသည်။ ပရာဘဝတော။ ပျက်စီးခြင်း၏။မုခံ။အကြောင်းသည်။ ဟောတိ။ဖြစ်၏။ ။အလွန်ခက်ထန်ခိုင်မာခြင်း မာနရှိသောသူ မည်သည်လည်း မဖြစ် သေးသော အခြံအရံတို့သည်လည်း မိမိအလိုသို့မလိုက်ပါနိုင်ခြင်း ဖြစ်ပြီးသော အခြံအရံတို့ကိုလည်း ဆုတ်ယုတ်စေ၍ သေကျေပျက်စီးတတ်သလျှင်ကတည်း။ ထိုစကား၌ တရသောမြေခွေးသည်ပထဝီဇယာမန္တန်ကို အမှီပြု၍ ခြင်္သေ့ဆင် သစ်ကျား အစရှိသောအခြေလေးချောင်းရှိသောအမျိုးတို့ကိုအပိုးရလေလျှင် မိ

၎င်း၏အခြံအရံတို့ကိုအမှီပြု၍ ခက်ခြင်းနိုင်ခြင်းတည်းဟူသော မာ
နရှိသည်ဖြစ်၍။ ဗာရာဏသီပြည်ကြီးကိုလုပ်ကြံအံ့ဟုလျှပ်ပေါ်
သောလောဘမာနတို့နှင့်ဆင်ဦးခေါင်းထက်၌တချသောခြသေ့်
ကိုတင်၍။ ထိုခြသေ့်၏ဦးခေါင်းထက် စီးပြီးလျှင်။ ဗာရာဏသီ
ပြည်၏အနီးသို့ချဉ်းလေလျှင်။ ထိုအကြောင်းကိုဗာရာဏသီမင်း
ကြီး၏ပုရောဟိတ်အမတ်သည်သိ၍။ခပ်သိမ်းသောလူအပေါင်း
တို့၏နားကိုပဲရန့်ညက်ဖြင့်ပိတ်စေပြီးလျှင်။ဟဲ့မြေခွေးအိုး။ နင်အ
အပိုးရသောအဖြစ်မရှိ၍ ထိုခြသေ့်သည်မဟောက်သလောဟု
ဆိုလေလျှင်။ ထိုမြေခွေးသည်အလွန်သောမာနရှိ၍ ခြသေ့်ကို
ဟောက်စေလျှင် ထိုခြသေ့်တို့မှတပါး သားအပေါင်းတို့သည်
မိမိနှင့်တကွ သေကျေပျက်စီးကြလေကုန်သော သဗ္ဗဒါဌ မြေ
ခွေးဝတ္ထုကိုထောက်၍သိအပ်ကုန်၏။ ထိုကြောင့်။ ။သိင်္ဂါ
လောမာနတ္ထဒ္ဓေါပ။ပရိဝါရေနအတ္ထိကော။ ပါပုဏိမဟတိံဘူ
မိံ။ရာဇာသိသဗ္ဗဒါဌိနံ။ ။ဧဝမေဝမနုဿေသု။ ယောဟော
တိပရိဝါရဝါ။ သောဟိတတ္ထမဟာဟောတိ။ သိင်္ဂါလောဝိယ
ဒါဌိနံ။ ။အထသောသိင်္ဂါလောဝိယ။ ပမာဒံအာပဇ္ဇိပဇ္ဇာနံ။တံ
ပရိဝါရံနိဿာယ။ ဝိနာသံပါပုဏာတိ။ ။ဟူ၍ဟောတော်မူ
၏။ ။ဣတ္ထဝေ။ရဟန်းတို့။ သိင်္ဂါလော။ မြေခွေးသည်။ မဟ
တိံဘူမိံ။ကြီးသောစည်းစိမ်သို့။ပါပုဏိ။ရောက်၏။သဗ္ဗဒါဌိနံ။
အစွယ်ရှိကုန်သော ခပ်သိမ်းကုန်သောသားတို့၏။ ရာဇာ။ မင်း
သည်။အသိ။ဖြစ်၏။သော၊ထိုမြေခွေးသည်။ ပရိဝါရေန။အလွန်
ဖြစ်သောအခြံအရံဖြင့်။ အတ္ထိကော။အလိုရှိ၏။ မာနထဒ္ဓေါ။အ
ခြံအရံကိုမှီ၍ဖြစ်သောမာနဖြင့်ခိုင်မာသကဲ့သို့။ ဧဝမေဝ။ ထိုအ
တူလျှင်။ မနုဿေသု။လူတို့တွင်။ယော။အကြင်သူသည်။ ဒါဌိနံ။
အစွယ်ရှိကုန်သောသားတို့၏။ သိင်္ဂါလောဝိယ။မြေခွေးကဲ့သို့။
ပရိဝါရဝါ။အခြံအရံရှိသည်။ ဟောတိ။ဖြစ်၏။ တတ္ထ။ထိုအခြံအ
ရံတို့၌။မဟာ။မြတ်သည်။ဟောတိ။ဖြစ်၏။ သောဟိ။ထိုသူသည်
လျှင်။မာနတ္ထဒ္ဓေါ။မာနဖြင့်ခိုင်မာသည်။ ဟောတိ။ဖြစ်၏။ အထ။

ထိုနေ့ဝင်မှ။သော။ထိုသူသည်။သိင်္ဂါလောဝိယာ။ မြေခွေးကဲ့သို့။ ပမာဒ်။မေ့လျော့ခြင်းသို့။ အာပဇ္ဇိတွာန။ရောက်၍။ တံပရိဂ္ဂါရံ။ ထိုအမြဲအရံကို။ နိဿာယ။မှီ၍။ ဝိနာသံ။ ပျက်စီးခြင်းသို့။ ပါပု ဏာတိ၊ရောက်၏။ ။(ဒုကနိပါတ်သဗ္ဗဒါဌဇာတ်။ အဋ္ဌကထာ လာသိင်္ဂါလဝတ္ထု။) ။ဤသို့မာနခိုင်မာသည်၏ အဖြစ်သည် ပျက်စီးခြင်း၏အကြောင်းဖြစ်သောကြောင့် မင်္ဂလာမမည်ဟူ၍ သိအပ်၏။ မခိုင်မာသည်၏အဖြစ်ဖြင့် သင့်ကိုပ်အပ်သော နှိမ့်ချ ခြင်းသည်တမူကား၊ ယသအစရှိသော ကျေးဇူးကိုရခြင်း၏အ ကြောင်းဖြစ်သောကြောင့် မင်္ဂလာမည်၏။ ထိုကြောင့်မြတ်စွာ ဘုရားသည် သိင်္ဂါလသုတ်၌။ ။ပဏ္ဍိတော သီလသမ္ပန္နော။ သဏှော စ ပဋိဘာနဝါ၊ နိဝါတဝုတ္တိအထဒ္ဓေါ။ တာဒိသော လ ဘတေ ယသံ။ ။ဟူ၍ဟောတော်မူ၏။ ။ပဏ္ဍိတော။ လိမ္မာ သည်ဖြစ်၍။ သီလသမ္ပန္နော။ သီလနှင့် ပြည့်စုံ သည် ဖြစ်၍။ သဏှော စ၊ သိမ်မွေ့နူးညံ့သောစကားကိုဆိုခြင်းဟူသောကျေး ဇူး ရှိသည်ဖြစ်၍။ ပဋိဘာနဝါ။ ဉာဏ်ရှိသည် ဖြစ်၍။ နိဝါတ ဝုတ္တိ။ နှိမ့်ချသောဖြစ်ခြင်းရှိသော။ တနည်းကား၊ နိဝါတဝုတ္တိ ရှိုးတတ်သော်အလေ့ရှိသော်။အထဒ္ဓေါ။ခိုင်မာခြင်းကင်းသော်၊ တာဒိသော။ ထိုသို့သဘောရှိသောသူသည်။ ယသံ။ အခြံအရံ စည်းစိမ်ချမ်းသာကို။လဘတေ။ရ၏။ ။နိဝါတမင်္ဂလာပြီး၏။

---

## ၂၄။ ရောင့်ရဲခြင်း-သန္တုဋ္ဌိမင်္ဂလာ။

သန္တုဋ္ဌိမည်သည်ကား။အမှတ်မရှိသောပစ္စည်းဖြင့်ရောင့်ရဲ ခြင်းတည်း၊ တနည်းကားအယုတ်အလတ်အမြတ်ဖြစ်သောပစ္စည်း ဖြင့်ရောင့်ရဲခြင်းတည်း။ ထိုရောင့်ရဲခြင်းသည် အလောဘလျှော် တည်း၊ ထိုကြောင့် ဇကနိပါတ်အင်္ဂုတ္တိုရ်အဋ္ဌကထာ၌။ ။ သန္တုဋ္ဌိတာတိအလောဘသန္တောသော။ ။ဟူ၍မိန့်ဆိုတော်မူ ၏။ ။သန္တုဋ္ဌိတာတိ။သန္တုဋ္ဌိတာဟူသည်ကား။ အလောဘ

သင်္ကေသသော။ အလောဘဟူသောအမှတ်မဲ့ဖြစ်သောပဗ္ဗည်းဖြင့် ရောင့်ရဲခြင်းတည်း။ ။အလောဘသည် တပါးသာလျှင်ဖြစ်ပြားသော်လည်း။ အာရုံအားဖြင့်ပြားခြင်းကြောင့်လေးပါးသော ပစ္စည်း၏အစွမ်းအားဖြင့်လေးပါးအပြားရှိ၏။ လေးပါးကုန်သော ပစ္စည်းတို့တွင်တပါးတပါးသောပစ္စည်း၌။ ယထာလာဘ၊ ယထာဗလ၊ ယထာသာရုပ္ပတို့၏အစွမ်းအားဖြင့်သုံးပါးသုံးပါးကုန်သော ရောင့်ရဲခြင်းတို့သည်ဖြစ်ကုန်၏။ ထိုလေးပါးကုန်သော ပစ္စည်းတို့တွင်တပါးတပါးလျှင်။ ယထာလာဘ၊ ယထာဗလ၊ ယထာသာရုပ္ပတို့၏အစွမ်းအားဖြင့် သုံးပါးသုံးပါးစီပြားကုန်သော အပြားအားဖြင့်တဆဲ့နှစ်ပါးသော ရောင့်ရဲခြင်းသည်ဖြစ်၏။ ထိုကြောင့် ဒီဃနိကာယ်သာမညဖလသုတ် အဋ္ဌကထာ။ မဇ္ဈိမနိကာယ်မူလပဏ္ဏာသကဓာတိယဝဂ်ရထသုတ်အဋ္ဌကထာ။ သံယုတ္တနိကာယ်ကဿပသံယုတ်အဋ္ဌကထာ။ အင်္ဂုတ္တရနိကာယ် ဧကနိပါတ်အဋ္ဌကထာ။ ခုဒ္ဒကနိကာယ် ခုဒ္ဒကပါဌသုတ္တနိပါတ် မင်္ဂလသုတ် အဋ္ဌကထာတို့၌။ ရောင့်ရဲခြင်း တဆဲ့နှစ်ပါး ကုန်သောသင်္ကေသကိုဆို၏။ အသို့ဆိုသနည်းဟူမူကား။ ။ဤသာသနာတော်၌ ရဟန်းသည် ကောင်းသည် မူလည်းဖြစ်စေ။ မကောင်းသည်မူလည်းဖြစ်စေ။ ရသမျှသောသင်္ကန်းနှင့်သာလျှင် မျှ၏။ ထိုရောင့်ရဲခြင်းသည်ယထာလာဘသင်္ကေသမည်၏။ ။ အနာရှိသောရဟန်းသည် လေးသောသင်္ကန်းရှိသည်ဖြစ်၍ သဘာဂရဟန်းနှင့် ထိုသင်္ကန်းကိုလဲ၍ ပေါ့သော သင်္ကန်းဖြင့် မျှသောရောင့်ရဲခြင်းသည် ယထာဗလသင်္ကေသမည်၏။ ။တပါးသောရဟန်းသည်မြတ်သောသင်္ကန်းကိုရတတ်၏။ ထိုမြတ်သောသင်္ကန်းကိုဗဟုသုတရှိကုန်သောမထေရ်ကြီးတို့အားလှူ၍။ မိမိသည်ကားတံမြက်ချေးစရာအရပ်မှရင်း။ တပါးသောပုဆိုးကြမ်းတို့ကိုရင်း သင်္ကန်း ပြု၍ ဝတ်ရုံရောင့်ရဲခြင်းသည် ယထာသာရုပ္ပသင်္ကေသမည်၏။ ။မင်္ဂလသုတ်အဋ္ဌကထာ စသည်တို့၌လာ၏။ ။ဆွမ်း၏အရာမှာလည်းဤအတူပင်မှတ်ရမည်။ ။

ကျောင်းကိုလည်း ထိုခွဲခြားခဲ့ပြီးသော သင်္ဂြိုဟ်သ အတိုင်းပင် မှတ်ရမည်။ဆေး၏ရောင့်ရဲခြင်း၌လည်းထိုအတူပင်မှတ်ရမည် ဖြစ်၍သင်္ဂြိုဟ်သသည်။ သင်္ကန်းဆွမ်းကျောင်းဆေးဟု ဆိုအပ် သောလေးပါးသောပစ္စည်းတို့တွင် တပါးပါးလျှင် ယထာလာဘ၊ ယထာဗလ၊ ယထာသာရုပ္ပအစွမ်းအားဖြင့်သုံးပါးသုံးပါး စီပြား သည်ဖြစ်၍ တဆဲ့နှစ်ပါး သင်္ဂြိုဟ်သ မည် သလျှင် က တည်း။ ။ဤတဆဲ့နှစ်ပါးအပြားရှိသော အယုတ်အလတ်အမြတ်ဖြစ်သောပစ္စည်းလေးပါးတို့၌ အာရုံအားဖြင့်မလျှပ်မပေါ်မူ၍ဟောတော်မူသော ဝိနည်း ဒေသနာတော်နှင့်အညီ ရောင့်ရဲခြင်း။ လူတို့၌လည်းတရားသဖြင့်ရှာမှီး၍ရအပ်သောအယုတ်အလတ်အမြတ်ဖြစ်သောပစ္စည်းနှင့်သာရောင့်ရဲခြင်း။ဘုရားဟောတော်မူသော ဝိနည်းပညတ်ဒေသနာတော်နှင့်အညီ ရှာမှီး၍ရသမျှဖြင့်ရင်း၊ ရသမျှတို့တွင်လည်းမြတ်သောပစ္စည်းကိုပေးလှူ ပူဇော်၍ယုတ်ညံ့သော ပစ္စည်းတို့ဖြင့်ရင်း။ ရောင့်ရဲလွယ်ခြင်း သည်သန္တုဋ္ဌိမည်၏။ သန္တုဋ္ဌိတရားဖြင့် အသက်မွေးသောရဟန်းရှင်လူတို့သည်ပစ္စုပ္ပန်သံသရာအကျိုးနှစ်ပါး ကြီးပွါးရာအကြောင်းဖြစ်သောကြောင့်မင်္ဂလာမည်၏။

ထိုရောင့်ရဲခြင်း၌မင်္ဂလာမည်ခြင်းကိုဟောတော်မူရာ၌။မိမိရအပ်သောပစ္စည်းတို့ဖြင့် မရောင့်ရဲခြင်း အလိုကြီးခြင်း သည် မင်္ဂလာမမည်မူ၍ ပျက်စီးချွတ်ယွင်းဆုတ်ယုတ်တတ်သော အကြောင်းကိုပြတော်မူလိုသောအဋ္ဌကထာဆရာသည်။ ချဒ္ဒကပိဘင်းအဋ္ဌကထာ၌ ဤဝတ္ထုကိုဆောင်တော်မူ၏။ ။သာဝတ္ထိပြည်၌တယောက်သောရဟန်းမိန်းမသည်။ သဃ်ာတို့ကိုကြက်သွန်ဘိတ်၍ ရဟန်းမိန်းမတို့သည် ကြက်သွန်အလို၍ လာကျန်သည်ရှိသော်။တပါးသောရဟန်းမိန်းမအားနှစ်ခုသုံးခုကျန်သော်ကြက်သွန်ဥတို့ကိုလှူလော့ဟုကြက်သွန်ခင်းစောင့်ကိုစေခိုင်းလေ၏။ထိုအခါတနေ့သ၌ထုလ္လနန္ဒာမည်သောရဟန်းမိန်းမသဉ်အခြံအရံနှင့်တကွကြက်သွန်ခင်းသို့ဝင်၍။ အတိုင်းအရှည်ကိုမသိများ

ရွာသောကြက်သွန်ကိုနုတ်ဆောင်စေ၏။ ကြက်သွန်ခင်းစောင့်သည်လည်းကဲ့ရဲ့၏။ မြတ်စွာဘုရားသည် ထိုအကြောင်းကိုသိတော်မူ၍။ထုလ္လနန္ဒါကိုကဲ့ရဲ့တော်မူပြီးလျှင်။ချစ်သားရဟန်းတို့။ အလိုကြီးသော ပုဂ္ဂိုလ်မည်သည်ကား။ ဘွား သော အမိကိုလည်းမနှစ်သက်စေနိုင်။ မကြည်ညိုကုန်သေးသော သူတို့ကိုကြည်ညို စိမ့်သော၄ါဒင်း။ ကြည်ညိုကုန်ပြီးသော သူတို့အားလည်းအတိုင်းထက်အလွန်ကြည်ညိုခြင်းကိုဖြစ်စေခြင်း၄ါဒင်း။ မဖြစ်သေးသော လာဘ်ကို ဖြစ်စေခြင်း၄ါဒင်း။ ဖြစ်ပြီး သောလာဘ်ကိုလည်း မြဲမြဲစိမ့်သော၄ါဒင်း မတတ်နိုင်။ အလိုနည်းသောပုဂ္ဂိုလ်တို့သည်ကား တတ်နိုင်၏ဟု မိန့်တော်မူ၍။ ချစ်သားတို့။ ထုလ္လနန္ဒာသည်ယခုအခါ၌သာလျှင် အလိုကြီးသည်မဟုတ်သေး။ ရှေးကာလ၌လည်းအလိုကြီးသည်သာလျှင် တည်းဟုအတိတ်ကိုဆောင်တော်မူ၏။ ။လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ တယောက်သော ပုဏ္ဏားသည် ရှေ့၌ ရွှေဟင်္သာမျိုးဖြစ်၏။ ထိုရွှေဟင်္သာသည် ဇာတိဿရ ဉာဏ်ဖြင့်မိုစမ်းလတ်သော်။ သူတပါးတို့၏အခစားလုပ်၍အသက်မွေးကုန်သောမိမိမယားသ္မီးတို့ကိုမြင်၍။ ထိုမယားသ္မီးတို့၌ချစ်သဖြင့် မယားသ္မီးတို့၏ အထံသို့သွား၍အလုံးစုံသောအကြောင်းကို ပြောဆိုပြီးလျှင်။ ထိုမယားသ္မီးတို့အားတခုတခုစီသောအတောင်ကိုပေးလေ၍။သူတပါးတို့၏အခစားအမှုကိုမပြုကြကုန်လင့်။ ဤအတောင်ကိုရောင်းချ အသက်မွေးလေကုန်လော့ဟုဆို၍ ဘဲလေ၏။ ထိုဟင်္သာမင်း၏ အတောင်သည်မြတ်ခြင်း၄ါ ခန့်သောရွှေသား အတိပြည့်သော အတောင် ဖြစ်သတတ်။ ထိုရွှေဟင်္သာသည်ဤနည်းဖြင့်ကြိုးကြားကြိုးကြားသွား၍တခုတခုစီသောအတောင်ကိုပေးလေ၏။ မယားဖြစ်ဘူးသော ပုဏ္ဏေးမတို့သည်လည်းကြွယ်ဝကြကုန်၏။ ထိုအခါတနေ့သ၌ပုဏ္ဏေးမလည်းချစ်သ္မီးတို့။တိရစ္ဆာန်တို့၏စိတ်မည်သည်ကိုသိနိုင်ခဲ၏။ ရခါသင်တို့အဘဖြစ်သောရွှေဟင်္သာသည်မလာသော်လည်းနေရာ၏။ သေ

သော်မှုလည်းငါတို့ထံမရောက်ရာ။ ထိုကြောင့်ထိုဗွေဟာသ်၏ လာသောအခါ၌ ခပ်သိမ်းကုန်သောအတောင်တို့ကို နုတ်၍ယူကြကုန်အံ့ဟုသို၏။ သို့ကြောင်းတို့သည် အဘ ဖြစ်သော ဗွေဟာသ်၏ ကျေးဇူးကိုသိ၍ရင်း။အလွန်သနားသည်ဖြစ်၍ရင်း၊ အမိပုဏ္ဏားမကိုတားမြစ်ကြကုန်၏။ ထိုထုလ္လနန္ဒာအလောင်းဖြစ်သောအမိပုဏ္ဏားမသည် အလွန်အလိုရမ္မက်ကြီးသည်၏ အဖြစ်ကြောင့်။ သို့ကြောင်းတို့တားမြစ်သည်ကိုမနိုင်၊ တနေ့သ၌ထိုဗွေဟာသ်သည်တဘန်လာ၍လတ်သော်။ ခပ်သိမ်းကုန်သော အတောင်တို့ကို နိုင်ထက်ကလူနှိပ်စက်နုတ်ယူလေ၏။ ထိုအခါ ဗွေဟာသ်၏အလိုနှင့် ကင်း၍ ဗလက္ကာရအားဖြင့် ယူအပ်သည်၏အဖြစ်ကြောင့်။ ခပ်သိမ်းကုန်သောအတောင်တို့သည် ဖြိုင်းတောင်နှင့်တူသည်ဖြစ်ကုန်၏။ ဗွေဟာသ်သည်လည်း ပျံသွားအံ့သော၌ မတတ်နိုင်။ သားမယားတို့ကို ချစ်ခြင်း တည်းဟူသော ပေမတဏှာ၏ အစွမ်းဖြင့်ကြီးစွာသောဒုက္ခရောက်လေ၏။ ပုဏ္ဏားမသည်ထိုဗွေဟာသ်ကို အိုး စရည်းကြီး၌ ထည့်၍ မွေးလေသော်။ တဘန်ပေါက်သောအတောင်တို့သည်လည်း ဖြိုင်းတောင်ကဲ့သို့ အဖြူဖြစ်ကုန်၍ထိုဗွေဟာသ်ကိုလွှတ်လိုက်လေ၏။ထိုဗွေဟာသ်သည် တဘန်မလာဝံ့ပြီ။ မြတ်စွာဘုရားသည် ထိုအတိတ်ကို ဆောင်တော်မူ၍။ချစ်သားရဟန်းတို့။ထုလ္လနန္ဒာသည်ယခုအခါ၌သာအလိုကြီးသည် မဟုတ်။ ရှေး၌လည်း မိမိသင် ဖြစ်ဘူးသော ဗွေဟာသ်၏အတောင်တို့ကို အလိုကြီးသည်ဖြစ်၍ ရွှေမှယုတ်လေ၏။မိမိစီးပွါးချမ်းသာတို့သည်ပျက်စီးဆုတ်ယုတ်လေ၏။ ယခုလည်းမိမိအလိုကြီးသောကြောင့်လျှင်ကြက်သွန်မှယုတ်၏။ ထိုကြောင့်ဤအခါမှစ၍ ထုလ္လနန္ဒာနှင့်တကွ ရဟန်းမိန်းမတို့သည် ကြက်သွန်ကို စားခြင်းငှါ မရကုန်လတံ့။ ထိုကြောင့်များစွာသောပစ္စည်းကိုရသည်ဖြစ်စေ။ အနည်းငယ်သောပစ္စည်းကိုရသည်ဖြစ်စေ။ရထိုက်သောပစ္စည်းဖြင့်သာအလျှင်ရှောင့်ရခြင်းကို ပြုအပ်၏။ ထိုထက်အလွန်ကို မပြုလောက်သောကြောင့်သာအနည်းငယ်မျှမိန့်တော်မူ၏။

ကောနိပါတ် ဓုဒ္ဒသမဝဂ် ဓမ္မိကသုတ်၌။ ။ယံလဒ္ဓံတေန
တုမှေ့ဟံ။ အတိလောဘောဟိပါပကော။ ဟံသရာဇံဂဟေတွာန။
သုဝဏ္ဏာပရိဟာယထိ။ ။ဟူသောဂါထာကို ဟောတော်မူ
၏။ ။ယံ။အကြင်ပစ္စည်းကို။ လဒ္ဓံ။ရအပ်၏။ တေန။ ထိုရသမျှ
ဖြစ်သောပစ္စည်းဖြင့်။ တုမှေ့ဟံ။ရောင့်ရဲအပ်၏။ ဟိသစ္စံ။မှန်၏။အ
တိလောဘော။လွန်၍ဖြစ်သောလောဘသည်။ပါပကော။ယုတ်
မာ၏။ ဟံသရာဇံ။ဟင်္သာမင်း၏အတောင်ကို။ဂဟေတွာန။ နိုင်
ထက်ကလူမှုလျက်ယူ၍။ သုဝဏ္ဏာ။ရွှေမှ။ ပရိဟာယထိ။ ယုတ်
၏။ ။ဤသို့ဟောတော်မူပြီး၍ကား။ ။ယာပနတိကွန္နီလသု
ဏံခါဒေယျပါစိတ္တိယံ။ ။ဟူ၏ဘိက္ခုနီမတို့သည်ကြက်သွန်
ကိုစားခြင်း၌ ပါစိတ်အာပတ်ဖြင့်ပညတ်တော်မူ၏။ ။(ထုလ္လ
နန္ဒာဝတ္ထု။) ။အကြင်ကြောင့် ပစ္စည်းခံခြင်း၌ အတိုင်းအရှည်
ကိုမသိသောသူသည်။ လူတို့၏ကြည်ညိုခြင်းကိုဖျက်ဆီးတတ်
၏။သဒ္ဒါဒေယျကိုဖျက်ဆီးတတ်၏။ ဘုရားအဆုံးအမတော်ကိုမ
လိုက်နာ။ မိမိကိုမွေးသောအမိမှသော်လည်း အလိုအလွန်ကြီး
သောလောလုပ္ပစိတ်ကိုမလိုက်ရာ။မိမိ၏လာဘ်ကိုလွန်၍အလိုရှိ
သောပုဂ္ဂိုလ်သည် မိမိသည်ရအပ်သော မြတ်သော ဝတ္ထုကို
လည်းအယုတ်ကဲ့သို့ထင်၏။ သူတပါးသည်ရအပ်သော ယုတ်
သောဝတ္ထုကိုလည်းမြတ်သကဲ့သို့ထင်၏။ တလုံးသောအိုးဖြင့်
ချက်အပ်သောယာဂုကိုဇင်း။ဆွမ်းကိုဇင်း။ မုန့်ကိုဇင်းမိမိသပိတ်
၌ထည့်အပ်သည်ရှိသော် ယုတ်သကဲ့သို့ထင်၏။ သူတပါး၏သ
ပိတ်၌ထည့်အပ်သည်ရှိသော်မြတ်သကဲ့သို့ထင်၏။ ဤမိမိလာဘ်
ကိုလွန်၍အလိုရှိသည်၏အဖြစ်သည် လူရဟန်းတို့အားဇင်း။ တိ
ရစ္ဆာန်တို့အားဇင်းဖြစ်၏။ ထိုစကား၌ဤဆိုလတံ့သောဝတ္ထုတို့
ကိုသိအပ်ကုန်၏။

တယောက်သောသူကြွယ်သည် သုံးကျိပ်ကုန်သောရဟန်း
မိန်းမ တို့ကိုဘိတ်၍ မုန့်နှင့်တကွသော ဆွမ်းကို လှူသတတ်။
သဃ်ထေရ်ဖြစ်သော ရဟန်းမိန်းမသည် ရဟန်းမိန်းမတို့၏သ

ဗိတ်၌မုန့်ကိုလဲလှယ်၍နောက်မှမိမိရအပ်သော မုန့်ကိုသာလျှင် စားသတတ်။ ။ဤဝတ္ထုသည် ချဒ္ဒကဗိဘင်းအဋ္ဌကထာ၌လာ သတည်း။ ။လူတို့တွင်လည်းမိမိတို့တွင်အကျိုးပေးလာသော အလုပ်အကျွေး မယားစသော အသုံးအဆောင်။ မိန်းမတို့တွင် လည်းမိမိ၌အကျိုးပေးလာသော လင်အစရှိသောဝတ်စားအသုံး အဆောင်တို့သည်မိမိနှင့်ထိုက်တန်သမျှကာသိုလ်အားလျော်စွာ ဖြစ်လာ၏။ ထိုဖြစ်လာသော ဝတ္ထုကိုပင်မရောင့်ရဲမူ၍။ တပါး သောဝတ္ထုတို့၌ တပ်စွန်းလိုက်စားသော ယောကျ်ားမိန်းမတို့ အား။ လောလုပ္ပတဏှာ၏အလိုသို့လိုက်စား၍ အလိုရမ္မက်ကြီး ခြင်းကြောင့် သန္တုဋ္ဌိ မင်္ဂလာမဖြစ်။ ထိုသို့ လိုက် စား သော ယောကျ်ားမိန်းမတို့သည် ပစ္စုပ္ပန်သံသရာအကျိုးစီးပွါးမှဆုတ် ယုတ်ပျက်စီးခြင်းသို့ရောက်လေကုန်၏။

လွန်လေပြီးသောအခါ ဗာရာဏသီမင်းသားသည်အဘဖြစ် သောမင်းကြီးနှင့်သည်ဖြက်၍ အသိတာဘူမည်သော မိမိ၏မိ ဘုရားကိုဆောင်ယူ၍ ဟိမဝန္တာသို့ ဝင်လေပြီးလျှင်။ ငါးအမဲ သစ်သီးဖုံ့ကိုစားလျက် သစ်ရွက်မိုးသောတဲ၌နေလေ၏။ ထို မင်းသားသည် တခုသော ကိန္နရာမကို မြင်လေလျှင် တပ်စွန်း သောစိတ်ရှိသည်ဖြစ်၍ မိဘုရားကိုစွန့်ပြီးလျှင်။ ထိုကိန္နရာမ၏ ခြေရာအစဉ်သို့လိုက်၏။မိဘုရားသည်။ဤမင်းသားကားငါ့ကိုမ ရေတွက်မူ၍ကိန္နရာမနောက်သို့လိုက်၏ဟု တပါးသောရသေ့ သို့ခည်းကပ်လေပြီးလျှင်။ ကသိုဏ်း ပရိကံကိုသင်၍ ဈာန်အ ဘိညာဉ်တို့ကိုရလေ၏။ ကိန္နရာမနောက်သို့လိုက်သောထိုမင်း သားသည်။ ကိန္နရာမသွားသောလမ်းကိုမမြင်၍ ပြတ်သောအား သာနှင့်ပြန်လာလေ၏။မိမိမယားသည်လည်းလာလတ်သောထို မင်းသားကိုမြင်၍ ကောင်းကင်သို့ဈာန်အဘိညာဉ်ဖြင့် ပျံတက် ပြီးလျှင်တပါးသောအရပ်သို့သွားလေ၏။ ထိုမင်းသားသည် မိ ဘုရားပျံသွားသော အကြောင်းကို သိမြင် လေလျှင်။ ဆောက် တည်မရ ငိုကြွေးလျက် ဒုကာနိပါတ်နဝမဝဂ် အသိတာ ဘူဇာ

စာတ်၌။ ။အတြိ ဘွ အတိလောဘေန၊ အတိလောဘမဒေနစ။ ဇိုဟာယတိအတ္တမ္မာ။အဟံယထာသိတာဘုတာ။ ။ဟူသော ဂါထာကိုဆို၏။ ။အဟံ။ငါသည်။အသိတာဘုတာ။ အသိတာ ဘူမည်သောမင်းသို့မှ။ ပရိဟီနော ယထာ။ယုတ်သကဲ့သို့၊ ဇိဟံ တထာ။ ထိုအတူ။ အတြိ ဘွ ။ ထိုထိုအာရုံ၌လိုချင်ခြင်းဟုဆိုအပ် သောအဆုံးမရှိသော လောလုပ္ပတဏှာ၏အစွမ်းအားဖြင့်လိုချင် ခြင်းရှိသောသူသည်။အတိလောဘေန၊ လွန်၍ဖြစ်သောလောဘ ကြောင့်၎င်း။အတိလောဘမဒေနစ။ လွန်၍ဖြစ်သောလောဘဟူ သောယောကျ်ားတို့၏ယစ်ခြင်းကိုဖြစ်စေတတ်သောသဘော ကြောင့်၎င်း။ အတ္တမ္မာ။အကျိုးမှ။ ဟာယတိ။ဆုတ်ယုတ်၏။ ။ ထိုအခါမှစ၍ ထိုမင်းသားသည် တယောက် တည်း သာလျှင် တောသို့နေရလေ၏။ ။(မင်းသားဝတ္ထု)။ ။မိန်းမတို့၌လျှပ် ပေါ် လော်မာ ခြင်းကိုလည်း ပဒုမဇာတ်၌ ပဒုပမင်းသား၏ မိ ဘုရားသည်၊ ကျေးဇူးရှင်ဖြစ်သောဘုရားလောင်းပဒုပမင်းသား ကိုတောင်ထိပ်မှ ချောက်ကြားသို့တွန်းချပြီးလျှင်။ သက်တိုခြေ တို့ဖြစ်သောသူဆိုးနှင့်ပေါင်းဘော်၍ပျက်စီးခြင်းသို့ရောက်လေ သည်ကိုသိအပ်၏။ ။ထိုမှတပါးလည်းဗြဟ္မဒတ်မင်းကြီး၏ ကိန္နရီအမည်ရှိသောမိဘုရားသည်။ ထိုမင်းကြီး၌မရောင့်ရဲနိုင် သော လောလုပ္ပတဏှာ၏ အစွမ်းဖြင့် အလွန်အလိုကြီးသော ယုတ်မာတပ်စွန်းခြင်းရှိသောအဖြစ်ကြောင့်။တပါးသောကုဏ္ဍ နာတွဲသောသူကို နှစ်သက်ပေါင်းဘက်လိုသည်ဖြစ်၍။ မင်းကြီး သည် အိပ်ပျော်သောညဥ့်အခါတို့၌ နန်းတော်မှဆင်းသက်ပြီး လျှင်။ ထိုအနူယောကျ်ားနှင့် ပေါင်းဘော်နှစ်သက်ခြင်းကြောင့် ပျက်စီးခြင်းသို့ ရောက်သော ကိန္နရီအမည်ရှိသော မိဘုရား၏ ပျက်စီးခြင်းကိုလည်းသိအပ်၏။ ။သဋ္ဌမမင်္ဂလာပြီး၏။

---

၂၄။ သူ၏ကျေးဇူးကိုသိခြင်း–ကတညုတာမင်္ဂလာ။

နည်းသည်မူလည်းဖြစ်စေ၊ များသည်မူလည်း ဖြစ်စေတရုံ တယောက်သောသူသည်ပြုအပ်သောကျေးဇူးကို အဘန်တုလဲ လဲအောက်မေ့သည်၏အဖြစ်ဖြင့် သိတတ်သည်၏ အဖြစ်သည် ကတညုတာမည်၏။ ။တနည်းကား။ငရဲအစရှိသည်တို့၌ဖြစ် သောဆင်းရဲကို စောင့်ရှောက်ကွယ်ကာခြင်းဟူသော အကြွင် အကြောင်းကြောင့်။ ကုသိုလ်ကောင်းမှုတို့သည်သာလျှင်သတ္တ ဝါတို့အားကျေးဇူးများကုန်၏။ထိုကြောင့်ထိုကုသိုလ်ကောင်းမှု တို့၏ ကျေးဇူးကို အောက်မေ့သည်၏ အဖြစ်သည်လည်း က တညုတာမည်၏။ ။ကျေးဇူးကို သိသောသူကိုရခဲ၏။ ထို ကြောင့်ဒုကနိပါတ်အင်္ဂုတ္တိုရ်တတိယပဏ္ဏာသကပဌမဝဂ်၌။ ။ ဒွေမေဘိက္ခဝေပုဂ္ဂလာဒုလ္လဘာ၊လောကသ္မိံ။ ကတမေဒွေ။ယော စပုဗ္ဗကာရီယော ကတညူကတဝေဒီ။ ဣမေခေါဘိက္ခဝေ ဒွေ ပုဂ္ဂလာဒုလ္လဘာလောကသ္မိံ။ ။ဟူ၍ဟောတော်မူ၏။ ။ ဘိက္ခဝေ။ရဟန်းတို့။ လောကသ္မိံ။ လောက၌။ ဒွေ။နှစ်ယောက် ကုန်သော။ဣမေပုဂ္ဂလာ။ ဤပုဂ္ဂိုလ်တို့ကို။ ဒုလ္လဘာ။ရခဲကုန်၏။ ဒွေ။နှစ်ယောက်ကုန်သောပုဂ္ဂိုလ်တို့သည်။ ကတမေ။ အဘယ် သည်တို့နည်းဟူမူကား၊ ယောစ။ အကြင်သူသည်လည်း။ ပုဗ္ဗ ကာရီ။ လက်ဦးစွာကျေးဇူးကိုပြု၏။ ယောစ။ အကြင်သူသည် လည်း။ ကတညူ။ သူပြုဘူးသောကျေးဇူးကိုသိ၍။ ကတဝေဒီ။ နောက်၌ကျေးဇူးပြုတုံ့ပြု၏။ဘိက္ခဝေ။ ရဟန်းတို့။ လောကသ္မိံ။ လောက၌။ ဒွေ။ နှစ်ယောက်ကုန်သော။ ဣမေခေါပုဂ္ဂလာ။ ဤ ပုဂ္ဂိုလ်တို့ကို။ဒုလ္လဘာ။ရခဲကုန်၏။ ။ထိုနှစ်ယောက်ကုန်သော သူတို့တွင်။ လက်ဦးကျေးဇူးပြုသောသူသည်မြီကိုပေး၏ဟုအ မှတ်ပြု၏။နောက်၌ကျေးဇူးပြုတုံ့ပြုသောသူသည်ကားမြီကိုပြေ စေအံ့ဟုအမှတ်ပြု၏။ ။ထိုပါဠိတော်၏အဓိပ္ပာယ်ကား။ ။ပုဗ္ဗ ကာရီဟူသည်ကားလက်ဦးစွာလျှင်ကျေးဇူးပြုသောသူတည်း။ ကတဝေဒီဟူသည်ကား သူတပါးသည်မိမိ၌ပြုဘူးသောကျေး

ဖုးကိုထင်စွာပြုသောသူတည်း။ ထိုပုဗ္ဗကာရီ ကတဝေဒီ ဖြစ်ကုန်သောသူတို့ကိုလူ့ရဟန်းတို့ဖြင့်ပြအပ်ကုန်၏။ ထိုစကားကိုချဲ့အပ်၏။ လူတို့တွင်အမိအဘတို့အားလုပ်ကျွေးခြင်း ရှိခိုးပူဇော်ခြင်းအစရှိသည် တို့ကိုလည်း ပြုကုန်သော သားသမီး တို့သည် ကား ကတဝေဒီ မည်ကုန်၏။ ရဟန်းတို့ တွင်လည်း ဆရာဥပဇ္ဈာယ်တို့သည်ပုဗ္ဗကာရီမည်ကုန်၏။ဆရာဥပဇ္ဈာယ်တို့အားလုပ်ကျွေးခြင်း ရှိခိုးခြင်းပူဇော်ခြင်း အစရှိသည်တို့ကိုသည်းပြုကုန်သော အန္တေဝါသိကတပည့်။ သဒ္ဓိဝိဟာရိက တပည့်တို့သည်ကတဝေဒီမည်ကုန်၏။ ထိုတပည့်တို့ကိုထင်စွာပြခြင်းအကျိုး၌ဥပဇ္ဈာယ်ကိုလုပ်ကျွေးသောသောဏထေရ်အစရှိသည်တို့၏ဝတ္ထုကိုသိအပ်ကုန်၏။

ပယ်နည်းကား။ သူတပါးသည်ကျေးဇူးမပြုဘဲလျက်သျှင်မိမိ၌ပြုဘူးသောကျေးဇူးကိုမငဲ့မူ၍ ကျေးဇူးပြုသောသူသည် ပုဗ္ဗကာရီမည်၏။ သတ္တဝါတို့ကိုတဏှာသည်နှိပ်စက်အပ်သည်၏အဖြစ်ကြောင့်။ ထိုသို့သဘောရှိသော ပုဗ္ဗကာရီပုဂ္ဂိုလ်ကိုရခဲ၏။သူတပါးသည် ပြုအပ်သောကျေးဇူးအားလျော်စွာဖြစ်၍မိမိ၌ပြုဘူးသော ကျေးဇူးကိုကျေးဇူးအားဖြင့် ထင်စွာပြုသော သူသည်ကတညူကတဝေဒီမည်၏။သတ္တဝါတို့ကိုအဝိဇ္ဇာနှိပ်စက်သည်၏အဖြစ်ကြောင့်။ထိုသို့သဘောရှိသောကတညူကတဝေဒီပုဂ္ဂိုလ်ကိုလည်းရခဲ၏။ ငါ့အားကျေးဇူးပြုလတံ့ ဤသို့ အစရှိသောအကြောင်းကိုမငဲ့မူ၍ကျေးဇူးပြုသောသူသည် ပုဗ္ဗကာရီမည်၏။ ငါ့အားကျေးဇူးပြုလတံ့ဤသို့အစရှိသောအကြောင်းကိုငဲ့၍ ကျေးဇူးပြုသောသူသည် ကတညူကတဝေဒီမည်၏။ အမိုက်မှအလင်းသို့လာသောသူသည်ပုဗ္ဗကာရီမည်၏။ အလင်းမှအလင်းသို့လာသောပုဂ္ဂိုလ်သည် ကတညူ ကတဝေဒီမည်၏။ တရားဟောသောသူသည် ပုဗ္ဗကာရီမည်၏၊ တရားကျင့်သောသူသည် ကတညူကတဝေဒီမည်၏။ သဗ္ဗညု မြတ်စွာဘုရားသည် ပုဗ္ဗကာရီမည်၏။ မြတ်စွာဘုရား၏ တပည့်အပေါင်းတို့

သည် ကတညူကတဝေဒီမည်၏။ ။ပုဂ္ဂလပညတ်အဋ္ဌက
ထာ။ ။ထိုသို့ပုဗ္ဗကာရီပုဂ္ဂိုလ် ကတညူကတဝေဒီပုဂ္ဂိုလ်နှစ်
ပါးတို့တွင်။ပုဗ္ဗကာရီဟုဆိုအပ်သောရှေးအဘို့ဖြစ်သောအဆွေ
ခင်ပွန်း၏နောက်သို့အစဉ်မပျက်ဆက်လက်လိုက်မှသာလျှင်က
တညူ ကတဝေဒီ ပုဂ္ဂိုလ်အဖြစ်သို့ ရောက်နိုင်သည်၏ အဖြစ်
ကြောင့်ဝိဓုရဇာတ်၌။ ။ယာတာနုယာယီစ ဘဝါဟိမာဏဝ။
အလ္လဉ္စပါဏိံ ပရိဝဇ္ဇယဿု။မာစဿုမိတ္တေသုကဒါစိဒုဗ္ဘီ။မာစဝ
သံအသတီနံဂစ္ဆေ။ ။အသန္ထုတံနောပိစဒိဋ္ဌပုဗ္ဗံ။ ယောအာသနေ
နာပိနိမန္တယေယျ။ တဿေဝအတ္ထံပုရိသောကရေယျ။ ယာတာနု
ယာယီတိ တမာဟုပဏ္ဍိတာ။ ။ယဿေကရတ္တိမ္ပိ ဃရေဝ
သေယျ။ယတ္ထန္နပါနံပုရိသောလဘေယျ။နတဿပါပံမနသာပိ
စိန္တေယျ။အဒုဗ္ဘပါဏိံဒဟတေမိတ္တဒုဗ္ဘော။ ။ယဿရုက္ခဿ
ဆာယာယ။နိသီဒေယျသယေယျဝါ။ နတဿသာခံဘဉ္ဇေယျ။
မိတ္တဒုဗ္ဘောဟိပါပကော။ ။ပုဏ္ဏံပိစေမံပထဝိံဓနေန။ဒဇ္ဇိတ္ထိယာ
ပုရိသောသမ္မတာယ။ လဒ္ဓါခဏံအတိမညေယျ။ တံပိတာ
သံသဝတီနံနဂစ္ဆေ။ ။ဧဝံခေါယာတာ မနုယာယိဟောတိ။
အလ္လဉ္စပါဏိံ ဒဟတေပနေဝံ။ အသတီစသာ ယောပန မိတ္တ
ဒုဗ္ဘော။သောအဓမ္မိကောဟောတိဝဇ္ဇယဿုအဓမ္မံ။ ။ဟုသာရ
နုရဓမ္မလေးပါးကိုဟောတော်မူ၏။ ။မာဏဝ။ ကစ္စည်းလုလင်။
ယာတာနုယာယီစ။ရှေ့သွားသောသူ၏နောက်သို့အစဉ်တစိုက်
လိုက်သည်လည်း။ဘဝါဟိ။ဖြစ်လေလော့။ အလ္လဉ္စပါဏိံ။စွတ်စို
ပြီးသောလက်ကိုလည်း။ပရိဝဇ္ဇယဿု။ မသွေ့ခြောက်စေလင့်။
မိတ္တေသု။ အဆွေခင်ပွန်းကောင်းတို့၌။ ကဒါစိ။ တရံတဆစ်မျှ။
ဒုဗ္ဘီ။ဖျက်ဆီးခြင်းသည်။မာစဿု။မဖြစ်စေလင့်။အသတီနံ။
သူတော်မဟုတ်မိန်းမယုတ်တို့၏။ဝသံ။အလိုနိုင်ငံသို့။ မာစဂစ္ဆ။
မလိုက်လေလင့်။ ။ယော။အကြင်သူသည်။အသန္ထုတံ။အကျွမ်း
မဝင်ဘူးသည်လည်းဖြစ်သော။ နာပိစဒိဋ္ဌပုဗ္ဗံ။ ရှေး၌မမြင်ဘူး
သည်လည်းဖြစ်သောသူကို။ အာသနေနာပိ။ အိပ်ရာနေရာဖြင့်

လည်း။ နိမန္တေယျ။ဘိတ်ကြွားပေးငြားအံ့။ ပုရိသော။ ကျေးဇူးခံသောယောကျ်ားသည်။တဿော။ ထိုရှေးဦးစွာပေးသောပုဗ္ဗကာရီမဟာမိတ်၏လျှောင်။အဋ္ဌံ။အကျိုးစီးပွါးကို။ကရေယျ။ပြုရာ၏။ တံ။ထိုသို့ကျေးဇူးတုံ့ပြုသောသူကို။ ပဏ္ဍိတာ။ ပညာရှိတို့သည်။ယာတတာနုယာယိတိ။ ယာတတာနုယာယိပုဂ္ဂိုလ်ဟူ၍။ အာဟု။ဆိုကုန်၏။ ။ယဿ။ အကြင်သူ၏။ ဃရေ။ အိမ်၌။ ဧကရတ္တိမ္ပိ။တညဉ့်မျှလည်း။ ဝသေယျ။နေရငြားအံ့။ တဿ။အကြင်ပုဂ္ဂိုလ်၏ အထံ၌။ အန္နပါနံ။ ထမင်း အဖျော် ကို။ ပုရိ သော။ ယောကျ်ားသည်။ လဘေယျ။ ရငြားအံ့။ တဿ။ထိုအဆွေခင်ပွန်းကောင်း၏။ ပါပံ။ အကျိုးမဲ့ပျက်စီးရာအကြောင်းမကောင်းသောအမှုကို။ မနသာပိ။စိတ်မျှဖြင့်လည်း။ နစိန္တေယျ။ မကြံရာ။ သောပုရိသော။ ထိုသို့စိတ်မျှမကြံသောယောကျ်ားသည်။ အဒုဗ္ဘိ။အဆွေခင်ပွန်းကောင်းကိုမဖျက်ဆီးသောသူသည်။ ဟောတိ။ဖြစ်၏။မိတ္တဒုဗ္ဘော။ အဆွေခင်ပွန်းကောင်းကိုဖျက်ဆီးတတ်သောသူသည်။ပါဏိံ။စိုစွတ်သောလက်ကို။ဒဟတေ။ပူလောင်ခြောက်သွေ့စေသည်မည်၏။ ။ယဿရုက္ခဿ။အကြင်သစ်ပင်နှင့်တူသောအဆွေခင်ပွန်း၏။ဆာယာယ။ ကျေးဇူးတည်းဟူသောအရိပ်၌။ နိသီဒေယျဝါ။ ထိုင်နေသောပမာအခိုက်အတန့်သာမှုလည်းခံစားငြားအံ့။သယေယျဝါ။ အိပ်နေသောပမာရှည်မြင့်စွာမှုလည်းခံစားငြားအံ့။ တဿ။ ထိုသစ်ပင်နှင့်တူသောအဆွေခင်ပွန်းကောင်း၏။ သာခံ။ အခက်နှင့်တူသောသားမယားစည်းစိမ်ကို။နဘိန္ဒေယျ။မဖျက်ဆီးရာ။ ဟိသစ္စံ။ထိုစကားသည်မှန်၏။ပါပကော။ယုတ်မာသောသဘောရှိသောသူသည်။ စေ။အကယ်၍။ဘိန္ဒေယျ။ဖျက်ဆီးငြားအံ့။မိတ္တဒုဗ္ဘော။အဆွေခင်ပွန်းကောင်းကိုဖျက်ဆီးသည်။ ဟောတိ။ ဖြစ်၏။ ။ပုရိသော။ ယောကျ်ားသည်။ ဣတ္ထိယာ။ မိန်းမအား။ သမထာယ။အလိုကိုပြီးစေခြင်းအကျိုးငှါ။ဝါ။ပြည့်စေခြင်းငှါ။ စေ။အကယ်၍။ပထဝိံ။ဇမ္ဗူဒီပမြေအပြင်ကို။ ဓနေန။ဥစ္စာဖြင့်။ ပုဏ္ဏံပိ။ပြည့်သည်ကို

လည်း။ကတ္တာ။ပြု၍။ဒဋ္ဌေ။ပေးဝြားအံ့။ လဒ္ဓါခဏံ။ ရပြီးသော ခဏ၌။ အတိမညေယျ။ မထေမဲ့မြင် အောက်မေ့ရာ။ တဿအ ခ သတိနံ။ထိုသို့အလိုမဆုံးနိုင်သောမိန်းမတို့၏။ တံပိ။ထိုအလိုကို လည်း။နုဂစ္ဆေ။မလိုက်ရာ။ ။ဇိဝံခေါ၊ ဤသို့လျှင်။ ယာတံ။ရှေ့ သွားသောသူသို့။အနုယာယိ။အတူလိုက်သည်။ဟောတိ။ဖြစ်၏။ ဇိဝံ။ ဤဆိုခဲ့ပြီးသော နည်းဖြင့် အတု မလိုက်သော သူသည်၊ အလ္လဥ္စ။ စွတ်ပြီးသည်လည်းဖြစ်သော။ ပါဏိံ။ လက်ကို။ ပုန္န။ တဘန်။ဒဟာတေ။ပူလောင်စေသည်မည်၏။ဇိဝံခေါ၊ ဤသို့လျှင်။ သော။ ထိုအလိုမဆုံးနိုင်သောမိန်းမကို။ အဝသတိစ။ အလိုသို့မ လိုက်အပ်သည်လည်း။ ဟောတိ။ဖြစ်၏။ ယောပန။ အကြင်သူ သည်ကား။မိတ္တဒုဗ္ဘော။အဆွေခင်ပွန်းကောင်းကိုဖျက်ဆီးတတ် သည်။ဟောတိ။ဖြစ်၏။သော။ထိုအဆွေခင်ပွန်းကောင်းကိုဖျက် ဆီးသောသူသည်။အစမ္ဘိကော။ မတရားကိုကျင့်သည်။ ဟော တိ။ဖြစ်၏။မာဏဝ။လုလင်။အစမ္မံ။မတရားကို။ဝဇ္ဇယဿသု။ ကြဉ်ဘဲ ရှောင်လွှဲလေလော့။

ထိုသို့ရှေးဦးစွာ ချီးမြှောက်ထောက်ပံ့ဘူးသော ပုဗ္ဗကာရီ အတ္ထက္ခာယိမည်သောအဆွေခင်ပွန်းကောင်းတို့၏နောက်သို့အ စဉ်တစိုက်လိုက်ခြင်းတည်းဟူသောကျေးဇူးတုံ့ပြန်ခြင်းသည် ကတညူကတဝေဒီမည်၏။ ထိုကြောင့်ဥပကာရီမိတ္တ၊သမာန သုခဒုက္ခမိတ္တ၊ အတ္ထက္ခာယိမိတ္တ၊ အနုကမ္ပကမိတ္တတို့ကိုဖျက်ဆီး ခြင်းသို့မရောက်စေခြင်းငါအားထုတ်သောအမျိုးကောင်းသား တို့သည်။ ယခုဒိဋ္ဌဓမ္မအဖြစ်၌ပင်လျှင်ချမ်းသာစီးပွါး များသည် ၏အဖြစ်ကို ဟောတော်မူလိုသောမြတ်စွာဘုရားသည် တေမိ ဇာတ်၌။ ။ဂါဝေါတဿပဇာယန္တိ။ ခေတ္တေဝုတ္တံဝိရူဟတိ။ ဝုတ္တာနံဖလမသ္နာတိ။ ယောမိတ္တာနံနဒုဿတိ။ ။ဟူ၍ဟော တော်မူ၏။ ။ယော။အကြင်သူသည်။ မိတ္တာနံ။ ဥပကာရမိတ္တ မည်သောအဆွေခင်ပွန်း၊ သမာနသုခဒုက္ခမိတ္တ မည်သော အ ဆွေခင်ပွန်း၊အတ္ထက္ခာယိမိတ္တမည်သေါအဆွေခင်ပွန်းအနုကမ္ပ

ကမိတ္တမည်သောအဆွေခင်ပွန်းတို့ကို။ နဒုဿတိ။ မဖျက်ဆီး။ တဿ။ ထိုအဆွေခင်ပွန်းလေးယောက်ကို မဖျက်ဆီးသောသူ၏။ ဂါဝေါစ။ မွေးအပ်သောနွားကျွဲတို့သည်လည်း။ ပဇာယန္တိ။ ပွါးများကုန်၏။ ခေတ္တေ။ လယ်၌။ ဝုတ္တံ။ စိုက်ပျိုးအပ်သော ကောက်စပါးသည်။ ဝိရုဟတိ။ စည်ပင်ပြန့်ပွါး၏။ ဥယျာနေ။ ဥယျာဉ်၌။ ဝုတ္တာနံ။ စိုက်ပျိုးအပ်ကုန်သောသစ်ပင်တို့သည်လည်း။ ဖလံ။ အသီးကို။ အသ္နာတိ။ ရွက်ဆောင်၏။ ဝါ။ သီး၏။ ။ဤသို့ အကြင်အတို့အားဖြင့် ကျေးဇူးသိသောပုဂ္ဂိုလ်ကိုရခဲ၏။ ထိုအတို့အားဖြင့်ပုဗ္ဗကာရီအစရှိသော အဆွေခင်ပွန်းတို့၏ ကျေးဇူးကိုသိသည်အားလျော်စွာ ကျေးဇူးတုံ့ပြန်ခြင်းကိုလည်း ရခဲ၏။ ထိုကြောင့် အဋ္ဌကထာ၌။ ။သာ သပ္ပုရိ သေဟိ ပသံသနီယာဒိနာ နယပ္ပကာရ ဝိသေသာဓိဂမ ဟေတုတော မင်္ဂလန္တိ ဝေဒိတဗ္ဗာ။ ။ဟူ၍မိန့်ဆိုတော်မူ၏။ ။သာ။ ထိုကျေးဇူးသိခြင်းကို။ သပ္ပုရိသေဟိ။ သူတော်ကောင်းတို့သည်။ ပသံသနီယာဒိနာနယပ္ပကာရဝိ သေသာဓိ ဂမဟေတုတော။ ချီးမွမ်းအပ်သည်၏အဖြစ် အစရှိသော အထူးထူးအပြားပြား များသောအကျိုးစီးပွါးအထူးကိုရခြင်း၏အကြောင်းဖြစ်သောကြောင့်။ မင်္ဂလန္တိ။ မင်္ဂလာဟူ၍။ ဝေဒိတဗ္ဗာ။ သိအပ်၏။ ။ထိုကျေးဇူးသိခြင်းတည်းဟူသော ကတညုကတဝေဒီပုဂ္ဂိုလ်ကို ဘုရားအစရှိသောသူတော်ကောင်းတို့ချီးမွမ်းခြင်းအစရှိသော။ အထူးထူးအပြားပြား များသော ချမ်းသာစီးပွါးကို ရခြင်း၏ အကြောင်းဖြစ်သောကြောင့်။ ထိုကျေးဇူးသိခြင်းတည်းဟူသော ကတညုကတဝေဒိတာရေးသည်။ မင်္ဂလာမည်၏။

ကျေးဇူးသိခြင်း၌မင်္ဂလာမည်သောအဖြစ်ကိုပြရာ။ ကျေးဇူးမသိခြင်း၌ ပစ္စုပ္ပန်သံသရာ အကျိုးစီးပွါးမှ ဆုတ်ယုတ်ပျက်စီးကြောင်းကိုလည်းသိအပ်၏။ ။လွန်လေပြီးသောအခါဘုရားလောင်းသည်ရသေ့ဖြစ်၍ဂင်္ဂါကမ်းနါးသစ်ရွက်မိုးသောကျောင်း၌ပျော်ချမ်းသာဖြင့် နေ၏။ ထိုအခါဒုဋ္ဌကုမာရမည်သော ဗာရာ

ဏာသိသူဋ္ဌေး၏သမီးသည်အမျက်ထွက်တတ်၏။ ကြမ်းကြုတ်၏။
အမှုလုပ်တို့ကို ဆဲရေး၏။ ပုတ်ခတ်၏။ ထိုအခါတနေ့သ၌ ထို
သူဋ္ဌေးသမီးကိုကျွန်အမှုလုပ်တို့သည် ဂင်္ဂါ၌ကစားကြကုန်အံ့ဟု
ခေါ်၍ သွားပြီးလျှင်။ ဂင်္ဂါ၌ဖွန့်ပစ်ကုန်၏။ ထိုသူဋ္ဌေး သမီးသည်
သောက်ပြန်သဖြင့် မြည်တမ်းလျက် ရေသည် မျောအပ်သည်
ဖြစ်၍ သန်းခေါင်အခါ၌ဘုရားလောင်းကျောင်းအနီးသို့ ရောက်
၏။ ရသေ့သည်ထိုသူငယ်မအား သနားသည်ဖြစ်၍ ဆယ်ယူ
လေ၍မီးကိုပေး၏။အချမ်းပြေသည်ရှိသော်သစ်သီးကြီးငယ်ကို
ပေး၍အဘယ် အရပ်နေ အဘယ်အမျိုး အမည်နည်းဟု မေး၏။
ဗာရာဏာသိသူဋ္ဌေးသမီး ဒုဋ္ဌကုမာရိဟု အမျိုးအမည်ကိုပြော၏။
ယခု သွားလေလော့ဟု ရသေ့သည် ဆိုလေ၏။ ထိုသူဋ္ဌေးသမီး
သည်ဤရသေ့ကိုသီလမှပျက်စေ၍ရသေ့ကိုခေါ်သွားအံ့ဟုကြံ
ပြီးလျှင်၊ ရသေ့ကိုသီလမှပျက်စေ၍ခေါ်သွားလေ၏။ ထိုရသေ့
သည်သီလဈာန်အဘိညာဉ်မှပျက်လေသောကြောင့်။ထိုသူဋ္ဌေး
သမီးနောက်သို့လိုက်ပြီးလျှင်တခုသောပစ္စန္တရာဇ်တွင်ရက်တက်
ကိုရောင်း၍ထိုဒုဋ္ဌကုမာရိကိုမွေးလေ၏။ ထိုကြောင့် ထိုဘုရား
လောင်းအား တက္ကပဏ္ဍိတဟု အမည်ကို ပြုကြကုန်၏။ လူတို့
သည်သည်း ရွာတံခါးအနီးကျိုကိုပေး၍နေစေ၏။ ထိုအခါတ
နေ့သ၌ခိုးသူတို့သည်ထိုရွာကိုလုယက်၍တက္ကပဏ္ဍိတ၏မယား
ကိုယူကုန်၏။ ခိုးသူကြီးသည်ထိုမိန်းမကိုမယားပြု၏။ ထိုမိန်းမ
သည်ရေ၌မျောစဉ်ထိုတက္ကပဏ္ဍိတသည်ဆယ်တင်ပြုရ ကျေး
မွေးပေသောကျေးဇူးကိုပစ်ပယ်ပြီးလျှင်။ဒိဋ္ဌဓမ္မကိုငဲ့၍အကျိုးမဲ့
ပြုလိုသောစိတ်နှင့် သတ်လိုသည်ဖြစ်၍ ခိုးသူတို့ ခေါင်အပ်
သောငါသည် ဆင်းရဲစွာနေရသည်ဖြစ်၍ ငါ့ကို ယူဆောင်ပါ
လော့ဟုတက္ကပဏ္ဍိတကိုမှာလိုက်၏။ တက္ကပဏ္ဍိတသည်မိန်းမ
မှာလိုက်သည်ကိုသိလျှင်လာ၍ တွေ့ကြလေသော်။ ငါတို့သည်
ယခုအခါ၌သွားကုန်အံ့။ ခိုးသူတို့သည်လိုက်၍ သတ်ကုန်လတ္တံ့။
ညဉ့်အခါမှသွားကြကုန်အံ့ဟုဆို၍ တက္ကပဏ္ဍိတကိုတဲ၌နေစေ

၏။ထိုမိန်းမသည် ညဥ့်တိုင်ရောက်သောအခါ ခိုးသူကြီးကိုစေလွှတ်သတ်စေ၏။ခိုးသူကြီးလည်းထိုတက္ကပဏ္ဍိတအိပ်သောတဲသို့သွားပြီးလျှင်။တက္ကပဏ္ဍိတအါးတံတောင်တုတ်စသည်တို့နှင့်ထောင်းသတ်၍ ကြိုးတို့ဖြင့်ဘွဲ့နှောင်ခြင်းကိုပြုလေ၏။ ထိုအခါတက္ကပဏ္ဍိတသည် အခြားကို မမြည်တမ်းမူ၍။ ထိုမိန်းမသည်ကျေးဇူးမသိတတ်လေတကား။ ယုတ်မာသော သဘောရှိ၏။ကြမ်းကြုတ်သောသဘောလည်းရှိ၏။ ခက်ထန်သောမာနလည်းရှိ၏။ လင်မှစ၍ သူတပါးတို့အား ပြစ်မှားတတ်သော သဘောလည်းရှိ၏။ သူ့အသက်တို့ကို သတ်ပုတ်တတ်သောသဘောလည်းရှိ၏ဟု အထပ်ထပ် မြည်တမ်း သောအခါ။ထိုခိုးသူကြီးသည်ကြံစည်အောင်းမေ့၏။ ထိုသူသည်တစုံတရာကိုမျှမမြည်တမ်းမူ၍ ယခုမြည်တမ်းသော အခြင်းအရာသည် တခုသောအကြောင်းရှိရာ၏ဟုမေးလေ၏။ တက္ကပဏ္ဍိတသည်လည်း အလုံးစုံသောထိုမိန်းမ၏ အကြောင်းကိုပြောကြား၏။ ထိုအခါ။ ငါတို့ကိုမူကားဆိုဘွယ်မရှိ။ကျေးဇူးရှင်ဖြစ်သောလင်ကိုပင် ပြစ်မှားသောမိန်းမ ဖြစ်၏ဟုကြံ၍ ဘုရားလောင်းအား ချမ်းသာစေပြီးလျှင်။ ထိုမိန်းမကိုခေါင်ငင်သတ်လေ၍ ဘုရားလောင်းနှင့် တကွထိုခိုးသူကြီးသည်လည်း တောထွက်ကြပြီးလျှင် ရသေ့ရဟန်းအဖြစ်၌ဈာန်အဘိညာဉ်၏ ကျေးဇူးဖြင့်သာလျှင် ဗြဟ္မာ့ပြည်သို့ထိုနှစ်ယောက်ကုန်သောသူတို့သည်လားကြကုန်၏။ ။ထိုဒုမ္မကုမာရီ မည်သောသတို့သမီးသည်။ ကျေးဇူးရှင် ဖြစ်သောပုဗ္ဗကာရီမည်သော အဆွေ ခင်ပွန်းလင်ကို ကျေးဇူးတုံ့ဆပ်ခြင်းကင်းသည်သာမက၊ ထိုကျေးဇူး ရှင်ဖြစ်သော ပုဗ္ဗကာရီမည်သောမိမိလင်၏အသက်ကိုပင်သေစေသေး၏။ငါတို့၏ကျေးဇူးကိုမူကား ငဲ့ကွက်ရန်မရှိသဖြင့် အလိုသို့မကျ သောအခါ ငါ့ကိုလည်း ဤအတူပင်သတ်ရာ၏ဟု ထိုသူခိုးကြီးသည်ကြံ၍ တက္ကပဏ္ဍိတအား ချမ်းသာစေပြီးလျှင်။ ထိုကျေးဇူးမဲ့သော မိန်းမကိုသတ်၍ ပျက်စီးခြင်းသို့ ရောက်လေ၏။ ထိုကြောင့် ငါတို့အား

ကျေးဇူးတုံ့ကိုမငဲ့ကွက်မူ၍။ စတင်ပြုပေဘူးသောပုဗ္ဗကာရီအစရှိသောမိတ်ခင်ပွန်းကောင်းတို့ကို တရံတဆစ်မျှပြစ်မှားခြင်းတို့ဖြင့်မကြိစည်အပ်ဟု အဘန်တလဲလဲအောက်မေ့ပြီးလျှင်။ ထိုသို့ကျေးဇူးကိုရအပ်သောသဘောရှိသောပုဗ္ဗကာရီမည်သောပုဂ္ဂိုလ်၏ ကျေးဇူးတုံ့ကို အဘယ်နံရောအခါ၌ ဆပ်နိုင်သဖြင့် ကတညူကတဝေဒီ ပုဂ္ဂိုလ်အဖြစ်သို့ ရောက်၍။ ဘုရားစသောသူတော်ကောင်းတို့၏ ချီးမွမ်းအပ်သော ဂုဏ်နှင့် ပြည့်စုံနိုင်ပါ၊ အံ့နည်းဟု နေ့ညဥ့်မပြတ်အောက်မေ့၍ ထိုကျေးဇူးတုံ့ကိုဆပ်ကုန်ရာ၏။ ။အကြင်သူသည်တစုံတရာသောအကြောင်းတို့ဖြင့်ချီးမြှင့်ဘူး၏။ ထိုသို့ချီးမြှင့်ဘူးသော ကျေးဇူး၏အကြောင်းအရာကို သိတတ်သော သူသည်ရှင်း။ ထိုသိတတ် သည့်အားလျော်စွာ ကျေးဇူးတုံ့ကို ပြုသောသူသည်ရှင်း။ ထိုသူတို့သည် မိတ္တဒုဗ္ဘိအဖြစ်သို့ ရောက်သောဒုက္ခကုမာရီမည်သော် သူယုတ်မာမကဲ့သို့။ ပစ္စုပ္ပန်၌လည်းပျက်စီးခြင်းသို့မရောက်။ သံသရာ၌လည်းပျက်စီးခြင်းသို့မရောက်။ သဂ္ဂမောက္ခ အကြောင်းဖြစ်၍ မင်္ဂလာမည်၏။ ။ကတညုတာမင်္ဂလာပြီး၏။

---

## ၂၆။ လျောက်ပတ်သောအခါ၌တရားတော်ကို နာခြင်း–ကာလေနဓမ္မဿဝနမင်္ဂလာ။

အကြင်အခါ၌ဥဒ္ဓစ္စနှင့် နှီးနှောသောစိတ်သည်ဖြစ်၏။ ကာမဝိတက် အစရှိသည်တို့တွင် တပါးပါးသော ဝိတက်သည် နှိပ်စက်သောစိတ်သည် မူလည်းဖြစ်၏။ ထိုအခါ၌။ ထိုဥဒ္ဓစ္စကာမဝိတက်အစရှိသည်တို့ကိုဖျောက်ပယ်အံ့သောငှါ တရားနာခြင်းသည်ကာလေနဓမ္မဿဝနမည်၏။ ။အဋ္ဌကထာ။ ။ကာမဂုဏ်နှင့်ယှဉ်သောဝိတက်သည် ကာမဝိတက်မည်၏။ ဗျာပါဒနှင့်ယှဉ်သောဝိတက်သည် ဗျာပါဒ ဝိတက်မည်၏။ ဝိဟိံသနှင့်ယှဉ်သောဝိတက်သည် ဝိဟိံသဝိတက်မည်၏။ ထိုသုံးပါးကုန်

သောပိတက်တို့တွင်။ ကာမပိတက်၊ ဗျာပါဒ ဝိဟင်္သတို့ သည် သတ္တဝါတို့၌ရင်း။ သင်္ခါရတို့၌ရင်းဖြစ်ကုန်၏။ ထိုစကားသည် မှန်၏။ ချစ်ဘွယ်နှစ်သက်ဘွယ်ရှိကုန်သော သတ္တဝါတို့ကိုရင်း။ သင်္ခါရတို့ကိုရင်း ကြံသောသူအား ကာမပိတက်သည် ဖြစ်၏။ ချစ်ဘွယ်နှစ်သက်ဘွယ်မရှိကုန်သောသတ္တဝါတို့ကိုရင်း။သင်္ခါရတို့ကိုရင်းအမျက်ထွက်၍ကြည့်သောအခါမှစ၍ ပျက်စီးသည် တိုင်အောင် ဗျာပါဒပိတက်သည်ဖြစ်၏။ ဝိဟိံသပိတက်သည် သင်္ခါရတို့၌မဖြစ်။ ထိုစကားသည်မှန်၏။ ဆင်းရဲစေအပ်သော သင်္ခါရမည်သည်မရှိ။ ဤသတ္တဝါတို့သည် သေစေလေကုန်သတည်း။ ပျက်စီး စေကုန်သတည်း။ မဖြစ်စေကုန် သတည်းဟု ကြံသောကာလ၌ဝိဟိံသပိတက်သည်သတ္တဝါတို့၌ဖြစ်၏။ ။ သင်္ဂီတိသုတ်အဋ္ဌကထာ။ ။တပါးကုန်သောဆရာတို့သည် ကား။ငါးရက်မြောက်ငါးရက်မြောက်ဖြစ်သောနေ့၌ တရားနာ ခြင်းသည်။ ကာလေနဓမ္မဿဝနမည်၏။ ထိုစကား၏သက်သေ ကို။ ပဉ္စာဟိကံ ခေါ ပန မယံ ဘန္တေ သဗ္ဗရတ္တိံ ဓမ္မိယာကထာယ သန္နိသိဒါမ ဟူ၍အရှင်အနုရုဒ္ဓါမထေရ်သည် ပြောဆောင်မှု၏ဟု ဆိုကုန်၏။ ။အဋ္ဌကထာ။ ။ဘန္တေ၊အရှင်ဘုရား။မယံ။အ ကျွန်ုပ်တို့သည်။ပဉ္စာဟိကံ ခေါ ပန။ ငါးရက် မြောက် ငါးရက် မြောက်ဖြစ်သောနေ့၌ဖြစ်သောတရားနာခြင်းကို။ကတွာ။ ပြု၍။ သဗ္ဗရတ္တိံ ။ခပ်သိမ်းသောညဉ့်ပတ်လုံး။ဓမ္မိယါကထာယ။တရား နှင့်စပ်သောစကားဖြင့်။သန္နိသိဒါမ။နေကုန်၏။ ။တနည်းကား။ အကြင် ကာလ၌လည်း ကောင်းသော အဆွေခင်ပွန်း ဖြစ်ကုန် သောများသော်အကြားအမြင်ရှိကုန်သော ပုဂ္ဂိုလ်တို့ကိုဆည်း ကပ်၍။ မိမိ၏ယုံမှားခြင်းကို ပျောက်တတ်သော တရားကိုနာ ခြင်းငှါစွမ်းနိုင်၏။ထိုကာလ၌တရားနာခြင်းကိုလည်း ကာလေန ဓမ္မဿဝနဟူ၍သိအပ်၏။ထိုကြောင့်ရဟန်းတို့အား တရားဟော တော်မူသောမြတ်စွာဘုရားသည်။ တိကအင်္ဂုတ္တိုရ်ပဌမ ပဏ္ဏာ သကဒုတိယဝဂ်ပါပဏိကသုတ်၌။ ။အကြင်ရဟန်းသည် ထို

ကလျာဏ မိတ္တ ဖြစ်ကုန်သော များသောအကြားအမြင် ရှိကုန်သောရဟန်းတို့ကို ရံခါရံခါဆည်းကပ်၍ အရှင်ဘုရား။ ဤသဒ္ဒါသည်ကားအဘယ်နည်း။ ဤသဒ္ဒါ၏အနက်သည်ကားအဘယ်နည်းဟု မေးမြန်း၏၊ ဆွေးနွေး၏။ ထိုရဟန်းအားကလျာဏမိတ္တ ဖြစ်ကုန်သောများသောအကြားအမြင်ရှိကုန်သော ရဟန်းတို့သည် ပုန်းကွယ်သည်ကိုလည်းဖွင့်ကုန်၏။ မထင်သည့်စကား ကိုလည်း ထင်ရှားပြုကုန်၏။ များသောအပြား ရှိကုန်သော ယုံမှားခြင်း၏ အကြောင်းနှင့် ယှဉ်ကုန်သောတရားတို့၌လည်း ယုံမှားခြင်းကို ဖျောက်ကုန်၏။ ဤသို့ဟောတော်မူ၏။ ။တိကအင်္ဂုတ္တိုရ်ပဉ္စမပဏ္ဏာသကတတိယဝဂ် ဂိလာနသုတ် အဋ္ဌကထာ၌ကား။ တလ၌ရှစ်ကြိမ်တရားဟောခြင်းကိုခွင့်ပြုအပ်၏ဟူ၍ဆို၏။ ။ရှစ်ကြိမ်တို့မည်သည်ကား။ ပက္ခမိအဋ္ဌမိစာတုဒ္ဒသီ ပုဏ္ဏမီအားဖြင့် လဆန်းပက္ခ၌ လေးကြိမ်။ ထိုအတူလကွယ်ပက္ခ၌လည်း။ ပဉ္စမီ အဋ္ဌမီစာတုဒ္ဒသီအမာဝါသီအားဖြင့်လေးကြိမ်ဖြစ်ကုန်သော ရှစ်ရက်ကုန်သောပကတိဥပုသ်ရက်တို့တည်း။ ။ခပ်သိမ်းကုန်သောပါဠိတော်တို့၌လည်း ရှစ်သီတင်းသော ဥပုသ်ရက်တို့ကို ဟောတော်မူ၏။ ။ထိုကြောင့်တလ၏ရှစ်ရက်တို့၌ တရားနာခြင်းသည်လည်း ကာလေန ဓမ္မသဝနမည်၏။ ထိုကာလေနဓမ္မသဝနသည်နီဝရဏကိုပယ်ခြင်း၊ လေးပါးသောအာနိသင်ကိုရခြင်း၊ အာသဝက္ခယကိုရခြင်းအစရှိသော အထူးထူးအပြားပြားသောအကျိုးဝိသေသကိုရခြင်း၏ အကြောင်းဖြစ်သောကြောင့် မင်္ဂလာမည်၏။ ။ထိုစကားသည်မှန်၏။ မဟာဝဂ္ဂဗောဇ္ဈင်္ဂသံယုတ်ပါဠိတော်၌။ ။ရဟန်းတို့၊ အကြင်အခါ၌အရိယါသာဝက သည်အရိုအသေပြု၍ အချင်းခပ်သိမ်း နှလုံးသွင်းသော စိတ်ဖြင့် နှလုံးသွင်း၍ ကြားအပ်သော သဘော ရှိသော သောတပသာဒ ရှိသည်ဖြစ်၍တရားကိုနာ၏။ ဤအရိယာသာဝကအားထိုအခါ၌ ငါးပါးကုန်သောနီဝရဏတို့သည်မဖြစ်ကုန်။ ထိုအခါ ခုနစ်ပါးကုန်သောဗောဇ္ဈင်တို့သည် ပွါးခြင်းပြည့်ခြင်းသို့ရောက်ကုန်၏

ဟူ၍ ဟောတော်မူအပ်၏။ လျှောက်ပတ်သော တရားကိုနာရ
သောအရိယာသာဝကအားငါးပါးကုန်သော နီဝရဏတို့သည်
ဝေးကုန်၏။ ထိုအရိယာသာဝကသည် ထိုတရားနာရာ အရပ်၌
လျှင် တရားအထူးကို ဖြစ်စေခြင်းငှါ အကယ်၍ စွမ်းနိုင်သည်
ဖြစ်အံ့။ ထိုသို့စွမ်းနိုင်သည်ရှိသော်။ ထိုအရိယာ သာဝကအား
ခုနစ်ပါးကုန်သောဗောဇ္ဈင်တို့သည် ပွါးခြင်းပြည့်ခြင်းသို့ရောက်
ကုန်၏။ အကယ်၍တရားနာရာအရပ်၌လျှင် တရားအထူးကိုဖြစ်
စေခြင်းငှါမစွမ်းနိုင်သည်ဖြစ်အံ့။ ထိုနေရာမှစ၍ ညဉ့်နေရာနေ့
နေ့ရာအရပ်သို့ကပ်လျက်။ ထိုပီတိကိုလျှင်မစွန့်မူ၍ ငါးပါးကုန်
သောနီဝရဏတို့ကိုခွါ၍ တရားအထူးကိုဖြစ်စေနိုင်လတံ့။ ထို
သို့ မစွမ်းနိုင်သော်လည်း ခုနစ်ရက်အတွင်း၌ ထိုပီတိကို လျှင်
မစွန့်မူ၍ နီဝရဏတို့ကိုခွါ၍ တရားအထူးကို ဖြစ်စေနိုင်လတံ့။
ဤအနက်ကိုရည်၍ထိုအခါ၌ငါးပါးကုန်သောနီဝရဏတို့သည်
မဖြစ်ကုန်။ ဤသို့အစရှိသောစကားကိုဟောတော်မူ၏။ ထိုစကား
သည်မှန်၏။ တရားကိုနာသည်၏ အစွမ်းအားဖြင့်။ တကြိမ်ဖြစ်
သော ပီတိပါမောဇ္ဇ ဟူသော အကြောင်းကြောင့် ရအပ်ကုန်
သောဗောဇ္ဈင်တို့သည်အမှုလုပ်ခြင်း၌မွေ့လျော်သည်၏ အဖြစ်
အစရှိသည်တို့ကိုစွဲ၍ ပျောက်ကုန်၏။ ထိုသို့သဘော ရှိသော
ဥတု၏လျှောက်ပတ်ခြင်းအစရှိသောအကြောင်းကိုရ၍ တဘန်
ဖြစ်ကုန်သောဗောဇ္ဈင်တို့ကိုလည်းထိုအခါ၌ ပွါးခြင်းပြည့်ခြင်း
သို့ရောက်ကုန်၏ဟူ၍သာလျှင်ဆိုအပ်၏။ ။ဗောဇ္ဈင်္ဂသံယုတ်
အဋ္ဌကထာ။

တရားကိုနာ၍အာသဝက္ခယရကုန်သော သူတို့သည်ကား
ရေတွက်ခြင်း၏လမ်းကိုလွန်ကုန်ပြီ။ ထိုကြောင့်သာသနာတော်
တွင်း၌ရောက်ကုန်သောအမျိုးကောင်းသားတို့သည်။ မဟာဂါ
မဏီသာအမည်ရှိသော။ မဟာဝိဟာရ၌နေသော တပါးသော
ရဟန်းငယ်သည် ရှည်စွါသောခရီးကိုသွား၍။ တရားနာသကဲ့
သို့မပျင်းမရိသောလုံ့လဝီရိယတို့နှင့် တရားတော်ကိုအဘန်တ

လဲလဲနာအပ်ကုန်၏။ ထိုရဟန်းငယ်သည်။ ဒီဃဝါပိဋ္ဌ မဟာဇာတကဘာဏကမထေရ်သည် ဂါထာတထောင်ရှိသော မဟာဝေဿန္တရာကို ဟောလတံ့ဟုကြားလေလျှင်။ ထိုတိဿမဟာဝိဟါရမှထွက်၍တနေ့ခြင်းလျှင်ကိုးယူဇနာရှိသောခရီးသို့လါသတတ်။ ထိုခဏ၌လျှင်မထေရ်သည် တရားဟောခြင်းကို အားထုတ်၏။ရဟန်းငယ်သည်လည်း ဝေးသောခရီးမှလါခြင်းကြောင့်ဖြစ်သောကိုယ်၏ပူပန်ခြင်းရှိသည်ဖြစ်၍အစဂါထာနှင့်တကွအဆုံးဂါထာကို သာလျှင်မှတ်မိ၏။ ထိုနောက်မှမထေရ်၏ ဍုဒမဝေါစဟုဆို၍ထသောကာလ၌ငါ၏လါသောအမှုသည်အချည်းနှီးဖြစ်ခဲ့ပြီဟုငိုကျွက်ရပ်၏။ ထိုအခါတယောက်သော လူသည်။ အရှင်ဘုရား။အရှင်ဘုရားတို့၏တရားစကားကိုနာအံ့သော၌တပါးသောရဟန်းငယ်သည် တိဿမဟာ ဝိဟာရမှလာ၏။ ထိုရဟန်းငယ်သည်ကိုယ်၏ပူပန်သောအဖြစ်အါးဖြင့်ငါ၏လာခြင်းသည်အချည်းနှီးတည်းဟုငိုကျွက်ရပ်၏ဟူ၍ မထေရ်အားကြားလျှောံ၏။ မထေရ်သည်သွားကြချေကုန်၊ အမှတ်ကိုပေးကြချေကုန်၊မဟာဝေဿန္တရာကိုတဘန်နက်ဖြန်နံက်မှဟောအံ့ဟုဆို၍နှစ်ရက်မြောက်သောနေ့၌ ဟော၏။ ရဟန်းငယ်သည် မဟာဝေဿန္တရာကိုနာရ၍သောတာပန်အဖြစ်သို့ရောက်လေ၏။ ။(ရဟန်းဝတ္ထု။) ။ဥလတကောါလကဏ္ဍိကာ၌နေသောနို့စို့သားငယ်အမိသည်လည်း ဒီဃဘာဏက မဟာ အဘယ မထေရ်သည် အရိယဝံသ ပဋိပဒါကို ဟောလတံ့ဟု ကြား၍။ ငါးယူဇနာ ရှိသောခရီးကိုသွားလေပြီးလျှင်။ နေ့၌တရားဟောသော မထေရ်၏တိုင်သောကာလ၌လျှင်။ ကျောင်းသို့ဝင်၍ မြေ၌သားကိုအိပ်စေလျက်နေ့၌တရားဟောသောမထေရ်၏တရားကို ရပ်လျက်သာလျှင်နာ၏။ ဖုဒ်ကိုရွတ်၍အသံကိုလည်း ရပ်လျက်သာလျှင်နာ၏။ပဒဘာဏကမထေရ်သည်ထလတ်သောအခါ။ ဒီဃဘာဏက မဟာ အဘယ မထေရ်သည်။ စတုတ္ထ ပဉ္စယ သန္တောသဘာဝနာရာမ မဟာအရိယဝံသကို အားထုတ်၏။ ထိုမိန်းမ

သည့်လည်း ရုပ်လျက်သာလျှင် တရားကိုနာ၏။ မထေရ်သည့်လည်း အရဟတ်တက်သည့်တိုင်အောင် တရားဟော၏။ အရဟတ်တက်ခြင်းနှင့်မထေရ်၏ဥစ္စာမဝေါစဟူ၍ရွတ်ခြင်းနှင့်။ ထိုတရားနာသောသိတင်းသည်မ၏ သောတာပတ္တိဖိုလ်သို့ ရောက်ခြင်းနှင့် ဤသုံးပါးသည် တပြိုင်နက်လျှင်ဖြစ်လေ၏။ ။(နိုဗိုသားယပ်ရှိသောမိန်းမဝတ္ထု)။ ။ဤဝတ္ထုနှစ်ပါးကိုတိကအင်္ဂုတ္တိုရ်ပဉ္စမ ပဏ္ဏာသက ပဉ္စမဝဂ် ဌာနသုတ် အဋ္ဌကထာ၌ မိန့်တော်မူ၏။ ။ဤသို့ဥပနိဿယနှင့် ပြည့်စုံသောသူ၏ တရားနာခြင်းသည် မျက်မှောက်သော ကိုယ်၏အဖြစ်၌လျှင် မင်္ဂကိုရခြင်း၏အကြောင်းဖြစ်၏။ ဥပနိဿယကင်းသောသူ၏ တရားနာခြင်းသည်ကား။ နောင်သောအခါ မင်္ဂကိုရခြင်း အကြောင်းဖြစ်၏။ မင်္ဂသို့ မရောက်မီအတွင်၌။ ဘဝကြီးငယ်တို့ တွင်သည်း ဥာဏ သမ္ပယုတ်ဝိပါက်တိဟိတ်ပဋိသန္ဓေကိုရခြင်း၏ အကြောင်းဖြစ်၏။ ယခုပဏ္ဍုပြန်၌လည်းအထူးထူးသောစည်းစိမ်ချမ်းသာတို့ကိုရခြင်း၏အကြောင်းဖြစ်ကုန်သောကြောင့်။ ထိုကာလေနဓမ္မသဝနဟူဆိုအပ်သော သင့်တင့်လျောက်ပတ်သောကာလတို့၌တရားနာရခြင်းသည် မင်္ဂလာမည်၏။ ။ကာလေန ဓမ္မသဝနံဟူသောမင်္ဂလာ၏နှစ်သာရပြီး၏။

---

## ၂၆။ သည်းခံခြင်း–ခန္တီမင်္ဂလာ။

သည်းခံခြင်း ဟူသော ခန္တီနှင့်ပြည့်စုံသော ရဟန်းသည်။ ဆယ်ပါးကုန်သော အက္ကောသဝတ္ထုတို့ဖြင့် ဆဲရေးကုန်သည့်တို့ကိုမကြားသကဲ့သို့။ တပ်ခြင်းနှောင်ဖွဲ့ခြင်း အစရှိသည်တို့ဖြင့်ညှဉ်းဆဲကုန်သောပုဂ္ဂိုလ်တို့ကိုမမြင်သကဲ့သို့ ဖောက်ပြန်ခြင်းမရှိသည်ဖြစ်၏။ အဘယ်သူကဲ့သို့နည်းဟူမူကား။ ခန္တိဝါဒီရသေ့ကဲ့သို့တည်း။ တနည်းကား။ အရှင်ပုဏ္ဏမထေရ်ကဲ့သို့ထိုထက် အလွန် ပြုခြင်းအကြောင်းသည်မရှိ။ ထိုခန္တီ ဟူသော

သည်းခံခြင်းသည် အလွန်ပြုနိုင်ခဲသောအားဖြင့် ကောင်းသည်ကိုပြု၏ဟုနှလုံးသွင်း၏။ ဤသို့အဋ္ဌကထာ၌ဆို၏။ ။ထိုအဋ္ဌကထာ၌ခန္တိဝါဒီရသေ့၏အကြောင်းကား ဤသို့တည်း။ ။လွန်လေပြီးသောအခါဗာရာဏသီပြည်၌ဘုရားလောင်းသည် ကုဏ္ဍမည်သောပုဏ္ဏားဖြစ်၍ရသေ့ရဟန်းပြုလေ၏။ကြာမြင့်စွာဟိမဝန္တာ၌နေပြီးလျှင်ချဉ်ဆားမှီဝဲအံ့သောငှါ။ ဗာရာဏသီသို့သွားလေသော်။သေနာပတိသည်လုပ်ကျွေးအပ်သည်ဖြစ်၍။မင်း၏ဥယျာဉ်၌နေ၏။ ထိုအခါတနေ့သ၌ကလာဗုမည်သောမင်းသည်သုရာယစ်မျိုးယစ်၍ကခြေသည်အပေါင်းခြံရံလျက် ဥယျာဉ်သို့သွား၍ တယောက်သော ချစ်နှစ်သက်သော မိန်းမ၏ ရင်ခွင်၌ခေါင်းအုံးလျက်အိပ်၏။ ထိုအခါ တပါးကုန်သော မောင်းမတို့သည် မင်းကြီးအိပ်ပျော်သည်ဖြစ်၍ ခစားရာမှ ဥယျာဉ် လှည့်လည်ကုန်သော်။ ကောင်းစွာပွင့်သော အင်ကြင်းပင်ရင်း၌နေသောဘုရားလောင်းကိုမြင်၍။ ထိုဘုရားလောင်းကို ရှိခိုးလျက်တရားနာကြကုန်၏။ မင်းသည်နိုး၍ထိုမောင်းမတို့ကိုမမြင်ခြင်းကြောင့်အမျက်ထွက်၍သန်လျက်လက်စွဲလျက်သွား၏။ ထိုအခါအလွန် ချစ်ကျွမ်းသောမောင်းမသည် မင်း၏လက်မှ သန်လျက်ကိုယူ၏။ မင်းသည်၊ ရဟန်း၊ သင်ကားအဘယ်ဝါဒရှိသနည်းဟုမေး၏။မြတ်သောမင်းကြီး။ ခန္တိဝါဒရှိ၏ဟုဘုရားလောင်းဆို၏။ ထိုခန္တိကားအဘယ်နည်းဟု မင်းသည်မေး၏။ မြတ်သောမင်းကြီး။သူတပါးတို့သည်ဆဲရေးပုတ်ခတ်သတ်ခြင်းအစရှိသောဝဓဗန္ဓအမှုတို့ဖြင့်ညှဉ်းပန်းသော်လည်းအမျက်မထွက်သည်၏အဖြစ်သည်ခန္တိမည်၏ဟုဘုရားလောင်းသည်ဆို၏။ မင်းသည်ယခုသင်အားခန္တိရှိသည်၏အဖြစ်ကိုငါကြည့်အံ့ဟုဆို၍သူသတ်ဒိုးသူကိုခေါ်၍။ ဤရသေ့ပျက်ကိုဆွဲငင်ပြီးလျှင် မြေ၌လည်းစေ၍၊ အဆူး တပ်သောကြိမ်နှင့် ရှေ့နောက် နံပါး နှစ်ဘက် ဟူကုန်သောလေးမျက်နှာတို့၌ နှစ်ထောင်ကုန်သော ရိုက်နှက်ခြင်းတို့ကိုပေးလော့ဟုဆို၏။ ထိုဒိုးသူသည်မင်းဆိုတိုင်းပြု၏။ ဘုရား

လောင်း၏ အတွင်းရေပြင်ရေတို့သည်ပေါက်ကျန်၏။ အသားသည်လည်းပြတ်၍သွေးတို့သည်ယိုစီးလေကုန်၏။ တဘန်မင်းသည်။ရဟန်းသင်သည်အဘယ်ဝါဒရှိသနည်းဟုမေးပြန်၏။ ဘုရားလောင်းသည်။မြတ်သောမင်းကြီး။ အကယ်ပင်ခန္တီဝါဒရှိ၏ သင်မြင်စကောင်းသောအသားကြားအရေကြား၌ တည်သည်မဟုတ်။ အသင်မမြင်စကောင်းသောငါ၏နှလုံး၌သာလျှင် ငါ၏ခန္တီသည်တည်၏ဟုဆို၏။တဘန်သူသတ်ဒိုးသူသည်အသို့ပြုရအံ့နည်းဟုဆို၏။ မင်းသည် ဤရသေ့၏ လက်ခြေနားနှာခေါင်းတို့ကိုဖြတ်လေ့ဟုဆို၏။ ထိုသူသတ်ဒိုးသူသည်မင်းဆိုတိုင်းပြု၏။တဘန်မင်းသည်ထို့အတူမေး၍ ဘုရားလောင်းသည်ဆိုအပ်ပြီးသည်အတိုင်း ဆိုပြန်သည်ရှိသော်။ အမျက်ထွက်၍ ဘုရားလောင်း၏ ရင်လယ်သို့ ဖနောင့်ဖြင့် ကျောက်ပြီးလျှင် ဘဲလေသော်။ ဥယျာဉ်တံခါး၌လျှင်နှစ်သိန်းလေးသောင်းအထုရှိသောမြေကြီးသည်အလွန်လေးသောအဖြစ်ကြောင့်ကွဲလေ၏။ ထိုအခါ မဟာအဝီစိ နရက်မီးလျှံတို့သည် ထိုကလာဗုမင်းအား ယူဆောင်၍မဟာအဝီစိသို့ချလေ၏။ မင်းသည်ဘဲလေသောအခါ သေနာပတိသည် ဘုရားလောင်း၏ သွေးတို့ကိုသုတ်၍ ဖြည်းညှင်းသာယာစွာထိုင်စေပြီးလျှင်။ ထိုသူတော်ကောင်းသည် အကယ်၍ အလုံးစုံသော ကာသိက တိုင်းကြီးကို အမျက် ထွက်တော်မူသည်ဖြစ်အံ့။ ထိုကာသိကရာဇ်တိုင်းကြီးသည်ပျက်လတံ့ဟုသေနာပတိသည်ကြံ၍။ ။ယောတေဟတ္ထေစပါဒေစ။ ကဏ္ဏနာသဉ္စဆေဒယိ။ တဿကုဇ္ဈမဟာဝီရ။မာရဋ္ဌံဝိနဿဗ္ဗုဒံ။ ။ဟူသောဂါထာကိုဆို၏။ ။ယောရာဇာ။အကြင်ကလာဗုမင်းကြီးသည်။ တေ။ရှင်ရသေ့၏။ ဟတ္ထေစ။လက်တို့ကိုရင်း။ ပါဒေစ။ ခြေ တို့ကိုရင်း။ ကဏ္ဏနာသဉ္စ။ နား နှာ ခေါင်းကို ၎င်း။ ဆေဒယိ။ဖြတ်စေပြီ။ မဟာဝီရ။ကြီးသောလုံ့လရှိသောခန္တီဝါဒီရှင်ရသေ့။ တဿ။ ထိုကလာဗုမင်းကြီးအား၊ ကုဇ္ဈ။ အမျက်ထွက်ပါလော့။ ဗုဒ္ဒံရဋ္ဌံ။ ဤကာသိကရာဇ်တိုင်းကြီးကို။ မာဝိ

နသသာ။ မပျက် စီးပါ စေလင့်။ ။ဤသို့ ဘုရား လောင်း အား သေနာပတိ တောင်းပန်လေလျှင်။ ဘုရား လောင်းသည် မိမိ၌ ရောက်အပ်သောအလွန်သောဒုက္ခကိုရေတွက်ခြင်းမရှိ သည်းခံတော်မူ၍ထိုသေနာပတိအား ခွင့်ပေးလိုသည်ဖြစ်၍။ ။ယောမေဟတ္ထေစပါဒေစ။ကဏ္ဏနာသဉ္စဆေဒယိ။ စိရံဇီဝတုသောရာဇာ။နဟိကုဇ္ဈန္တိမာဒိသာ။ ။ဟူသောဂါထာကိုဆိုတော်မူ၏။ ။ယောရာဇာ။ အကြင်ကာလာဗုမင်းကြီးသည်။မေ။ငါ၏။ ဟတ္ထေစ။လက်တို့ကိုလည်း။ပါဒေစ။ခြေတို့ကိုလည်း။ ကဏ္ဏနာသဉ္စ။နားနှာခေါင်းကိုလည်း။ ဆေဒယိ။ ဖြတ်လေပြီ။ သောရာဇာ။ထိုကာလာဗုမင်းကြီးသည်။စိရံ။ကြာမြင့်စွာ။ ဇီဝတု။ အသက်ရှည်စေသား။ ဟိသစ္စံ။ထိုစကားသည်မှန်၏။ မာဒိသာ။ ငါနှင့်တူသောဘုရားလောင်းတို့မည်သည်။ နကုဇ္ဈန္တိ။ အမျက်မထွက်ကုန်။ ။ဤသို့ဆို၍ရသေ့သည်ထိုနေ့၌ပင်လျှင် ထိုအရပ်၌သေလေ၏။ ထို့ကြောင့်မြတ်စွာဘုရားသည်ခန္တိဝါဒဇာတ်၌။ ။အဟုအတီတမဒ္ဓါနေ။ သမဏောခန္တိဒီပနော။ တံခန္တိယာယေဝဌိတံ။ကာသိကရာဇာအဆေဒယိ။ ။ဟူ၍ဟောတော်မူ၏။ ။အတီတမဒ္ဓါနေ။လွန်လေပြီးသောအခါ၌။ခန္တိဒီပနော။ သည်းခံခြင်းခန္တိကိုပြတတ်ချီးမွမ်းတတ်သော။ သမဏော။ရသေ့ရဟန်းသည်။ အဟု။ဖြစ်ပြီ။ခန္တိယာယေဝ။ သည်းခံခြင်းခန္တိ၌သာလျှင်။ ဌိတံ။ တည်သော။ တံသမဏံ။ထိုရသေ့ရဟန်းကို။ ကာသိကရာဇာ။ ကာသိကမင်းသည်။ အဆေဒယိ။ သေစေ၏။ ။ဟူ၍ဟောတော်မူ၏။(ခန္တိဝါဒဇာတ်။)

အရှင်ပုဏ္ဏမထေရ်သည်လည်း။သုနာပရန္တတိုင်းသို့သွားလိုသည်ဖြစ်၍ မြတ်စွာဘုရားထံ လျှောက်ကြားရာ။ သုနာပရန္တတိုင်းသားတို့သည်ငါဘုရား၏တပည့်ရဟန်းလူမျိုးတို့ကိုမမြင်ဘူးမတွေ့ဘူးသည်ဖြစ်၍။ သင်ပုဏ္ဏမထေရ်အား ညှဉ်းပန်းနှိပ်စက်ရာ၏ဟု မြတ်စွာဘုရား မိန့်တော်မူ၏။ အရှင်ပုဏ္ဏမထေရ်သည်သူတပါးတို့၏ဆဲခြင်း၊ ရေးရွတ်ခြင်း၊ လက်ဖြင့်ပုတ်ခတ်

ခြင်း၊ အုဋ္ဌခဲဖြင့်ပုတ်ခတ်ခြင်း၊ တောင်ဝေးဆောက်ပုတ်ဖြင့် ပုတ်ခတ်ခြင်း၊ လက်နက်ဖြင့်ပုတ်ခတ်ခြင်း၊ ဇီဝိတိန္ဒြေမှချခြင်း ဟုကျန်သောခုနစ်ပါးကျန်သောဌာနတို့ဖြင့် ညှဥ်းပန်းကုန်လျှင်။ အသီးအသီးဌာနဌာနတို့၌ ကျေးဇူးကိုရှာ၍ သည်းခံပါမည်ဟု လျှောက်ကြားလေလျှင်။ မြတ်စွာ ဘုရားသည် ကောင်းချီး ပေးတော်မူ၍ခွင့်ပြုလွှတ်လိုက်တော်မူ၏။ အရှင်ပုဏ္ဏမထေရ်သည်လည်းမြတ်စွာဘုရားကိုရှိခိုးပြီးလျှင်သူနာပရန္တတိုင်းသို့သွား၍ မကုဋ္ဌ ကျောင်း၌ ဝါကပ် တော်မူ၏။ ထိုဝါတွင်း၌ လျှင် ဝိဇ္ဇာသုံးပါးသို့ရောက်၍ ပရိနိဗ္ဗာန်ပြု၏။ ဤဆိုအပ်ပြီးသော စကားသည်ကားအကျဉ်းတည်း။ အကျယ်ကိုကား အဋ္ဌကထာနှင့်တကွသော ပုဏ္ဏောဝါဒသုတ်၌ကြည့်အပ်၏။ ။ဤပုဏ္ဏမထေရ်၊ ခန္တီပါဒိရသေ့တို့အားဖြစ်သောအဓိဝါသနခန္တီလည်းခန္တီမည်၏။ ။သင်္ဂီတိသုတ်အဋ္ဌကထာ၌လည်းခန္တီဟူသည်ကား။ ။တတ္ထကတမာခန္တီခမနတာ အဓိဝါသနတာအစဏ္ဍိက္ကံနအသုရောပေါအတ္တမနတာစိတ္တဿ။ ။ဟူ၍ဟောတော်မူအပ်သောအဓိဝါသနခန္တီတည်းဟူ၍ဆိုအပ်၏။ ။တတ္ထ။ ထို၊စကား၌။ကတမာ၊အဘယ်သည်။ခန္တီ။ခန္တီမည်သနည်း။စိတ္တဿ။စိတ်၏။ခမနတာ။သည်းခံသည်၏အဖြစ်သည်။အဓိဝါသနတာ။ သူတပါးတို့သည်မကောင်းသဖြင့်ပြုအပ်သောအမှု သူတပါးတို့သည်မကောင်းသဖြင့် ဆိုအပ်သောစကားကို ဆန့်ကျင်ဘက် မပြုသဖြင့်မိမိအပေါ်၌နေစေသည်၏အဖြစ်သည်။အစဏ္ဍိက္ကံ။ အမျက်မထွက်ခြင်းသည်။နအသုရောပေါ။ သူတပါးတို့၏ပျက်စီးခြင်းတို့၌မျက်ရည်ကိုမဖြစ်စေခြင်းသည်။ အတ္တမနတာ။ နှစ်သက်ခြင်းနှင့်တကွဖြစ်သော စိတ်အားဖြင့် မိမိစိတ်၏ အဖြစ်သည်။ ခန္တီ။ခန္တီမည်၏။ ။အယံခန္တီသီတာဒယောဓမ္မေအဓိဝါသေ အတ္တနောဥပရိဝါသေတိယေဝ၊ နအသဟမာနာဟုတွာနိရဿတိ၊တသ္မာအဓိဝါသနာတိဝုစ္စတိ။ ။သဗ္ဗာသဝသုတ် အဋ္ဌကထာ။ ။အယံခန္တီ။ ဤသည်းခံခြင်းသည်။ သီတာဒယော။ အ

ချမ်းအစရှိကုန်သော။ဓမ္မေ။သဘောတို့ကို။ အဓိဂါသေတိအဇ္ဈ
နောဥပရိဂါသေတိယော၀။ မိမိ၏အပေါ်၌နေစေတတ် သလျှင်
ကတည်း။ အသဟမာနာ။ သည်းမခံသည်၊ ဟုတွာ။ဖြစ်၍။ နန္ဒ
ရသဲတိ။မခံတတ်။တသ္မာ။ထိုကြောင့်။ အဓိဂါသနာ။အဓိဂါသ
နမည်၏။ ဣတိ။ဤသို့။ ဝုတ္တ။ ဆိုအပ်၏။ ။သီတာဒယောဟူ
သောပါဌ်၌။အာဒိသဒ္ဒါဖြင့်ခြင်မှက်လေနေပူမြွေပျားကင်းသန်း
တို့၏အတွေ့၊ငတ်ခြင်းမွတ်ခြင်းမကောင်းသဖြင့်ဆိုအပ်သောစ
ကား။ဒုက္ခဝေဒနာအစရှိသည်တို့ကိုယူအပ်ကုန်၏။ ။ထိုသို့အ
ပူအချမ်းစသောဒုက္ခဝေဒနာ၊ သူတပါးတို့ကဲ့ရဲ့ဆဲရေးပုတ်ခတ်
ခြင်းစသောနှိပ်စက်ခြင်းတို့ကိုအမှတ်မထားသည်းခံခြင်းနှင့်တ
ကွတရားအထူးကိုအားထုတ်ကုန်သောရဟန်းရှင်လူတို့ကို၎င်း။
ယောနိသောမနသိကာရဖြင့်နှလုံးသွင်း၍ နေလေ့ရှိသောရဟန်း
ရှင်လူတို့ကို၎င်း။ ထိုသို့သဘောရှိကုန်သောခန္တိဝါဒ၌အလေ့ရှိ
ကုန်သောသူတို့ကိုဘုရားအစရှိသော ပညာရှိအပေါင်းသိကြား
နတ်ဗြဟ္မာအပေါင်းတို့သည်ချီးမွမ်းအပ်ကုန်၏။ထို့ကြောင့်လျှင်
သိကြားနတ်မင်းအား တရားဟောသော သရဘင်္ဂရသေ့သည်
သရဘင်္ဂဇာတ်၌။ ။ကောဓံဝဓိတွာနကဒါစိသောစတိ။မက္ခပ္ပ
ဟာနံဣသယောဝဏ္ဏယန္တိ။ သဗ္ဗေသံဝုတ္တံဖရုသံခမေထ။ ဧတံ
ခန္တိံဥတ္တမမာဟုသန္တော။ ။ဟူသောဂါထာကိုဆို၏။ ။
ကောဓံ။အမျက်ကို။ဝဓိတွာ။ပယ်၍။ကဒါစိ။တရံတဆစ်။နသော
စတိ။မစိုးရိမ်။ မက္ခပ္ပဟာနံ။ သူ့ကျေးဇူးကိုချေခြင်း၌ပယ်ခြင်း
ကို။ ဣသယော။ ရသေ့မြတ်တို့သည်။ ဝဏ္ဏယန္တိ။ ချီးမွမ်းကုန်
၏။ သဗ္ဗေသံ။ ခပ်သိမ်းကုန်သောသူတို့၏။ ဖရုသံ။ ကြမ်းတမ်း
စွာ။ဝုတ္တံ။ဆိုအပ်သောစကားကို။ခမေထ။ သည်းခံကုန်လော့။ဧ
တံခန္တိံ။ထိုသည်းခံခြင်းကို။ ဥတ္တမံ။မြတ်၏ဟူ၍။ သန္တော။ ရှေး
ပညာရှိတို့သည်။အာဟု။ဆိုကုန်ပြီ။ ။အကြင်အကြောင်းကြောင့်
အဆင်းကိုမြင်ကာမျှဖြင့်သတ္တဝါတို့၏ သေဋ္ဌအစရှိသည်၏အဖြစ်
ကိုသိခြင်း၌မတတ်ကောင်း။ ထိုစကားသည်မှန်၏မဏ္ဍိကမ

ထေရ်ကဲ့သို့။သူတော်ကောင်းတို့သည်လည်း၊ သူယုတ်တို့၏အ
သွင်ကဲ့သို့သွားတတ်ကုန်၏။ထိုကြောင့်။ ။သဗ္ဗေသံဝစနက္ခမံ
ဥတ္တမံ။ ။ဟူသောပါဠိ၌။ ။သဗ္ဗေသံ။ခပ်သိမ်းကုန်သောအ
ယုတ်အလတ်အမြတ်ဖြစ်သောသူတို့၏။ ဝစနံ။ စကားကို။ ခမံ။
သည်းခံခြင်းသည်။ ဥတ္တမံ။ မြတ်၏။ ။ဟူ၍ဟောတော်မူ၏။
ဤသူသည် အလွန်ယုတ်သောသူတည်းဟု အကြင်သူသည်သိ
၏။ ထိုသူ၏ကြမ်းသောစကားကို သည်းခံခြင်းသည်ကား အ
လွန်ပင်မြတ်ကုန်သေး၏ဟု ချီးမွမ်းတော် မူလိုသော သရဘင်္ဂ
ရသေ့သည်။ ။ဘယာဟိသေဋ္ဌဿဝစောခမေထ။ သာရမ္ဘ
ဟေတုပနသဒိသဿ။ ယောစိဓဟီနဿဝစောခမေထ။ ဧတံ
ခန္တိံ ဥတ္တမမာဟုသန္တော။ ။ဟူ၍ဆို၏။ ။ဘယာဟိ။ကြောက်
သောကြောင့်လျှင်။သေဋ္ဌဿ။မြတ်သောသူ၏။ ဝစော။စကား
ကို။ ခမေထ။ သည်းခံရာ၏။ သာရမ္ဘဟေတုပန။ အပြိုင်ပြုအံ့
သည့်အဖြစ်ကို မြင်သောအကြောင်းကြောင့်။ သဒိသဿ။ တူ
သောသူ၏။ ဝစော။စကားကို။ ခမေထ။သည်းခံရာ၏။ ဣဓ။ဤ
လောက၌။ယောစ။အကြင်သူသည်ကား။ ဟီနဿ။ယုတ်သော
သူ၏။ဝစော။စကားကို။ ခမေထ။သည်းခံ၏။တဿ။ထိုသူ၏။ဧ
တံခန္တိံ။ထိုသည်းခံခြင်းကို။ ဥတ္တမံ။မြတ်၏ဟူ၍။ ဝါ။အလူးသ
ဖြင့်အလွန်မြတ်၏ဟူ၍။ ဝါ။ မိမိထက်မြတ်သောသူမိမိနှင့်တူမျှ
သောသူတို့၏ကြမ်းကြုတ်သောစကားကို သည်းခံရခြင်းထက်
အလွန်မြတ်၏ဟူ၍။သန္တော။ဘုရားစသောသူတော်ကောင်းတို့
သည်။အာဟု။ဆိုတော်မူကုန်ပြီ။ ။နတ်အသုရာတို့၏စစ်ထိုးခြင်း
သည်ရှေး၌ဖြစ်ဘူး၏။ နတ်တို့သည်အောင်၍ဝေပစိတ္တိအသုရာ
မင်းကိုဖွဲ့၍သိကြားမင်း၏အထံသို့ဆောင်ကုန်၏။ ဝေပစိတ္တိအသု
ရာမင်းသည်။ သိကြားနတ်မင်းကို သင်ကားခိုးသူဖြစ်၏၊ သင်
ကားမိုက်၏၊ သင်ကားတွေဝေ၏၊ သင်ကားဂုဏ်ထတ်သည်ဖြစ်
၏၊သင်ကားနွားဖြစ်၏၊ သင်ကားမြည်းဖြစ်၏၊ သင်ကားငရဲသူ
ဖြစ်၏၊ သင်ကားတိရစ္ဆာန်ဖြစ်၏၊ သင်အားသုဂတိသည် မရှိ၊

သင်အားဒုက္ခတိကိုသာလျှင်အလိုရှိအပ်၏။ ဤဆယ်ပါးကုန်သော
အကြောသဝတ္ထုတို့ဖြင့်လည်းဆဲရေး၏။ သိကြားအို၊ သင်သည်
သာအခါခပ်သိမ်း အောင်မည်မဟုတ်။ အကြင်အခါ၌ အသုရာ
တို့၏အောင်ခြင်းသည်ဖြစ်လတ့်။ ထိုအခါသင့်ကိုလည်းဤအတူ
နှောင်ဘွဲ့၍အသုရာပြည်တံခါး၌အိပ်စေ၍ပုတ်ခတ်စေအံ့။ ဤသို့
အစရှိသည်ဖြင့်ခြိမ်းလည်းခြိမ်းချောက်၏။ ထိုအခါအောင်အပ်
သည်ကို အောင်ခြင်း ရှိသော သိကြားမင်းသည် ရှည်မြင့်စွာ
သောကာလပတ်လုံး။ သည်းခံခြင်းစောင့်ရှောက်ခြင်း ရှိသော
သူ၏အဖြစ်၌ ကောင်းစွာတည်သောအလိုဆန္ဒရှိသည်၏ အဖြစ်
ကြောင့်။ ထိုဝေပစိတ္တိအသုရာမင်း၏ ကြမ်းကြုတ်သောစကား
ကိုနှလုံးမသွင်း။ ထိုအခါမာတလိနတ်သားသည်။ ဤသိကြားမင်း
ကား ဤကြမ်းကြုတ်သောစကားတို့ကိုကြောက်သောကြောင့်
သည်းခံသလော။ ထိုသို့တည်းမဟုတ်မူကား သည်းခံခြင်းခန္တီ
နှင့်ပြည့်စုံသည်ဖြစ်၍ သည်းခံသလောဟုကြံ၍ ထိုအကြောင်း
ကိုမေး၏။ ထိုအခါ၌သိကြားမင်းသည်။ မာတလိ။ငါသည်ဝေပ
စိတ္တိအသုရာအားကြောက်သောကြောင့် သည်းခံသည်မဟုတ်။
အားနည်းသောကြောင့်သည်းခံသည်မဟုတ်ဟုဆို၍။ ။သ
ဒတ္ထပရမာအတ္ထာခန္တျာဘိယျော။ နဝိဇ္ဇတိယောဟဝေဗလဝါ
သန္တော။ ဒုဗ္ဗလဿတိတိက္ခတိတမာဟု။ ပရမံခန္တိံ နိစ္စံခမတိ
ဒုဗ္ဗလော။ ။ဟူ၍ဆို၏။ ။မာတလိ။ မာတလိ။ သဒတ္ထပရ
မာ။မိမိ၏အကျိုးမြတ်တို့သည်။ သန္တိ။ရှိကုန်၏။ တေသု။ထိုမိမိ
၏အကျိုးမြတ်တို့တွင်။ခန္တျာ။သည်းခံခြင်းထက်။ဘိယျော။လွန်
ကဲသော။ အတ္ထော။ အကျိုးသည်။ နဝိဇ္ဇတိ။မရှိ။ ဗလဝါ။အားရှိ
သော။သန္တော။ငြိမ်သက်သော။ ယော။အကြင်သူသည်။ ဟဝေ။
စင်စစ်။ဒုဗ္ဗလဿ။အားနည်းသောသူအား။တိတိက္ခတိ။သည်းခံ
၏။ တံခန္တိံ။ ထိုသည်းခံခြင်းကို။ ပရမံ။မြတ်၏ဟူ၍။ဝါ။မြတ်
သောအကျိုးဟကာတို့ထက်လွန်ကဲသည်ဟူ၍။ အာဟု။ဆိုကုန်
၏။ဒုဗ္ဗလော။အားနည်းသောသူသည်ကား။ နိစ္စံ။အမြဲ။ခမတိ။မိမိ

ထက်မြတ်သောအားရှိသောသူတို့နှိပ်စက်တိုင်းပင်။ သည်းခံရ၏။ ။ဤသို့ခန္တိနှင့်ယှဉ်သော ပုဂ္ဂိုလ်ကို ဘုရားစသော သူတော်ကောင်းရသေ့ နတ်သိကြားတို့သည် ချီးမွမ်းအပ်ကုန်၏။ ထို့ကြောင့် မိမိကို အမျက်ထွက်သော သူအား အတုံ့အမျက်မထွက်အပ်၊ အမျက်ထွက်သော သူအား အတုံ့အမျက် ထွက်သောသူသည်အလွန်ယုတ်မာ၏ဟု ဟောလိုသည်ဖြစ်၍။ ။တသောဝတေနပါပိယော။ ယောကုဒ္ဓံပဋိကုဇ္ဈတိ။ ကုဒ္ဓံအပ္ပဋိကုဇ္ဈန္တော။ သင်္ဂါမံဇေတိဒုဇ္ဇယံ။ ။ဟူ၍ဆို၏။ ။ယော။ အကြင်သူသည်။ ကုဒ္ဓံ။အမျက်ထွက်သောသူကို။ ပဋိကုဇ္ဈတိ။ အတုံ့အမျက်ထွက်၏။တေန။ ထိုအမျက်ဖြင့်။ တသောဝ။ ထိုအတုံ့အမျက်ထွက်သောသူအားသာလျှင်။ပါပိယော။အလွန်ယုတ်မာခြင်းသည်။ဟောတိ။ဖြစ်၏။ကုဒ္ဓံ။အမျက်ထွက်သောသူကို။အပ္ပဋိကုဇ္ဈန္တော။အတုံ့အမျက်မထွက်သောသူသည်။ဒုဇ္ဇယံ။အောင်နိုင်ခဲသော။သင်္ဂါမံ။စစ်ကို။ဇေတိ။အောင်၏။ ။ထို့ကြောင့်။ ။အက္ကောဉ္ဆိ မံ အဝဓိ မံ။ အဇိနိ မံ အဟာသိ မေ။ ယေစ တံ ဥပနယှန္တိ။ ဝေရံတေသံနသမ္မတိ။ ။ဟူ၍ဟောတော်မူ၏။ ။မံ။ ငါ့ကို။ အက္ကောဉ္ဆိ။ မိတိုင်ဘလဲဆဲရေးဘူးလေပြီ။ မံ။ ငါ့ကို။ အဝဓိ။ တတောင်လက်ဆုပ် ဒုတ် ဖုံ့တံတို့ဖြင့် ပုတ်ခတ်ဘူးလေပြီ။မံ။ငါ့ကို။ အဇိနိ။ စဉ်းလဲသောသက်သေဖြင့်အောင်ဘူးလေပြီ။မေ။ငါ၏။ဓနံ။ဥစ္စာကို။ အဟာသိ။ ခိုးယူဘူးလေပြီ။ဣတိ။ ဤသို့။ ယေစ။အကြင်သူတို့သည်ကား။ ဥပနယှန္တိ။ သည်းမခံခြင်းနှင့်တကွရန်ငြိုးဖွဲ့ကြကုန်၏။ တေသံ။ထိုသူတို့၏။တံဝေရံ။ဤအမျက်နှင့်တကွသောရန်သည်။ နသမ္မတိ။ထင်းဆွေး၌ကျသောမီးကဲ့သို့တငွေ့ငွေ့ပွါးသဖြင့်မငြိမ်းနိုင်။ ။ထို့ကြောင့်သည်းမခံခြင်း၌အပြစ်ဟုဆိုအပ်သော အာဒီနဝကို ရှုမြင်သဖြင့်သည်းခံခြင်း၌အကျိုးဟုဆိုအပ်သော အာနိသံသ အစီးအပွါးကိုမြင်ခြင်းငှါဟောတော်မူလိုသည်ဖြစ်၍။ ။အက္ကောဉ္ဆိမံအဝဓိမံ။ အဇိနိမံအဟာသိမေ။ ယေစတံနူပနယှန္တိ။ ဝေရံတေသူပသမ္မ

တိ။ ။ဟုဟောတော်မူ၏။ ။မံ။ငါ့ကို။ အကြောင်္သီ။မိတိုင်ဘ လဲဆဲရေးဘူးလေပြီ။မံ။ငါ့သို့။အဝဓိ။တတောင်လက်ဆုပ်တုတ် လှံတံတို့ဖြင့်ပုတ်ခတ်ဘူးလေပြီ။မံ။ငါ့ကို။ အဇိနိ။ စဉ်းလဲသော သက်သေဖြင့်အောင်ဘူးလေပြီ။ မေ။ငါ၏။ခနံ။ဉစ္စာကို။ အဟာ သိ။ခိုးယူဘူးလေပြီ။ဣတိ။ဤသို့။ယေစ။အကြင်သူတို့သည်ကား။ နုပနယှန္တိ။ သည်းခံခြင်းနှင့်တကွသော ရန်ငြိုးကို မဘွဲ့ကုန်။ တေသံ။ထိုသူတို့၏။ဗေါံဝေရံ။ဤရန်သည်။ သုပသမ္မတိ။ရေစင် သွတ်ဖျန်းသကဲ့သို့ငြိမ်းချမ်းသာယာ၏။ ။တနည်းလည်း။ ။ နဟိဝေရေနဝေရာနိ။သမ္မန္တီဓကုဒါစနံ။ အဝေရေနစသမ္မန္တိ။ဧ သဓမ္မောသနန္တနော။ ။ဟူ၍ဟောတော်မူ၏။ ။ဣဓ။ ဤ လောက၌။ ဝေရေန။ ရန်ကို သည်းမခံခြင်းနှင့်တကွ ရန်တုံ့မူ သဖြင့်။ ဝေရာနိ။ ရန်တို့သည်။ ကုဒါစနံ။ တရံ တဆစ် မျှ။ နသမ္မန္တိ။ ထင်းသွေး၌ ကျသော မီးကဲ့သို့ တဋ္ဌေဋ္ဌ ပွါးသ ဖြင့်မငြိမ်းနိုင်ကုန်။အဝေရေန။ ရန်ကိုသည်းခံခြင်းနှင့်တကွရန် တုံ့မမူသဖြင့်။ဝေရာနိ။ရန်တို့သည်။သမ္မန္တိ။ရေစင်သွတ်ဖျန်းသ ကဲ့သို့ ငြိမ်းချမ်းသာယာကုန်၏။ ဧသဧသော။ ဤသို့ ရန်စကို သည်းခံခြင်းနှင့်တကွ ရန်တုံ့မမူသဖြင့် ရေဆွတ်ဖျန်းသကဲ့သို့ ငြိမ်းချမ်းသာယာခြင်းသည်။ သနန္တနော။ ရှေးဘုရားအလောင်း သူတော်ကောင်းသူဟောင်းတို့၏အဓလေ့ဖြစ်သော။ ဓမ္မော။သ ဘောပင်တည်း။ ။ဖြာပဗ္ဗဏာသံယုတ်၌လည်း။ ။လေးယော် ကုန်သောပုဏ္ဏားညီနောင်တို့သည်။ မြတ်စွာဘုရားအားအမျက် ထွက်ကုန်၍ အထူးထူးသော ဆဲရေးခြင်းတို့ဖြင့် ဆဲရေးကုန် သော်လည်း မြတ်စွာဘုရားသည် ဆုံးမအပ်ကုန်သည်ဖြစ်၍ ရ ဟန်းပြုတော်မူ၏။ ထိုပုဏ္ဏားညီနောင်တို့သည်မကြာမြင့်မီလျှင် အရဟတ္တဖိုလ်သို့ ရောက်လေ၍။ ရဟန်း တို့သည်။ ငါ့ရှင်တို့။ ဘုရားသဗ္ဗညူ၏ဂုဏ်ကျေးဇူးတော်တို့သည်စင်စစ်အံ့ဘွယ်သ ရဲရှိကုန်၏။ ထိုစကားသည်မှန်၏။ထိုပုဏ္ဏားတို့သည်မြတ်စွာဘု ရားအား များစွာဆဲရေးကဲ့ရဲ့သည်ဖြစ်လျက်။ မြေကြီးနှင့် တူ

သောနှလုံးရှိတော်မူသော မြတ်စွာဘုရားသည်ထိုပုဏ္ဏားတို့၏ ကိုးကွယ်ရာသာလျှင်ဖြစ်၏ဟူ၍ပြောဆိုကြကုန်၏။ မြတ်စွာဘုရားသည် ထိုစကားကိုကြားတော်မူ၍။ ရဟန်းတို့။ ငါဘုရားသည် အတိတ်ကာလ ဘဝကြီးငယ်တို့၌လည်း အမျက် ထွက်ကုန်သော လူတို့၏အမျက်ကို အမျက် မထွက်ခြင်း တည်းဟူသောသည်းခံသဖြင့်အောင်နိုင်၏။ ထိုကြောင့် လူသုံးပါးတို့၏ ကိုးကွယ်ရာဖြစ်တော်မူ၏ဟုမိန့်တော်မူ၍၊ ဓမ္မပဒပြာဟ္မဏဝဂ်၌။ ။အက္ကောသံဝဓဗန္ဓဉ္စ။အဒုဋ္ဌော ယော တိတိက္ခတိ။ခန္တိဗလံ ဗလာနီကံ။ တမဟံဗြူမိဗြာဟ္မဏံ။ ။ဟူသော ဂါထာကို ဟောတော်မူ၏။ ။ဘိက္ခဝေ။ ရဟန်းတို့၊ ယော ပုဂ္ဂလော။ အကြင်ပုဂ္ဂိုလ်သည်၊ အက္ကောသံ။ ဆဲရေးသောသူကိုငင်း။ ဝဓ ဗန္ဓဉ္စ။သတ်ပုတ်သောသူနှောင်ဖွဲ့သောသူကိုငင်း။ အဒုဋ္ဌော။အမျက်မထွက်သည်ဖြစ်၍။တိတိက္ခတိ။သည်းခံ၏။ ခန္တိဗလံ။ခန္တိအားနှင့်ပြည့်စုံထသော။ဗလာနီကံ။ ခန္တီအားဟူသောအဘန်တလဲလဲဖြစ်သော စစ်သည်အပေါင်းရှိထသော။ တံပုဂ္ဂလံ။ ထိုပုဂ္ဂိုလ်ကို။အဟံ။ငါဘုရားသည်။ဗြာဟ္မဏံ။ မကောင်းမှုကိုအပပြုပြီးသောသူဟူ၍။ဗြူမိ။ဟောတော်မူ၏။ ။ထို့ကြောင့်သည်း ခံခြင်း အလေ့ဟူသော ခန္တီပါဒ၌တည်သော အဓိဝါသ စေတသိက်၏ အစွမ်းသည် လူနတ်နိဗ္ဗာန် သုံးတန်သော ချမ်းသာကို ရွက်ဆောင်ပေတတ်သော သဂ္ဂမောက္ခအကြောင်းဖြစ်၍။ ထို ခန္တီနှင့်ပြည့်စုံသောသူသည် ပစ္စုပ္ပန်သံသရာအကျိုးနှစ်ပါးကြီး ပွါးများသည်၏အစ္စဖြစ်ကြောင့် မင်္ဂလာမည်၏။ ။ခန္တီစ ဟူသောမင်္ဂလာ၏နှစ်သာရပြီး၏။

---

## ၂၈။ ဆိုဆုံးမသောစကားကိုမှတ်ယူလိုက်နာနိုင်ခြင်း- သောဝစဿတာမင်္ဂလာ။

ဘုရားပညတ်တော် မူအပ်သော သိက္ခာပုဒ်ဖြင့် ဆိုသည်ရှိ

သော် ပျံ့လွင့်ခြင်းသို့ရင်း။ ဆိတ်ဆိတ် နေသော အဖြစ်သို့ရင်း။ ဂုဏကျေးဇူးကိုကြံခြင်းသို့ရင်း မရောက်မူ၍ အလွန်လျှင်ရှိသောခြင်းကိုရင်း အလေးပြုသည့်၏အဖြစ်ကိုရင်း ရှုပ်ချသောစိတ်ရှိသည့်၏အဖြစ်ကိုရင်း။ ရှေးရှုနိမ့်ချကောင်းမြဲပါဟုဆိုခြင်းကိုပြုသည့်၏အဖြစ်သည် သောဝစဿတာမည်၏ဟူ၍ အဋ္ဌကထာ၌ဆို၏။ ထိုစကား၌ ကောင်းသောတရားစကားဖြင့် ဆုံးမသောပုဂ္ဂိုလ်သည်သုဝစမည်၏။ ကောင်းသောစကားဖြင့် ဆုံးမအပ်သောပုဂ္ဂိုလ်၏တရားစကားကိုရိုသေသောအစွမ်းအားဖြင့်ဖြစ်သောစေတနာသည် သောဝစဿတာမည်၏။ ထိုစေတနာရှိသောသူ၏အဖြစ်သည် သောဝစဿတာမည်၏။ ထိုသောဝစဿတာကိုနာထကရဏဟူ၍ဆိုအပ်၏။ ထိုကြောင့်ဒသအင်္ဂုတ္တိုရ်ဒုတိယဝဂ် သတ္တမသုတ်၌။ ။ယမ္ပိဘိက္ခဝေ ဘိက္ခု သုဝစော ဟောတိ သောဝစဿကရဏေဟိ ဓမ္မေဟိသမန္နာဂတော ခမော ပဒက္ခိဏဂ္ဂါဟီအနုသာသနိံ။ အယမ္ပိ ဓမ္မော နာထကရဏော။ ။ဟူ၍ဟောတော်မူ၏။ ။ဘိက္ခဝေ။ ရဟန်းတို့။ ယမ္ပိ။ အကြင်အကြောင်းကြောင့်လည်း။ ဘိက္ခု။ ရဟန်းသည်။ သုဝစော။ ကောင်းသောတရားဖြင့်ဆုံးမအပ်သည်။ ဟောတိ။ ဖြစ်၏။ သောဝစဿကရဏေဟိ။ ကောင်းသောတရားဖြင့် ဆုံးမအပ်သောသူ၏စေတနာကိုပြုတတ်ကုန်သော။ ဓမ္မေဟိ။ တရားတို့နှင့်။ သမန္နာဂတော။ ပြည့်စုံသည်။ ဟောတိ။ ဖြစ်၏။ ခမော။ သည်းခံသည်။ ဟောတိ။ ဖြစ်၏။ ပဒက္ခိဏဂ္ဂါဟီအနုသာသနိံ။ အရိုအသေပြု၍ယူသော အဆုံးအမရှိသည်။ ဟောတိ။ ဖြစ်၏။ အယမ္ပိဓမ္မော။ ဤသို့သဘောရှိသော သောဝစဿတာတရားသည်လည်း။ နာထကရဏော။ ကိုးကွယ်ရာကိုပြုတတ်၏။ ။ ထိုသောဝစဿတာကို သီတင်း သုံးဘော်တို့၏အထံမှ ဆုံးမခြင်းမြစ်တားခြင်းကိုရခြင်း၏အကြောင်းဖြစ်သောကြောင့်ရင်း။ အပြစ်ကိုပယ်ခြင်း ကျေးဇူးကိုရခြင်း၏ အကြောင်း ဖြစ်သောကြောင့်ရင်း မင်္ဂလာဟူ၍ဆိုအပ်၏။ ။ထို့ကြောင့် အနုမာန

သုတ်၌ တရားဟောသော အရှင်မဟာ မောဂ္ဂလာန် မထေရ်သည်။ ။ပဝါရေတိစေပိအာဝုသောဘိက္ခုဝဒန္တုမံ အာယသ္မန္တော ဝစနီယောမှိ အာယသ္မန္တေဟီတိ။ သောစဟောတိဒုဗ္ဗစောဒေါဝစဿကရဏေဟိဓမ္မေဟိ သမန္နာဂတောအက္ခမောအပ္ပဒက္ခိဏဂ္ဂါဟီအနုသာသနိံ။ အထခေါနံ သဗြဟ္မစာရီနစေဝဝတ္တဗ္ဗံမညန္တိ။ နစအနုသာသိတဗ္ဗံမညန္တိ။ နစတသ္မိံပုဂ္ဂလေဝိဿာသံအာပဇ္ဇိတဗ္ဗံမညန္တိ။ ။ဟူ၍ငင်း။ ။နောစေပိအာဝုသောဘိက္ခုပဝါရေတိဝဒန္တုမံ အာယသ္မန္တော ဝစနီယောမှိအာယသ္မန္တေဟီတိ။ သောစဟောတိသုဝစော သောဝစဿကရဏေဟိဓမ္မေဟိသမန္နာဂတောခမောပဒက္ခိဏဂ္ဂါဟီအနုသာသနိံ။ အထခေါနံ သဗြဟ္မစာရီဝတ္တဗ္ဗဉ္စေဝ မညန္တိ အနုသာသိတဗ္ဗဉ္စမညန္တိ။တသ္မိံစပုဂ္ဂလေဝိဿာသံအာပဇ္ဇိတဗ္ဗံမညန္တိ။ ။ဟူ၍ငင်းဟောတော်မူ၏။ ။အာဝုသော။ ငါ့ရှင်တို့။ ဘိက္ခု။ရဟန်းသည်။မံ။ငါ့ကို။အာယသ္မန္တော။ ငါ့ရှင်တို့သည်။ဝဒန္တု။ဆိုကုန်လော့။အာယသ္မန္တေဟိ။ငါ့ရှင်တို့သည်။ဝစနီယော။ဆိုဆုံးမအပ်သည်။အမှိ။ဖြစ်၏။ ဣတိ။ဤသို့။ပဝါရေတိစေပိ။အကယ်၍ဖိတ်ကြားသော်လည်း။ သောဘိက္ခု။ထိုရဟန်းသည်။ ဒုဗ္ဗစောစ။ ဆုံးမခက်သည်လည်း။ ဟောတိ။ ဖြစ်၏။ ဒေါဝစဿကရဏေဟိ။ ဆုံးမခက်သောပုဂ္ဂိုလ်၏အမှုကို ပြုတတ်ကုန်သော။ ဓမ္မေဟိ၊ တရားတို့နှင့်။ သမန္နာဂတော။ ပြည့်စုံ၏။ အက္ခမော။ သည်းမခံ။အပ္ပဒက္ခိဏဂ္ဂါဟီအနုသာသနိံ။ အဆုံးအမကိုအရိုအသေအားဖြင့်ယူလေ့မရှိ။ အထခေါ။ ထိုအခါ၌။ နံဘိက္ခုံ။ ထိုရဟန်းကို။သဗြဟ္မစာရီ။ သီတင်းသုံးဘော်တို့သည်၊ ဝတ္တဗ္ဗံ။ဆိုအပ်သောရဟန်းဟူ၍။နစေဝမညန္တိ။မအောက်မေ့ကုန်သလျှင်ကတည်း။ အနုသာသိတဗ္ဗံ။ ဆုံးမအပ်သောရဟန်းဟူ၍။ နစမညန္တိ။မအောက်မေ့ကုန်။ တသ္မိံပုဂ္ဂလေ။ထိုပုဂ္ဂိုလ်၌။ ဝိဿာသံ။အကျွမ်းဝင်ခြင်းသို့။အာပဇ္ဇိတဗ္ဗံ။ရောက်အပ်၏ဟူ၍။ နစေဝမညန္တိ။မအောက်မေ့ကုန်။ ။အာဝုသော။ ငါ့ရှင်တို့။ဘိက္ခု။ရ

ဟာန်းသည်။မံ။ငါ့ကို။အာယသ္မန္တော။ငါ့ရှင်တို့သည်။ ဝဒန္တု။ဆို ပါကုန်လော့။ အာယသ္မန္တေဟိ။ငါ့ရှင်တို့သည်။ ဝစနီယော။ဆို အပ်သည်။ အမှိ။ဖြစ်၏။ ဣတိ။ဤသို့။ နော စေပိ ပဝါရေတိ။ အ ကယ်၍မဘိတ်သော်လည်း။သောဘိက္ခု။ထိုရဟန်းသည်။ သုဝ စောစ။ဆုံးမလွယ်သည်လည်း။ ဟောတိ။ဖြစ်၏။သောဝစဿ ကရဏေဟိ။ ဆုံးမလွယ်သောသူ၏အမှုကိုပြုတတ်ကုန်သော။ ဓမ္မေဟိ။တရားတို့နှင့်။သမန္နာဂတော။ပြည့်စုံ၏။ ခမော။သည်း ခံ၏။ပဒက္ခိဏဂ္ဂါဟိအနုသာသနိ၊ အဆုံးအမကိုအရိုအသေအား ဖြင့်ယူလေ့ရှိ၏၊အထခေါ။ထိုအခါ၌။ နံဘိက္ခုံ။ထိုရဟန်းကို။သ ဗြဟ္မစာရီ။ ဘိတင်းသုံးဘော် တို့သည်။ ဝတ္တဗ္ဗန္တေဝ။ ဆိုအပ် သောရဟန်းဟူ၍လည်း။ မညန္တိ။အောက်မေ့ကုန်၏။ အနုသာ သိတဗ္ဗန္တေ။ဆုံးမအပ်သောရဟန်းဟူ၍လည်း။ မညန္တိ။ အောက် မေ့ကုန်၏။ တသ္မိံ ပုဂ္ဂလေ။ထိုပုဂ္ဂိုလ်၌။ဝိဿာသံ။ အကျွမ်းဝင် ခြင်းသို့။အာပဇ္ဇိတဗ္ဗန္တေ။ရောက်အပ်၏ဟူ၍လည်း။ မညန္တိ။အော မေ့ကုန်၏။ ။ဆိုလွယ်သောပုဂ္ဂိုလ်မည်သည်လည်း။ မိမိ၏ ဂုဏ်း သူတပါး၏ဂုဏ်း ခေါသကိုပယ်ခြင်း၌ ကျင့်သော ပုဂ္ဂိုလ် မည်၏။ ထိုကြောင့်ဆိုလွယ်သောပုဂ္ဂိုလ်၏ သောဝစဿတာ သည်ဒေါသကိုပယ်ခြင်းအမှုကို ရခြင်း၏အကြောင်းဖြစ်၏။ တ နည်းကား။ သောဝစဿတာသည် တရားအထူးကို ရခြင်း၏ နည်းသည်၏အဖြစ်ကြောင့်မင်္ဂလာမည်၏။ ထိုကြောင့်ဆိုဆုံးမ မလွယ်ခြင်း၌လည်း။အကြင်ရဟန်းသည်မြတ်စွာဘုရားပညတ် တော်မူသော ဝိနည်းဒေသနာတော်ကို ဝိတိက္ကမ စေတနာနှင့် လွန်ကျူးအံ့။ ထိုရဟန်းသည်ယခုမျက်မှောက်၌ပင်လျှင်သကျ ပုတ္တမည်သောဘုရားသားတော်အဖြစ်မှ ရှုံးခြင်းသို့ရောက်လေ သည်၏အဖြစ်ကို။ ပပဥ္စသူဒနီအမည်ရှိသောအဋ္ဌကထာသေလ သုတ်အဖွင့်၌။ ။အနုဇာတောအဝဇာတော အတိဇာတောတိ တယော ပုတ္တာ။ တေသု အဝဇာတော ဒုဿီလော တထာဂ တဿသာ ပုတ္တောနာမနဟောတိ။အတိဇာတောနာမပိတရာဥတ္တရိ

တရော။တာဒိသောပိဝါတထာဂတဿပုဗ္ဗောနုဋ္ဌိ။ တထာဂ
တဿပနဧကောအနုစ္ဆာတပုဗ္ဗောဝဟောတိ။ ။ဟုမိန့်အပ်
လေပြီ။ ။အနုဇာတော။အနုဇာတသားရင်း။ အဝဇာတော။အ
ဝဇာတသားရင်း။အတိဇာတော။အတိဇာတသားရင်း။ ဣတိ။ဤ
သို့။ တယော။ သုံးယောက်ကုန်သော။ ပုတ္တာ။ သားတို့သည်။
ဟောန္တိ။ဖြစ်ကုန်၏။တေသု။ ထိုသုံးယောက်ကုန်သောသားတို့
တွင်။အဝဇာတော။ယုတ်သောအကျင့်သီလရှိသောသားသည်။
ဒုဿီလော။ ဒုဿီလရဟန်းတည်း။ သော။ထိုဒုဿီလရဟန်း
သည်။တထာဂတဿ။ မြတ်စွာဘုရား၏။ ပုဗ္ဗောနာမ။ သား
မည်သည်။ နဟောတိ။မဖြစ်။ အတိဇာတောနာမ။ အတိဇာတ
သားမည်သည်ကား။ ပိတရော။အဘထက်။ ဥတ္တရိတရော။ လွန်
သောအကျင့်သီလဂုဏ်ရှိ၏။ တာဒိသောပိဝါ။ ထိုသို့အကျင့်သီ
လစသောဂုဏ်ဖြင့်မြတ်စွာဘုရားထက်လွန်သော။ပုဗ္ဗော။သား
သည်။တထာဂတဿ။ မြတ်စွာဘုရားအား။နတ္ထိ။မရှိ။ တထာဂ
တဿပန။မြတ်စွာဘုရားအားကား။ဧကော။ တယောက်သော။
အနုဇာတပုဗ္ဗောဝ။ တူသောအကျင့် သီလဂုဏ်ရှိသော သား
သည်သာလျှင်။ဟောတိ။ ဖြစ်၏။ ။ဤအဋ္ဌကထာပါဠ်၌ဒုဿီ
လဟူသည်ကို လောကဌ်ဒုဿီလ။ သာသနာ တော်၌ အလဇ္ဇီ
ဒုဿီလ ပါပပုဂ္ဂိုလ်ကိုယူ။ အန္တိမသို့ ရောက်သော နိဿီလ
လဒုဿီလ ပုဂ္ဂိုလ်ကိုကားလျဉ်းပါးရန် အထူးမရှိ။ ပဂေဝဖြစ်
သည်။ ဒုဿီလသဒ္ဒါသည် အန္တိမသို့ရောက်သော။ နိဿီလ
ပုဂ္ဂိုလ်ကိုသာဟောသည်မဟုတ်။ ဒုဿီလဖြစ်သောအလဇ္ဇီပါ
ပပုဂ္ဂိုလ်ကိုလည်းဟော၏။ဟောကြောင်းကို။ ဣတိဝုတ်အဋ္ဌက
ထာတိကနိပါတ်၌။ ။ဧဝံကာယဝါစာဟိအကတဝီတိက္ကမေါ
ပိ ဓိတ္တံ အဓိသောဓေန္တောနသတိ။ ပဂေဝကတဝီတိက္ကမော
ဒုဿီလော။ ။ဟူ၍ဖွင့်တော်မူအပ်သော ပါဌ်ကိုထောက်ရှု၍
သိအပ်၏။ ။ဧဝံ။ဤသို့။ ကာယဝါစာဟိ။ကိုယ်နှုတ်တို့ဖြင့်။ အ
ကတဝီတိက္ကမောပိ။ သိက္ခာပုဒ်တော်၌ လွန်ကျူးခြင်းကို မပြု

သော်လည်း။ စိတ္တံ။ မိမိစိတ်ကို။ အပိသောခနွော၊ မစောင့်
ရှောက်မသုတ်သင်သောရဟန်းသည်။နသသတိ။ ရွာတောမသုံး
ထင်းကုလားတုံးကဲ့သို့ ဘောဂဓမ္မနှစ်ပါးလုံးပျက်ရှုံးလေ၏။ က
တပိတိက္ကမော။ သိက္ခာပုဒ်တော်ကိုကျော်နင်းလွန်ကျူးသော။
ဒုဿီလော။ ဒုဿီလရဟန်းသည်ကား။ ပဂေဝ။ အဘယ်ဆို
ဘွယ်ရှိအံ့နည်း။နသသတိဧဝ။ ပစ္စုပ္ပန်သံသရာနှစ်ပါးလုံးပျက်စီး
သည့်ချင်ကတည်း။ ။ဤပါဠိ၌ရှေးအနွယစကားကိုထောက်ရှု
၍။ နောက်ဗျတိရေကဒုဿီလသဒ္ဒါသည်အလဇ္ဇီပါပဘိက္ခုကို
လည်းဟော၏ဟုသိလေ။ ။ထိုကြောင့်သောဝစဿတာဂုဏ်
နှင့်ပြည့်စုံညီညွတ်ခြင်းကင်းသော အကြင်ရဟန်းသည် ဆိုဆုံး
မတော်မူသောဝိနည်းသိက္ခာတော်ကိုလွန်ကျူး၏။ ထိုရဟန်း
သည်သာကိယသကျပုတ္တအဖြစ်မှရှုံးလေသောကြောင့်ဇင်း။လူ
တို့တွင်လည်း ပါဏာတိပါတအစရှိသော ဒုစရိုက် တရားတို့၌
သာချင်လေ့လာကျက်စားစီးပွါးရှာကုန်သောဆိုဆုံးမတော်မူ
အပ်သောသီလတရားတို့ကို လေးစားမမှုပြုလိုတိုင်းပြုကြသော
လူဒုဿီလတို့သည်လည်း လူအဖြစ်မှရှုံးလေသောကြောင့်ဇင်း။
ထိုနှစ်ရပ်သောဒုဗ္ဗစပုဂ္ဂိုလ်မည်သော ရှင်လူရဟန်းကားဒုဂ္ဂတိ
သာရှိလေသောကြောင့်အမင်္ဂလာအဖြစ်သို့ ရောက်လေကုန်၏။
ထိုဆိုဆုံးမခက်သော ဒုဗ္ဗစပုဂ္ဂိုလ်သည် သာသနာ တော်ကို
ဖျက်ဆီးသည်မည်ကုန်၏။ ဆိုဆုံးမလွယ်သော သောဝစဿ
တပုဂ္ဂိုလ်သည်သာသနာတော်၏ အရှည်တည်စေခြင်းအကျိုး
စီးပွါးကို အားထုတ်ရွက်ဆောင်သည်မည်၏။ ။ထိုကြောင့်
ပဌမအင်္ဂုတ္တိုရ်စတုက္က ပဏ္ဏာသပဉ္စမဝဂ်အဋ္ဌကထာ၌။ ။ရ
ဟန်းတို့။ တဘန်လည်းရဟန်းတို့သည်ဆုံးမခက်ကုန်၏။ ဆုံးမ
ခက်သောသူ၏ စေတနာကို ပြုတတ်ကုန်သော တရားတို့ နှင့်
ပြည့်စုံကုန်၏။အဆုံးအမကိုအရိုအသေအားဖြင့်ယူလေ့မရှိကုန်။
ရဟန်းတို့။နှစ်ခုတို့၏ပြည့်စုံကြောင်းဖြစ်သော ဤတရားသည်သာ
သနာတော်၏ကွယ်ခြင်းငှါဖြစ်၏ဟူ၍ဇင်း။ ရဟန်းတို့။ တဘန်

လည်း။ရဟန်းတို့သည်ဆုံးမလွယ်ကုန်၏။ ဆုံးမလွယ်သောသူ၏စေတနာကို ပြုတတ်ကုန်သော တရားတို့နှင့် ပြည့်စုံ ကုန်၏။ ဆုံးမကိုလည်းအရိုအသေအားဖြင့်ယူလေ့ရှိကုန်၏။ ရဟန်းတို့! နှစ်ခုတို့၏ပြည့်ကြောင်းဖြစ်သော ဤတရားသည်သာသနာတော်၏တည်ခြင်း၄ါမပျက်စီးခြင်း၄ါ မကွယ်ခြင်း၄ါဖြစ်၏ဟု ၍ဟောတော်မူ၏။ထိုကြောင့် သောဝစသတာဂုဏ်ဟုဆိုအပ်သော ဘုရားစသောသူတော်ကောင်းတို့၏ အဆုံးအမဩနာယူလွယ်ခြင်းသည် သာသနာတော်အရှည်စည်ပင်ခြင်း တည်ခြင်းမကွယ်ခြင်း မပျောက်ခြင်း၏အကြောင်းဖြစ်၍ ပစ္စုပ္ပန်သံသရာအကျိုးနှစ်ပါးကြီးပွါးရာသည်၏အဖြစ်ကြောင့်။ ထိုသောဝစဿဟာဂုဏ်သည်မင်္ဂလာမည်၏။

---

## ၂၉။ ရဟန်းသံဃာတော်ကိုဖူးမြင်ရခြင်း- သမဏာဒဿနမင်္ဂလာ။

ငြိမ်းပြီးသော ကိလေသာရှိကုန်သော ပွါးစေအပ်ပြီးသော ကာယသီလစိတ္တပညာရှိကုန်သော မြတ်သောကျေးဇူးနှင့်ပြည့်စုံကုန်သော ရဟန်းတို့အား ဆည်းကပ်ခြင်း၊ လုပ်ကျွေးခြင်း၊ အောက်မေ့ခြင်း၊နားထောင်ခြင်း၊ ဖူးမြင်ခြင်းသည်သမဏာဒဿနမည်၏။ဆည်းကပ်ခြင်းအစရှိသောအလုံးစုံကိုလည်းတင့်ဝယ်ခြင်းနှင့်ယှဉ်သောဒေသနာအားဖြင့် ဒဿနဟူ၍ ဟောတော်မူအပ်၏။ ထိုဒဿနကို မင်္ဂလာမည်၏ဟူ၍သိအပ်၏။ အဘယ်ကြောင့်နည်း ဟူမူကား။ ကျေးဇူးများသည်၏ အဖြစ်ကြောင့်တည်း။ထိုကြောင့်မဟာဝဂ္ဂဗောဇ္ဈင်္ဂသံယုတ်၌။ ။ရဟန်းတို့။ အကြင်ရဟန်းတို့သည်သီလနှင့်ပြည့်စုံကုန်၏။ သမာဓိနှင့်ပြည့်စုံကုန်၏။ ပညာနှင့်ပြည့်စုံကုန်၏။ ဖိုလ်နှင့် ပြည့်စုံကုန်၏။ ပစ္စဝေက္ခနာဉာဏ်နှင့်ပြည့်စုံကုန်၏။ ထိုရဟန်း တို့အား ရှုခြင်းကိုလည်းငါဘုရားသည်ကျေးဇူးများ၏ဟူ၍ ဟောတော်မူ၏။ နား

ထောင်ခြင်း။ဆည်းကပ်ခြင်း။ အောက်မေ့ခြင်း။ အတုရဟန်းပြုခြင်းတို့ကိုလည်း ငါဘုရားကျေးဇူးများ၏ဟူ၍ဟောတော်မူ၏။ အဘယ့်ကြောင့်နည်းဟူမူကား။ ရဟန်းတို့။ အကြင်ရဟန်းတို့သည် ထိုအခါ တရားတော်ကို ကောင်းစွာ နာရသည် ဖြစ်၍ ကောင်း သော သတိ ဖြစ် သော သတိ သမ္ဗောဇ္ဈင် စသော ဗောဇ္ဈင်ခုနစ်ပါးတို့ကိုကောင်းစွာပွါးခြင်း ပြည့်စုံခြင်းသို့ရောက်၏။ ထိုကြောင့်ထိုစကားကိုငါဘုရားမိန့်အပ်၏ဟူ၍ဟောတော်မူ၏။ ။တနည်းလည်း။ ရဟန်းတို့။ ထိုသို့သဘောရှိသောရဟန်းကိုဖူးမြင်ခြင်း။ဆည်းကပ်ခြင်း။ အောက်မေ့ခြင်း။မေးမြန်းခြင်း။အတုရဟန်းပြုခြင်းသည်လည်း ကျေးဇူးများ၏ဟူ၍ငါဘုရားဟောတော်မူ၏။အဘယ်ကြောင့်နည်းဟူမူကား။ ရဟန်းတို့ ထိုသို့ သဘောရှိသော ရဟန်းတို့ကို မှီဝဲဆည်းကပ် မေးမြန်းသောရဟန်းအား မပြည့်သောသီလ။ မပြည့်သောသမာဓိ။ မပြည့်သောပညာ၊ မပြည့်သောပစ္စဝေက္ခနာ ကျေးဇူးတို့သည်လည်း ပွါးခြင်းပြည့်ခြင်းသို့ရောက်၏။ ထိုအငှကြောင်းကြောင့် ဟောတော်မူသတည်း။ ။ဇာတိဝုတ်စတုက္ကနိပါတ်ပဋ္ဌမဝဂ်သမ္ပန္နသီလသုတ်။ ။ဖူးမြင် ခြင်းသည် မျက်စိဖြင့် မြင်ခြင်း။ ဉာဏ်ဖြင့်မြင်ခြင်းဟူ၍ နှစ်ပါး အပြားရှိ၏။ ထိုနှစ်ပါး တို့တွင် ကြည်ညိုကုန်သောမျက်စိတို့ဖြင့်ရဟန်းတို့ကို ဖူးမြင်ခြင်းသည် မျက်စိဖြင့်မြင်ခြင်းမည်၏။ ဈာန်ဖြင့်ရင်း။မင်္ဂဖိုလ်တို့ဖြင့်ရင်း။ အရိယာတို့သည်မြင်အပ်သောလက္ခဏာကိုမြင်ခြင်း။သိအပ်သောလက္ခဏာကိုသိခြင်းတို့သည် ဉာဏ်ဖြင့် မြင်ခြင်းမည်၏။ ။ဗောဇ္ဈင်သံယုတ်အဋ္ဌကထာ။ ။အရိယာ၏အဖြစ်ကိုပြုတတ်ကုန်သောတရားတို့ကိုရင်း။အရိယာ၏အဖြစ်ကိုရင်း။ ဝိပဿနာမင်္ဂဖိုလ်တို့ဖြင့်ရခြင်းသည် ဉာဏ်ဖြင့်မြင်ခြင်းမည်၏။ ။ဇာတိဝုတ်အဋ္ဌကထာ။ ။ဤအရာ၌ကားမျက်စိဖြင့်မြင်ခြင်းကိုအလိုရှိအပ်၏။ ရဟန်းတို့အားကြည်ညိုကုန်သောမျက်စိတို့ဖြင့် ဖူးမြင်ခြင်းသည်လည်း ကျေးဇူးများ သလျှင်ကတည်း။ နားထောင်

ခြင်းဟူသည်ကား။ ဤမည်သောရဟန္တာသည် ဤမည်သော
ဘိုင်း။ဤမည်သောဇနပုဒ်။ဤမည်သောရွာ။ ဤမည်သောနိဂုံး။
ဤမည်သောကျောင်း။ ဤမည်သောလိုဏ်၌နေ၏ဟူ၍ ပြောဆို
ကုန်သော သူတို့၏စကားကို နားထောင် ခြင်းတည်း။ ထိုနား
ထောင်ခြင်းသည်လည်းကျေးဇူးများသလျှင်ကတည်း။ ဆည်း
ကပ်ခြင်းဟူသည်ကား။ အလှူကိုလှူအံ့။ပြဿနာကိုမေးအံ့။ တ
ရားကိုနာအံ့။ပူဇော်သက္ကာရကိုပြုအံ့။ဤသို့သဘောရှိသောစိတ်
ဖြင့်ရဟန်းတို့သို့ဆည်းကပ်ခြင်းတည်း။ မေးမြန်းခြင်းဟူသည်
ကား။ ရဟန်းတို့၏ကျေးဇူးကိုသိသဖြင့် ဆည်းကပ်၍။ အရှင်
ဘုရား။ ကုသိုလ်သည်ကားအဘယ်နည်း။ ဤသို့ အစရှိသော
နည်းဖြင့် ပြဿနာကိုမေးခြင်းတည်း။ ။ထိုနှစ်ပါးသော အဖွ
ကထာ။ ။အောက်မေ့ခြင်းဟူသည်ကား။ညဉ့်နေရာနေ့နေရာ
အရပ်တို့၌နေလျက်။ညဉ့်ခုအခါရဟန်းတို့သည်ချုံလိုဏ်မဏ္ဍပ်အ
စရှိသည်တို့၌ ဈာန်ဝိပဿနာမဂ်ဖိုလ် ချမ်းသာတို့ဖြင့် လွန်စေ
ကုန်၏ဟူ၍ထိုရဟန်းတို့၏ ဒိဗ္ဗဝိဟာရအစရှိသော ကျေးဇူးအ
ထူးလျှင်အာရုံရှိသောအောက်မေ့ခြင်းတည်း။ တနည်းကား။ထို
ရဟန်းတို့၏အထံမှအကြွင်အဆုံးအမကိုရ၏။ ထိုအဆုံးအမကို
ဆင်ခြင်၍ဤအရာ၌သီလကိုဟော၏။ ဤအရာ၌သမာဓိကိုဟော
၏။ဤအရာ၌ဝိပဿနာကိုဟော၏။ ဤအရာ၌မဂ်ကိုဟော၏။ ဤ
အရာ၌ဖိုလ်ကိုဟော၏ဟု ဤသို့အောက်မေ့ခြင်းတည်း။ ။ဗ္ဗု
တိဂုတ်အဖွကထာ။ ။အတုရဟန်းပြုခြင်းဟူသည်ကား။ ရ
ဟန်းတို့၌ စိတ်ကိုကြည်ညိုစေ၍. ထိုရဟန်းတို့၏အထံ၌ ရဟန်း
ပြုခြင်းတည်း။ ထိုသို့အတုရဟန်းပြုကုန်သောသူတို့တွင်ရှေးဦး
စွာ မဟာကဿပမထေရ်၏ အတုရဟန်းပြုကုန်သော သူတို့
သည် တထောင် အတိုင်းအရှည်ရှိကုန်၏။ မဟာကဿပ မ
ထေရ်၏လျှင် သဒ္ဓိဝိဟာရိကတပည့်ဖြစ်သော စန္ဒဂုတ္တမထေရ်
၏အတုရဟန်းပြုကုန်သောသူတို့သည်လည်း ထိုအတူလျှင်တ
ထောင်အတိုင်းအရှည်ရှိကုန်၏။ စန္ဒဂုတ္တမထေရ်၏သဒ္ဓိဝိဟာရိ

ကတပည့်ဖြစ်သော ယောနက ဓမ္မရက္ခိတ မထေရ်၏ အတူရဟန်းပြုကုန်သောသူတို့သည်လည်း ထိုအတူလျှင်တထောင်အတိုင်းအရှည်ရှိကုန်၏။ ယောနကဓမ္မရက္ခိတမည်သောမထေရ်၏ သဒ္ဓိဝိဟာရိက တပည့်သည်ကား ဓမ္မာသောကမင်း၏ ညီတော်တိဿမထေရ်တည်း။ ထိုတိဿမထေရ်၏အတူရဟန်းပြုကုန်သော သူတို့သည်ကား နှစ်ကုဋေ ငါးသန်းရှိကုန်၏။ မဟိန္ဒမထေရ်၏အတူရဟန်းပြုကုန်သောသူတို့၏ အရေအတွက်အပိုင်းအခြားသည်မရှိ။ ထိုစကားသည်မှန်၏။ ယနေ့ထက်တိုင်အောင်သီဟိုဠ်ကျွန်း၌ဘုရားအားကြည်ညိုသဖြင့် ရဟန်းပြုကုန်သောသူတို့သည်မဟိန္ဒမထေရ်၏အတူရဟန်းပြုသည်မည်ကုန်၏။ ။ဗောဇ္ဈင်္ဂသံယုတ်အဋ္ဌကထာ။ ။ထို့ကြောင့်ရဟန်းတို့ကိုမြင်၍ အယုတ်သဖြင့်လည်း ကြည်ညိုသောစိတ်ဖြင့် သာကြည့်အပ်ဖူးမြင်အပ်ကုန်၏။ ထိုအဋ္ဌကထာ၌အစီးအပွါးကိုအလိုရှိသောအမျိုးသားသည် အိမ်တံခါးသို့ရောက်လာကုန်သောသီလရှိကုန်သောရဟန်းကိုဖူးမြင်၍။ လှူဘွယ်ဝတ္ထုသည်အကယ်၍ရှိသော်ဖြစ်အံ့အစွမ်းအလျောက် လှူဘွယ်ဝတ္ထုဖြင့်ပူဇော်အပ်၏။ လှူဘွယ်ဝတ္ထုသည်အကယ်၍မရှိသည်ဖြစ်အံ့။ ငါးပါးသောတည်ခြင်းကိုပြု၍ ရှိခိုးဖူးမြင်အပ်ကုန်၏။ ထိုရှိခိုး ခြင်းသည် မပြည့်စုံလတ်သော်လက်အုပ်ချီသဖြင့်ရှိခိုးဖူးမြင်အပ်ကုန်၏။ ထိုရှိခိုးခြင်းသည်လည်းမပြည့်စုံလတ်သော်ကြည်ညိုသောစိတ်ဖြင့်ချစ်သည်၏အဖြစ်ကို ပြတတ်ကုန်သောမျက်စိတို့ဖြင့် ကောင်းစွာဖူးမြင်အပ်ကုန်၏။ ဤသို့ရဟန်းတို့အားဖူးမြင်ခြင်းလျှင်အမှုရှိသောကုသိုလ်ဖြင့်လည်း များစွာကုန်သော ဘဝ အထောင်တို့ပတ်လုံးမျက်စိ၌ရောဂါတို့သည်၎င်း။ ဒေါသတို့သည်၎င်း။ အသားတက်ခြင်းတို့သည်၎င်း။ အိုင်းအမာပေါက်ခြင်း တို့သည်၎င်းမဖြစ်ကုန်။ မျက်စိတို့သည်အထူးသဖြင့်ကြည်လင်ကုန်သည်။ ငါးပါးကုန်သော အဆင်းတို့ဖြင့်တင့်တယ်ကုန်သည်ဖြစ်၍။ ရတနာဗိမာန်၌ဖွင့်အပ်ကုန်သော ပတ္တမြားလေသာတံခါးရွက်နှင့်

တူကုန်၏။ကမ္ဘာတသိန်းပတ်လုံးနတ်ပြည်လူ့ပြည်တို့၌ခပ်သိမ်း ကုန်သောစည်းစိမ်တို့ကိုရကုန်၏။အကြွင်းကြောင့်ပညာအဆင် အခြင်နှင့် ပြည့်စုံသော သဘောရှိသော လူဖြစ်၍ ဖြစ်သောသူ သည်ကောင်းစွာဖြစ်စေအပ်သောရဟန်းတို့ကို ဖူးမြင်ခြင်းဖြင့် ပြီးသောကုသိုလ်ဖြင့် ဤသို့ သဘော ရှိသော ကောင်းကျိုး ၏ ပြည့်စုံခြင်းကိုခံစားရော၏။ ။ထိုခံစားရခြင်းသည်အံ့ဘွယ်မရှိ သေး။ အကြွင်းဒသသနမင်္ဂလာ၌တိရစ္ဆာန်တို့၏လည်းသက်သက် သန္တါခြင်းမျှသည်ဖြစ်စေ အပ်သော ရဟန်းတို့အား ဖူးမြင်ခြင်း ကုသိုလ်၏ ဤသို့သောကောင်းကျိုးဖြင့် ပြည့်စုံခြင်းကို ချီးမွမ်း အပ်ကုန်၏ဟုဆို၏။ ။ဤအဓ္ဓကထာ၌ ဤသို့ဆိုသောကြောင့် ကျမ်းတပါး၌လာကုန်သောဂါထာတို့ကိုလည်းပြအပ်ကုန်၏။ ။ မူလပဏ္ဏာသအဓိပ္ပါယ်သီဟနာဒသုတ်အဓ္ဓကထာ၌ကား။ ။ မြတ်စွာဘုရားသည် ဝေဒိယတောင် ဣန္ဒသာလလိုဏ်၌သီတင်း သုံးတော်မူသတတ်။ ထိုအခါတခုသော ခင်ပုတ် ငှက်သည်။ မြတ်စွာဘုရားသည် ရွာသို့ဆွမ်းခံ ဝင်တော်မူသည် ရှိသော်။ လမ်းထက်ဝက်တိုင်အောင်ပို့လိုက်၏။ ရွာမှထွက်တော်မူသည် ရှိသော်လမ်းထက်ဝက် တိုင်အောင်ကြိုဆို၏။ ထိုခင်ပုတ်ငှက် သည်တနေ့သ၌ညချမ်းအခါရဟန်းသံဃာခြံရံလျက်နေတော်မူ သောမြတ်စွာဘုရားကို တောင်မှသက်၍ရှိခိုးလျက် အတောင် တို့ကိုညွတ်သဖြင့်လက်အုပ်ချီ၍ဦးခေါင်းကိုအောက်သို့ချလျက် မြတ်စွာဘုရားသို့ညွတ်သောစိတ်ဖြင့်တည်၏။ မြတ်စွာဘုရား သည်ထိုခင်ပုတ်ငှက်ကို ကြည့်တော်မူ၍ပြုံးတော်မူ၏။ အရှင် အာနန္ဒာ မထေရ် သည်။ အရှင်ဘုရား။ ပြုံးတော်မူခြင်း၏ အ ကြောင်းကားအဘယ်နည်းဟုလျှောက်လတ်သော်။ အာနန္ဒာ။ဤ ခင်ပုတ်ငှက်ကို ကြည့်လော့။ ဤခင်ပုတ်ငှက်သည် ငါဘုရား၌ ၎င်း။ သံဃာ၌၎င်းစိတ်ကိုကြည်ညိုစေ၍။ ကမ္ဘာတသိန်းတို့ပတ် လုံးနတ်ပြည်လူ့ပြည်ကျင်လည်၍ သောမနဿမည်သောပစ္စေ ကဗုဒ္ဓါဖြစ်လတ့်ဟုမိန့်တော်မူ၏။ ။ဥလုကမဏ္ဍလက္ခိကာ၊ဝေဒိ

ယကောစိရန်ဒီဃဝါသိက။သုခိတောသိတွံအယျကောသိယ။ကာ
လုဍ္ဍိတံပသသသိဗုဒ္ဓဝရံ။ ။မယိစိတ္တံပသာဒေတွာ။ ဘိက္ခုသံ
ဃေအနုတ္တရေ။ ကပ္ပါနံသတသဟဿာနိ။ ဒုဂ္ဂတိံသောနဂ္ဂ
တိ။ ဒေဝလောကာစဝိတွာန။ ကုသလမူလေနစောဒိတော။ ဘ
ဝိဿတိအနန္တဉာဏော။ သောမနသောတိပိဿုတော။ ။
ဟူ၍မိန့်ဆို၏။ ။တဒါ။ထိုအခါ၌။ ရက္ခဒေဝတာ။ ရက္ခစိုးနတ်
သည်။မဏ္ဍလက္ခိကာ။ဝန်းသောမျက်စိရှိသော။ဝေဒိယကော။ဝေ
ဒိယတောင်၌။ စိရဒီဃဝါသိက။အခါလေးမြင့်နေသော။ ကော
သိယ။ကောသိယအနွယ်ဖြစ်သော။အယျဉလူက။ အရှင်ခင်ပုတ်
ဌက်။တွံ။သင်သည်။ကာလုဍ္ဍိတံ။ညချမ်းအခါနေ့သန့်တော်မူရာ
မှထသော။ဗုဒ္ဓဝရံ။ ဘုရားမြတ်ကို။ပသသသိ။ဖူးမြင်၏။ တွံ။သင်
သည်။သုခိတော။ချမ်းသာခြင်းသို့ရောက်သည်။ အသိ။ဖြစ်၏။ဗုဒ္ဓ
တိ။ဤသို့။အာဟ။ဆို၏။ ။အာနန္ဒ။အာနန္ဒာ။ယေသော။ ဤခင်ပုတ်
ဌက်သည်။အနုတ္တရေ။မိမိထက်မြတ်သောသူမရှိသော။ မယိဝ။
ငါဘုရား၌၎င်း။ ဘိက္ခုသံဃေစ။ရဟန်းသံဃာ၌၎င်း။စိတ္တံ။စိတ်
ကို။ပသာဒေတွာ။ကြည်ညိုစေ၍။ ကပ္ပါနံ။ကမ္ဘာတို့၏။သတသ
ဟဿာနိ။တသိန်းတို့ပတ်လုံး။ဒုဂ္ဂတိံ။ဒုဂတိသို့။နဂစ္ဆတိ။မလား
လတံ့။ဒေဝလောကာ။နတ်ပြည်မှ။ စဝိတွာန။စုတေ့၍။ကုသလ
မူလေန။ ကုသိုလ်ရင်းသည်။ စောဒိတော။ နှိုးဆော်အပ်သည်
ဖြစ်၍။ သောမနသောတိ။ သောမနဿဟူ၍။ ဝိဿုတော။
ကျော်စော ထင်ရှားသော။ အနန္တဉာဏော။ အဆုံးမရှိသော
ဉာဏ်နှင့်ပြည့်စုံသော ပစ္စေကဗုဒ္ဓါသည်။ ဘဝိဿတိ။ ဖြစ်လ
တံ့။ဣတိ။ ဤသို့။ ဘဂဝါ။ မြတ်စွာဘုရားသည်။ အာဟ။ ဟော
တော်မူ၏။ ။(ခင်ပုတ်ဌက်ဝတ္ထု)။ ။ထို့ကြောင့်ရဟန်းတို့
ကိုဖူးမြင်သောသူသည်ကုသိုလ်စိတ်ကိုသာဖြစ်စေအပ်၏။ ဖြစ်
မှားသောစိတ်ကိုမဖြစ်စေအပ်။ ထိုရဟန်းတို့အား စိတ်ဖြင့်၎င်း
နှုတ်ဖြင့်၎င်း ကိုယ်ဖြင့်၎င်းကိုင်းညွတ်ရှိသောခြင်းနှင့်တကွဖူးမြင်
ရခြင်းသည်ပစ္စုပ္ပန်၌၎င်းသံသရာ၌၎င်းချမ်းသာခြင်း အကျိုးမီး

ပွါးများသည်၏အဖြစ်ကြောင့်။ ထိုဒသနတည်းဟူသောသီလ သမာဓိပညာနှင့် ပြည့်စုံသော ပုထုဇဉ် ရဟန်းအားရင်း။ ရှစ် ယောက်သော အရိယာသသာဝကတော်တို့အားရင်း ဖူးမြင်ရခြင်း သည်မင်္ဂလာမည်၏။

---

## ၁၀။ သင့်လျော်သောအခါ၌တရားဆွေးနွေးမေး မြန်းခြင်း-ကာလေနဓမ္မသာကစ္ဆာမင်္ဂလာ။

ညဉ့်ဦးယံ၌ရင်း။ မိုးသောက်ထ၌ ရင်း။ နှစ်ပါးကုန်သော သုတ္တန်ကိုဆောင်ကုန်သောရဟန်းတို့သည် အချင်းချင်း သုတ္တန် ကို ဆွေးနွေးကုန်၏။ ဝိနည်းကို ဆောင်ကုန်သော ရဟန်း တို့ သည်ဝိနည်းကိုဆွေးနွေးကုန်၏။အဘိဓမ္မာကိုဆောင်ကုန်သော ရဟန်းတို့သည်အဘိဓမ္မာကိုဆွေးနွေးကုန်၏။ ဇာတ်ကိုဆောင် ကုန်သောရဟန်းတို့သည် ဇာတ်ကို ဆွေးနွေးကုန်၏။ အဋ္ဌက ထာကိုဆောင်ကုန်သောရဟန်းတို့သည် အဋ္ဌကထာကို ဆွေး နွေးကုန်၏။ ဤသည်ကားကာလေနဓမ္မသာကစ္ဆာမည်၏။ ဓာ နည်းကား။ အကြင်အခါ၌စိတ်သည်တွန့်၏။ အကြင်အခါ၌စိတ် သည်ပျံ့လွင့်၏။ အကြင်အခါ၌စိတ်ကိုဝိစိကိစ္ဆာသည် နှိပ်စက် ၏။ထိုထိုအခါ၌ တွန့်ခြင်းပျံ့လွင့်ခြင်းယုံမှားခြင်းသည် နှိပ်စက် သောစိတ်ကိုသုတ်သင်အံ့သော၌ါတရားကိုဆွေးနွေးကုန်၏။ဤ သည်ကားကာလေနဓမ္မသာကစ္ဆာမည်၏။ထိုကာလေနဓမ္မသာ ကစ္ဆာသည်ပရိယတ်၏ ထင်ခြင်းအစရှိကုန်သောကျေးဇူးတို့၏ အကြောင်းဖြစ်သောကြောင့် မင်္ဂလာမည်၏။ ။မင်္ဂလသုတ် အဋ္ဌကထာ။ ။ဒုကအင်္ဂုတ္တိုရ်အဋ္ဌကထာ၌ကား။လျောက်ပတ် သင့်တင့်သောကာလ၌ ပြဿနာမေးခြင်း။ ဖြေခြင်း၏အစွမ်း အားဖြင့်ဖြစ်သောတကွဆွေးနွေးပြောဟောခြင်းသည်ကာလေ နဓမ္မသာကစ္ဆာမည်၏ဟုမိန့်အပ်၏။ ။ကာလေနဟူသောပုဒ် ၏အရကာလဟူသည်ကား။အကာလချနှစ်ပါး။ အခွင့်မသောင်း

ဘဲမေးခြင်းနှင့်တကွရှစ်ပါးသောအပြစ်မှကင်းလွတ်သောအခါ သည်လျောက်ပတ်သောကာလမည်၏။ ထိုလျောက်ပတ်သော ကာလ၌မေးသောသူအားဖြေကြားအပ်၏။ ရှစ်ပါးသောအကာ လအပြစ်ကိုမသိဘဲလွန်ကျူး၍ မေးသောသူသည် ပဋိပဒါကျင့် ဝတ်တရားမြတ်၌ ကောင်းစွာ မတည် သောသူ မည်၏။ ထို့ ကြောင့်တိကအင်္ဂုတ္တိုရ်အဋ္ဌကထာ၌။ ။အယံပဉှောနာမစေ တိယင်္ဂဏေ ပုစ္ဆိတေနနကထေတဗ္ဗော။ တထာဘိက္ခာစာရ မဂ္ဂေ။ ဂါမေပိဏ္ဍာယစရဏကာလေ။ အာသနသာလာယ နိ သိန္နကာလေ။ ယာဂုံဝါဘတ္တံဝါ ဂဟေတွာ နိသိန္နကာလေ။ ပရိ ဘုဉ္ဇိတွာနိသိန္နကာလေ။ ဒိဝါဝိဟာရဋ္ဌာနဂမနကာလေပိ။ ဒိဝါ ဋ္ဌာနေ နိသိန္နကာလေပန ဩကာသံကာရေတွာ ပုစ္ဆန္တဿက ထေတဗ္ဗော။ အကာရေတွာပုစ္ဆန္တဿနကထေတဗ္ဗော။ ဇာနိ ဝတ္တံအဇာနိတွာပုစ္ဆန္တော ပဋိပဒါယနသဏ္ဌာတိနာမ။ ။ဟု မိန့်အပ်၏။ ။ပုစ္ဆိတေန၊ မေးအပ်သော ပရိဟာရ ပုဂ္ဂိုလ် သည်။ အယံပဉှောနာမ။ ဤပြဿနာမည်သည်ကို။ စေတိယင် ဂဏေပိ။ စေတီရင်ပြင်၌လည်း။ ပုစ္ဆန္တဿ။ မေးသော စော ဒကအား။နကထေတဗ္ဗော။မဟောအပ်။ မဖြေအပ်။ တထာ။ထို အတူ။ဘိက္ခာစာရမဂ္ဂေပိ။ ဆွမ်းခံသွားသောခရီး၌ရင်း။ ဂါမေ။ ရွာတွင်း၌။ ပိဏ္ဍာယစရဏကာလေပိ။ ဆွမ်းခံသွားဆဲကာလ၌ ရင်း။အာသနသာလာယ။ဆွမ်းစားဇရပ်၌။နိသိန္နကာလေပိ။ နေ သောအခါ၌ရင်း။ယာဂုံဝါ။ယာဂုကိုရင်း။ဘတ္တံဝါ။ ဆွမ်းကိုရင်း။ ဂဟေတွာ။ယူ၍။နိသိန္နကာလေပိ။နေသောအခါ၌ရင်း။ ပရိဘုဉ္ဇိ တွာ။စား၍။နိသိန္နကာလေပိ။နေဆဲအခါ၌ရင်း။ ဒိဝါဝိဟာရဋ္ဌာန ဂမန ကာလေပိ။ နေ့သန့်ရာ အရပ်သို့ သွား ဆဲအခါ၌ ရင်း။ ပုစ္ဆန္တဿ။မေးသောစောဒကအား။နကထေတဗ္ဗော။ မဟော မဖြေအပ်။ပန။လျောက်ပတ်သောကာလကိုပြဆိုဦးအံ့။ ဒိဝါဋ္ဌာ နေ။ နေ့သန့်ရာအရပ်၌။ နိသိန္နကာလေ။ ထိုင်နေသော အခါ၌၊ ဩကာသံ။အခွင့်ကို။ကာရေတွာ။ပြုစေ၍။ဝါ။ အခွင့်တောင်း၍၊

ပုစ္ဆိတဿ။မေးသောစောဒကအား။ကထေတဗ္ဗော။ဟောအပ်
ဖြေအပ်၏။ အကာရေတွာ၊ အခွင့်မတောင်းမှု၍။ ပုစ္ဆိတဿ။
မေးသော စောဒကအား။ နကထေတဗ္ဗော။ မဟောမဖြေအပ်။
ဣဒံဝတ္တံ။ ဤသို့အပ်ခဲ့ ပြီးသောဝတ်ကို။ အဇာနိတွာ။ မသိမှု၍။
ပုစ္ဆန္တော။မေးသောစောဒကသည်။ပဋိပဒါယ။ကျင့်ဝတ်တရား
၌။နသဏ္ဌာတိနာမ။ ကောင်းစွာမတည်သောသူမည်၏။ ။ဤ
သို့မေးလျှောက်တတ်သော စောဒကတို့၏ လျှောက်ပတ်သော
ကာလ။ အခွင့်ကိုရသဖြင့်ကျင့်ဝတ်နှင့်ညီစွာမေးလျှောက်ခြင်း
သည်မြတ်သောမင်္ဂလာကောင်းစွာဖြစ်၏ဟုမှတ်။ ။ဖြေကြား
တတ်သော ပရိဟာရ်ပုဂ္ဂိုလ်သည်လည်း ဧကံသဗျာကရဏ
ပဉှာ။ ဝိဘဇ္ဇဗျာကရဏပဉှာ။ ပဋိပုစ္ဆာဗျာကရဏပဉှာ။ ဌပနီ
ယပဉှာ။ဤလေးပါးကိုဉာဏ်ဖြင့်ပိုင်းခြား၍ပြဿနာအားလျော်
စွာဖြေအပ်၏။ ထိုလေးပါး တို့တွင်။ ။စက္ခုံ။ စက္ခုပသာဒ
သည်။ အနိစ္စံ။ အမြဲမရှိသည်မဟုတ်လော။ ဤသို့ မေးသည်ရှိ
သော်။အာမအနိစ္စံ။အမြဲမရှိသည်မှန်၏။ဤသို့ဟုတ်မှန်တိုင်းဝန်ခံ
၍ဖြေအပ်သော ပြဿနာသည်။ ဧကံသဗျာကရဏ ပဉှာမည်
၏။ ။အနိစ္စံနာမ။ အမြဲမရှိသောသဘောမည်သည်။ စက္ခုံ။
စက္ခုပသာဒသာလော။ ဤသို့မေးသည် ရှိသော်။ စက္ခုမေဝ။
စက္ခုပသာဒ သည်သာလျှင်။ န။ အမြဲမရှိသည် မဟုတ်သေး။
သောတံပိ။သောတပသာဒသည်လည်း။အနိစ္စံ။အမြဲမရှိ။ ဃာနံ
ပိ။ဃာနပသာဒသည်လည်း။အနိစ္စံ။ အမြဲမရှိ။ ဤသို့အစရှိသည်
ဖြင့်ဝေဘန်၍ ဖြေအပ်သော ပြဿနာသည် ဝိဘဇ္ဇဗျာကရဏ
ပဉှာမည်၏။ ။ယထာစက္ခု။အကြင်သို့သောအခြင်းအရာအား
ဖြင့် စက္ခုသည်ဖြစ်၏။ တထာသောတံ။ ထိုစက္ခုဖြစ်သောအ
ခြင်းအရာ အားဖြင့်။ သောတဖြစ်သလော။ ဤသို့ မေးသည်ရှိ
သော်။ ကေနဋ္ဌေန။ အဘယ်သို့သော အနက်သဘောဖြင့်။ တွံ။
သင်စောဒက သည်။ ပုစ္ဆသိ။ မေးသနည်း။ ဤသို့ပုစ္ဆာတုံ့မေး
အပ်၏။ ။ဒဿနဋ္ဌေန။ရူပါရုံကိုမြင်တတ်သောအနက်သဘော

အားဖြင့်။အဟံ၊ငါစောဒကသည်။ပုစ္ဆာမိ။မေး၏။ဤသို့စောဒကဆိုသည်ရှိသော်။ ။နဟိ။နဝေ။ စက္ခုဖြစ်သောဒဿနအခြင်းအရာအားဖြင့်သောတမဖြစ်။ဤသို့ဖြေဆိုအပ်၏။ ။အနိစ္စဖြေ့၊အမြဲမရှိသောသဘောအါးဖြင့်။အဟံ။ငါစောဒကသည်။ပုစ္ဆာမိ၊မေး၏၊ဤသို့စောဒကဆိုသည်ရှိသော်။အာမ။အမှောင်စောဒကဆိုတိုင်းစက္ခုဖြစ်သောအနိစ္စအခြင်းအရာအား ဖြင့်သောတဖြစ်၏။ ။ဤသို့ပုစ္ဆာတုံ့မေး၍ ဖြေအပ်သော ပြဿနာသည်၊ ပဋိပုစ္ဆာ ဗျာကရဏပဉ္ဇာ မည်၏။ ။တံဇီဝံ။ ထိုအသက်သည်၊ တံသရီရံ၊ ထိုကိုယ်ပင်လော။ ဤသို့အစ ရှိသဖြင့် မေးသည်ရှိသော်။ ။ဧတံ။ ဤသင်မေး သော သဘောကို။ ဘဂဝတာ၊ မြတ်စွာဘုရားသည်။အဗျာကတံ။မဟော။ ဤသို့ဆို၍ ထားအပ်မဖြေကြားအပ်သောပြဿနာသည်။ ဌပနီယပဉ္ဇာမည်၏။ ။တိကအင်္ဂုတ္တိုရ်၊ အဋ္ဌကထာလာ။ ။ဤသို့စောဒက ပရိဟာရ်တို့၏ အင်္ဂါလက္ခဏာတို့ကို ညီညွတ်စွာနှုံးသွင်း၍ ဆွေးနွေးမေးမြန်းခြင်းသည်။မသိသေးသောတရားတို့ကိုသိရခြင်း။သိပြီးသောတရားတို့သည်လည်း ဥာဏ်အားရှေ့ရှုထင်ခြင်း။ ယုံမှားကိုပယ်ရခြင်း။မတွေမဝေသောရခြင်း။ သေပြီးသောအခြားမဲ့၌ သုဂတိဘဝသို့ ရောက်ရခြင်း။ ဤသို့အစရှိသော အကျိုးစီးပွါးများခြင်း၏အကြောင်းဖြစ်၍မင်္ဂလာမည်၏။

---

## ၃၁။ မြိုးခြိစွာကျင့်ခြင်း–တပေါမင်္ဂလာ။

တပေါစဟူသောပါဌ်၌။တပဟူသည်ကား။ အဘိဇ္ဈာဒေါမနဿ အစရှိကုန်သော အကုသိုလ်တရားတို့ကို ပူပန်စေတတ်ဖျက်ဆီးတတ်သော ဣန္ဒြိယသံဝရတည်းဟူသောသတိတရားတည်း။ ။ဘနည်းကား။ပျင်းရိဆုတ်နစ်တတ်သောကောသဇ္ဇကိုပူပန်စေတတ်သောဝီရိယတရားတည်း။ ။ထိုနှစ်ပါးတို့တွင်ဣန္ဒြိယသံဝရဟူသည်ကား။ သတိသံဝရတည်း။ ထိုသတိ

သံဝရသည်လည်း။ အနက်သဘောအားဖြင့် သတိတရားကိုယူ အပ်၏။ ။မူလပရိယာယသုတ်ဋီကာ၌ကား။ ဤအနက်သဘော ကိုပင် မိန့်တော်မူအပ်၏။ ။သဗ္ဗာသဝသုတ် အဋ္ဌကထာ ၌ လည်း။ ။သံဝရဏာတောသံဝရော။ ပိဒဟနတော ထကန တောတိဝုတ္တံဟောတိ။သတိယာဧတံ အဓိဝစနံ။ ။ဟုမိန့်တော် မူအပ်၏။ ။သံဝရဏာတော။ စက္ခုစသောဋ္ဌာနြွေကိုစောင့်ရှောက် တတ်သည်၏ အဖြစ်ကြောင့်။ သံဝရော။ သံဝရမည်၏။ပိဒဟန တော ထကနတော။ အဘိဇ္ဈာ ဒေါမနဿ အစရှိကုန်သော အ ကုသိုလ်တရားတို့ကို ပိတ်တတ်သည်၏ အဖြစ်ကြောင့်။ ဣတိ။ ဤသို့။ဝုတ္တံဝုတ္တာ။ဆိုလိုသည်။ဟောတိ။ဖြစ်၏။ဧတံ။ ထိုသံဝရ ဟူသောအမည်သည်။သတိယာ။သတိတရား၏။ အဓိဝစနံ။ အ မည်တည်း။ ။စက္ခုအစရှိသော ဋ္ဌာနြွေကို စောင့်ခြင်းသည် အဘိဇ္ဈာဒေါမနဿအစရှိကုန်သော အကုသိုလ်တရားယုတ်တို့ သည် မနှိပ်စက် နိုင်ခြင်း အကျိုးရှိကုန်၏။ ထိုကြောင့်။ စတု အင်္ဂုတ္တိုရ်ပဌမ ပဏ္ဏာသကစတုတ္ထဝဂ်၌။ ။ချစ်သားတို့။ အ ဘယ်သို့လျှင်ရဟန်းသည် မနြွေလျှင်ခြောက်ချခြောက် ရှိကုန် သောဋ္ဌာနြွေတို့၌ ပိတ်အပ်သော ဒွါရ ရှိကုန်သနည်း ဟူမူကား။ ချစ်သားတို့။ ဤသာသနာတော်၌။ သတိနှင့်ပြည့်စုံသောရဟန်း သည်။ စက္ခု ဝိညာဉ်စိတ်ဖြင့် ရူပါရုံကိုမြင်သည်ရှိသော်။ ကိ လေသာ၏တည်ရာဖြစ်သော။ မိန်းမယောကျ်ားတို့၏ သဏ္ဌာန် ကိုဝင်း။တင့်တယ်၏ဟူသောသုဘနိမိတ်ကိုဝင်း။အာရုံမပြုနှလုံး ဖြင့်မယူ။ ကိလေသာတို့၏မြဲစွာဖွဲ့လမ်းခြင်း ထင်ရှားခြင်းကိုပြု တတ်သော။ လက်ခြေသဏ္ဌာန် ကိုယ်ဟန် နွဲ့ပျောင်း စောင်းငဲ့ ပြုံးရယ်ခြင်း အစရှိသော အမူအရာအပြု။ အနုဗျဉ္ဇန နိမိတ်တို့ ကိုအာရုံမမူ။မယူမှတ်။ရူပါရုံသာမညအဖြစ်၌သာစိတ်ကိုတည် စေ၍။သတိတည်းဟူသောတံခါးရွက်ဖြင့်ပိတ်အပ်သော စက္ခု ဒွါရ ရှိသည်ဖြစ်၍ နေလေ့ရှိသောရဟန်းကို။ အကြင်စက္ခုြွေ ကိုမစောင့်ခြင်းကြောင့် ဖြစ်ကုန်သောအဘိဇ္ဈာဒေါမနဿအစ

ရှိကုန်သောအကုသိုလ်တရားတို့သည် အစဉ်မလိုက် မနှိပ်စက်နိုင်ကုန်။ ဤသို့ကျင့်လေ့ရှိသောရဟန်းသည် စက္ခုန္ဒြေ၌ သတိတည်းဟူသော တံခါးရွက်ဖြင့် ပိတ်အပ်ပြီးသောဒွါရ ရှိသည်ဖြစ်၍နေသောရဟန်းမည်၏။ ။ထိုအတူ။ သောတဝိညာဉ်ဖြင့် သဒ္ဒါရုံကိုကြားသည်ရှိသော်။ ဃာန ဝိညာဉ်ဖြင့် ဂန္ဓာရုံကို နမ်းသည်ရှိသော်။ ဇိဝှါ ဝိညာဉ်ဖြင့် ရသာ ရုံကို ခံစားသည် ရှိသော်။ ကာယ ဝိညာဉ်ဖြင့် ဖေါဋ္ဌဗ္ဗာ ရုံကိုတွေ့သည်ရှိသော်။ မနောဝိညာဉ်ဖြင့်ဓမ္မာရုံကို သိလိုသည်ရှိသော်။ ကိလေသာ၏ တည်ရာဖြစ်သော မိန်းမ ယောကျ်ား တို့၏အသံစသည်ကိုပိုင်းခြား၍ဥင်း။ တင့်တယ်ကောင်းမြတ်၏ ဟူသောသုဘနိမိတ် ကိုဥင်း။ အာရုံမယူမှတ်။ ကိလေသာ တို့၏ မြဲမြံစွာ လမ်းတင်ရှားခြင်းကိုပြုတတ်သော သဒ္ဒဟူသောရုပ်၏ ပြေပြစ်ခြင်းအသံနွဲ့လျှခြင်း အစရှိသော။ အနုဗျဉ္ဇန နိမိတ်တို့ကိုမယူ။ အာရုံသာမညအဖြစ်၌သာ စိတ်ကိုတည်စေ၍။ သတိတည်းဟူသော တံခါးရွက်ဖြင့် ပိတ်အပ်သော။ သောတ စသောဒွါရရှိသည်ဖြစ်၍နေလေ့ရှိသောရဟန်းကို။ အကြင်သောတစသောဣန္ဒြေကို မစောင့်ခြင်းကြောင့် ဖြစ်ကုန်သော။ အဘိဇ္ဈာ ဒေါမနဿအစရှိကုန်သောအကုသိုလ်တရားတို့သည် အစဉ်လိုက်၍ မနှိပ်စက်နိုင်ကုန်။ဤသို့ကျင့်လေ့ရှိသောရဟန်းသည်။ သောတအစရှိကုန်သော ဣန္ဒြေတို့၌။ သတိတည်းဟူသော တံခါးရွက်ဖြင့်ပိတ်အပ်ပြီးသောဒွါရရှိသော ရဟန်းမည်၏။ ။ချစ်သားတို့ ဤသို့ဆိုအပ်ခဲ့ပြီးသောနည်းဖြင့်ကျင့်သောရဟန်းသည် မနိန္ဒြေ လျှင်ခြောက်ခုမြောက်ရှိကုန်သောဣန္ဒြေတို့၌ ပိတ်အပ်ပြီးသောဒွါရရှိ၏။ ။ဤသို့ဘုရားဟောတော်မူ၏။ ။အပရိဟာနိယသုတ်ပါဠိတော်။ ။ထိုဣန္ဒြေတို့၌ ပိတ်အပ်သောဒွါရရှိသော သတိတရား နှင့်ပြည့်စုံသော စောင့်ရှောက်ခြင်း သည်လည်း ဟိရိ ဩတ္တပ္ပ ဟူသော ဥပနိဿယ ရှိ၏။ ထိုကြောင့်။ သဠာ အင်္ဂုတ္တိုရ် ဒုတိယ ပဏ္ဏာသက ဒုတိယ ဝဂ်၌။ ။ရဟန်းတို့

ဥပမာ မည်သည်ကား။ အခက်အရွက် ချွတ်ခဲ့သော သစ်ပင်၌။ အဖွေး အခွံ အကာ အနှစ် အပွင့်အသီးတို့၏ ပြည့်စုံခြင်းသို့မရောက်။ ရဟန်းတို့။ ထိုအတူသျှင်။ ဟိရိဩတပ္ပမရှိသော်။ ထိုဆိုအပ်ခဲ့ ပြီးသော မနိန္ဒြေသျှင် ခြောက်ချမြောက်ရှိကုန်သောဣန္ဒြေတို့ကို စောင့်ရှောက် ခြင်းမဖြစ်။ ဟိရိဩတပ္ပနှင့် ပြည့်စုံသော သူအားသာသျှင်။ ထိုသို့ ဆိုအပ်ခဲ့ပြီးသော ဣန္ဒြေ တို့ကို စောင့်ရှောက်ခြင်းအကြောင်းရှိ၍။ ထိုဣန္ဒြေကို စောင့်ရှောက်ခြင်းလွတ်သော်သီလသည်မဖြစ်။ ဣန္ဒြေကိုစောင့်ရှောက်ခြင်းနှင့်ပြည့်စုံသော်သီလသည်ဖြစ်၏။ သီလသည်မရှိသော်သမာဓိသည်မဖြစ်။ သီလနှင့်ပြည့်စုံသောသူအား သမာဓိသည်ဖြစ်၏။ ဤသို့အစရှိသော လောကုတ္တရာပဋိစ္စသမုပ္ပါဒ်ကိုဟောတော်မူလိုသောမြတ်စွာဘုရားသည်။ သီလဝိသုဒ္ဓိအရာ၌။ ။သီလဝိသုဒ္ဓိ။ အဝိပ္ပဋိ သာ ရတ္ထာယ ဟော တိ။ အဝိပ္ပဋိ သာရော ပါမောဇ္ဇတ္ထာယဟောတိ။ ပါမောဇ္ဇံပီတတ္ထာယ ဟောတိ။ ပီတိ ပဿဒ္ဓတ္ထာယဟောတိ။ ပဿဒ္ဓိ သုခတ္ထာယဟောတိ။ သုခံသ သမာဓတ္ထာယဟောတိ။ သမာဓိ ယထာဘူတ ဉာဏတ္ထာယဟောတိ။ ယထာဘူတဉာဏံနိဗ္ဗိဒါတ္ထာယဟောတိ။ နိဗ္ဗိဒါဉာဏံ ဝိရာဂတ္ထာယဟောတိ။ ဝိရာဂေါဝိမုတ္တတ္ထာယဟောတိ။ ဝိမုတ္တိ ဝိမုတ္တိဉာဏ ဒဿနတ္ထာယဟောတိ။ ဝိမုတ္တိဉာဏဒဿနံ အနုပါဒိသေသနိဗ္ဗာနတ္ထာယဟောတိ။ ။ဟူ၍ဟောတော်မူ၏။ ။

ဘိက္ခဝေ။ရဟန်းတို့။သီလဝိသုဒ္ဓိ။ သီလ၏စင်ကြယ်ခြင်းသည်။ အဝိပ္ပဋိသာရတ္ထာယ။ စိတ်၏ ရှင်လန်းခြင်းအကျိုးငှါ။ ဟောတိ။ ဖြစ်၏။ အဝိပ္ပဋိ သာရော။ စိတ်၏ ရှင်လန်း ခြင်း သည်။ ပါမောဇ္ဇတ္ထာယ။ဝမ်းမြောက်ခြင်းအကျိုးငှါ။ ဟောတိ။ဖြစ်၏။ ပါမောဇ္ဇံ။ ဝမ်းမြောက်ခြင်းသည်။ ပီတတ္ထာယ။ နှစ်သက်ခြင်းအကျိုးငှါ။ဟောတိ။ဖြစ်၏။ ပီတိ။နှစ်သက်ခြင်းသည်။ ပဿဒ္ဓတ္ထာယ။ ကိုယ်စိတ်နှစ်ပါး ငြိမ်းခြင်းအကျိုးငှါ။ ဟောတိ။ ဖြစ်၏။ ပဿဒ္ဓိ။ကိုယ်စိတ်နှစ်ပါးငြိမ်းခြင်းသည်။ သုခတ္ထာယ။ချမ်းသာ

ခြင်းအကျိုး၌။ဟောတိ။ဖြစ်၏။သုခံ၊ချမ်းသာခြင်းသည်။ သမာဓတ္ထာယ။တည်ကြည်ခြင်းအကျိုး၌။ ဟောတိ။ဖြစ်၏။ သမာဓိ၊ စိတ္တဝိသုဒ္ဓိဟု ဆိုအပ်သော စိတ်၏တည်ကြည်ခြင်း တည်းဟူသောသမာဓိသည်။ယထာဘူတဉာဏာယ။သင်္ခါရစသောတရားတို့၌ဟုတ်မှန်စွာသိခြင်းအကျိုး၌။ ဟောတိ။ ဖြစ်၏။ ယထာဘူတဉာဏံ။ သင်္ခါရအစရှိသောတရားတို့၌ဟုတ်မှန်စွာသိခြင်းသည်။ နိဗ္ဗိဒတ္ထာယ။ တေဘူမကသင်္ခါရဟု ဆိုအပ်သော ခန္ဓာငါးပါး၏ ဝဋ္ဋဒေါသ သဘောကို ငြီးငွေ့ခြင်း အကျိုး၌။ ဟောတိ။ ဖြစ်၏။ နိဗ္ဗိဒါဉာဏံ။ တေဘူမကသင်္ခါရဟုဆိုအပ်သောခန္ဓာငါးပါး၏။ဝဋ္ဋဒေါသသဘောကိုငြီးငွေ့ခြင်းသည်။ ဝိရာဂတ္ထာယ။ ရာဂကင်းခြင်း အကျိုး၌။ ဟောတိ။ ဖြစ်၏။ ဝိရာဂေါ။ရာဂကင်းခြင်းသည်။ ဝိမုတ္တတ္ထာယ။ဝိမုတ္တိရသဟုဆိုအပ်သောဖိုလ်အကျိုး၌။ ဟောတိ။ဖြစ်၏။ ဝိမုတ္တိ။ဝိမုတ္တိမည်သောဖိုလ်သည်။ ဝိမုတ္တိဉာဏဒဿနတ္ထာယ။ ဝိမုတ္တိမည်သောအရဟတ္တဖိုလ်ကိုသိတတ်သောပစ္စဝေက္ခဏာဉာဏ်အကျိုး၌။ ဟောတိ။ဖြစ်၏။ဝိမုတ္တိဉာဏဒဿနံ။ အရဟတ္တဖိုလ်ကိုသိတတ်သောပစ္စဝေက္ခဏာဉာဏ်သည်။အနုပါဒိသေသနိဗ္ဗာနတ္ထာယ။အဝိဇ္ဇာအစဇရာမရဏအဆုံးရှိသောသင်္ခါရတရားအပေါင်းတို့၏ ကုန်စင်သန့်ရှင်းသဖြင့်အကြွင်းမဲ့ချုပ်ခြင်းငြိမ်းခြင်းအကျိုး၌။ဟောတိ။ဖြစ်၏။ ။ဤသို့ဟိရိဩတ္တပ္ပနှင့်ပြည့်စုံသောသူအား ဣန္ဒြေကိုစောင့်ရှောက်ခြင်းသည် ဥပနိဿယနှင့်ပြည့်စုံသည်ဖြစ်၏။ ဟိရိဩတ္တပ္ပနှင့် မပြည့်စုံသောသူအား ဣန္ဒြေကို စောင့်ရှောက်ခြင်းဥပနိဿယနှင့်မပြည့်စုံ။ ထိုစကား၌ ဆိုလတ္တံ့သည် ကားဝတ္ထုတည်း။ ။လွန်လေပြီးသောအခါ ဘုရားလောင်း သည်။ ဟိမဝန္တာ၌ လောမကဿပမည်သော ရသေ့ဖြစ်၏။ ပြင်းထန်သောဘုရားလောင်း၏ အကျင့်အာနုဘော်ကြောင့် သိကြားမင်း၏နေရာတုန်လှုပ် ခြင်းရှိလေလျှင်။ ထိုအကြောင်းကိုသိ၍ သန်းခေါင်အခါ၌ ဗာရာဏသီမင်းသို့ ချဉ်းကပ်ပြီးလျှင်။ မြတ်သော

မင်းကြီး။ ထလော့။ ငါသည်ကားသိကြားတည်း။ သင်မင်းကြီးသည်အလုံးစုံသောဇမ္ဗူဒီပ်၌ ကေရာဇ်အဖြစ်ကိုအလိုရှိမူ။ သင်မင်းကြီး၏သို့်း စန္ဒဝတီကိုသေယှအမတ်လက်၌ထားပြီးလျှင်စေလိုက်၍ လောမကာဿပအထံသို့ သွားစေလော့။ သားမျိုးကိုသတ်၍ယဇ်ပူဇော်ခြင်းကိုသင်ရသေ့ပြုလျှင်။ ဤစန္ဒဝတီ မည်သောမင်းသို့်းကိုပေးမြားမည်ဟုဆိုစေလော့။ ထိုသို့ယဇ်ပူဇော်ခြင်းကိုရသေ့ပြုလျှင်။ သိကြားမင်းနှင့်အတူ မအိုမသေအလုံးစုံသောဇမ္ဗူဒီပ်တကျွန်းလုံး၌ကေရာဇ်ပြုရလတ္တံ့ဟုဆို၍။ သိကြားမင်းသည်ဘဲလေ၏။ မင်းသည်လည်းနှစ်ရက်မြောက်သောနေ့၌ စန္ဒဝတီမင်းသို့်းနှင့်တကွ သေယှအမတ်ကိုစေ၍။ အမတ်သည်မင်းစေတိုင်းသွားပြီးလျှင်ရသေ့အားမင်းသို့်းကိုပြ၍။ ရှင်ရသေ့။ မင်း၏ယဇ်ပူဇော်ခြင်းကိုပြုလျှင်။ ရှင်ရသေ့အား ဤမင်းသို့်းကိုပေးမြားမည်ဟုမင်းသည်ဝန်ခံ၏ဟု ဆိုလေလျှင်။ ရသေ့သည်ဣန္ဒြေတို့ကိုဖျက်၍ စန္ဒဝတီမင်းသို့်းကိုကြည့်လေလျှင်။ အလွန်တပ်စွန်းသောစိတ်ရှိသည်၏အဖြစ်ကြောင့် ဈာန်မှယုတ်၍ ဟိရိဩတ္တပ္ပကိုပယ်ပြီးလျှင်ကောင်းပြီဟုဝန်ခံ၍ ဆံကျစ်တို့နှင့်တကွဗာရာဏသီပြည်သို့ လိုက်လေပြီးလျှင် ယဇ်ပူဇော် အံ့သော၄ါ အားရတ်၏။ ထိုအခါရသေ့ကိုထိုအရပ်၌နေသောလူအပေါင်းတို့သည်မြင်၍။ ရသေ့။ သင်သည်မလျောက်ပတ်သောအမှုကိုပြု၏ဟုဆို၍ဤဂြွေးလျက်။ နဝနိပါတ်လောမကာဿပဇာတ်၌။ ။

ဗလံစန္ဒော ဗလံသူရိယော။ ဗလံသမဏဗြာဟ္မဏာ။ ဗလံဝေလာ သမုဒ္ဒဿ။ ဗလာတိဗလမိတ္ထိယော။ ။ယထာဥဂ္ဂတပံသန္တံ။ ဣသိံ လောမကာဿပံ။ ပိတုအတ္ထာယစန္ဒဝတီ။ ဝါဇပေယျံအယာဇယိ။ ။ဟူသောနှစ်ဂါထာကိုဆို၏။ ။စန္ဒော စန္ဒသ။ လ၏။ ဗလံ။ အားသည်ရင်း။ သူရိယော သူရိယဿ။ နေ၏။ ဗလံ။ အားသည်ရင်း။ သမဏဗြာဟ္မဏာနံ။ ရဟန်းပုဏ္ဏားတို့၏။ ဗလံ။ အားသည်ရင်း။ သမုဒ္ဒဿ။ သမုဒ္ဒရာ၏။ ဝေလာ ဝေလာယ။ ကမ်း၏။ ဗလံ။ အားသည်ရင်း။ အတ္ထိ။ ရှိ၏။ ဣတ္ထိယော ဣတ္ထီနံ။ မိန်းမတို့၏။

ဗလ်။အားသည်။ ဗလာတိဗလံ။ ဆိုအပ်ပြီးသောအားတကာတို့ ထက်လွန်သောအားသည်။ဟောတိ။ဖြစ်၏။ ယထာယာသွာ။ အကြင်ကြောင့်။ စန္ဒဝတိ။ စန္ဒဝတိမင်းသို့သည်။ ဥဂ္ဂတပ်။ မြတ်သောအကျင့်ရှိသော။ သဒ္ဓံ။ငြိမ်သက်သော။ လောမကဿပံ။ လောမကဿပမည်သော။ဣသိံ။ရသေ့ကို။ ပိတုအတ္ထာယ။ အဘ၏အကျိုးငှါ။ ဝါဇပေယျံ။ယဇ်ပူဇော်ခြင်းကို။ အယောဇယိ။ ယှဉ်စေ၏။တသွာ။ထိုကြောင့်။ဆုတ္တိယောဗုဒ္ဓိနံ။မိန်းမတို့၏။ ဗလံ။ အားသည်။ ဗလာတိဗလံ။ ဆိုအပ်ပြီးသောအားတကာတို့ ထက်လွန်သောအားသည်။ဟောတိ။ဖြစ်၏။ ။ထိုအခါ၌လောမကဿပရှင်ရသေ့သည်။ မင်္ဂလာဆင်၏လည်၌ချတ်အံ့ဟူ၍ရတနာသန်လျက်ကိုချီ၏။ မင်္ဂလာဆင်သည်သန်လျက်ကိုချီသောရသေ့ကိုမြင်လျှင် သေဘေးမှကြောက်၍သည်းစွာ သော အသံကိုမြည်၏။ ထိုမင်္ဂလာဆင်၏အသံကိုကြား၍ကြွင်းကုန်သောဆင်မြင်းနွားတို့သည်၎င်း။ လူအပေါင်းတို့သည်၎င်းဘောက်ပြန်သောအသံဖြင့် မြည်တမ်းဟစ်ကြွေးချောက်ချားကြကုန်၏။ ရသေ့သည်ထိုအသံတို့ကိုကြား၍ ထိတ်လန့်ခြင်းသို့ရောက်သည်ဖြစ်၍။ မိမိ၏ဆံကျစ်အစရှိသည်တို့ကိုကြည့်လျက်နှလုံးမသာမယာသည်ဖြစ်၍ မကောင်းမှုကို ပြုခြင်းသည်။ ငါ့အားစင်စစ်မချောက်ပတ်တကားဟု ထိုခဏ၌ဟိရိဩတ္တပ္ပကိုဖြစ်စေ၍ ကသိုဏ်းကိုနှလုံးသွင်းမိလေလျှင်။ ပျောက်သောဈာန်အဘိညာဉ်တို့သည်ခဏခြင်းထ၍ကောင်းကင်၌ထက်ဝယ်ဖွဲ့သဖြင့်နေပြီးလျှင်။မင်းအားတရားဟောပြဆုံးမ၍ ယဇ်တွင်းကို ဖျက်ဆီးစေ၏။သတ္တဝါများအားအသက်အလှူကိုပေးစေ၍။ မိမိနေရာအရပ်သို့လျှင်သွား၍ မယုတ်သော ဈာန်ကို အားထုတ်လျက် ဗြဟ္မာ့ပြည်သို့လားလေ၏။ ။(လောမကဿပဝတ္ထု။)

ထို့ကြောင့် ဆန္ဒကိုစောင့်ရှောက်လျက် ဟိရိဩတ္တပ္ပတရားမပျက်စေရာ။ ထိုဟိရိတရားကိုရစေခြင်းငှါဆန္ဒကိုမပျက်စေရမြဲမြံစွာ အားထုတ်ခြင်းသည် တပမည်၏။ ။တနည်း

လည်းပျင်းခြင်းကို ပုပ်နှံစေတတ်သည်၏အဖြစ်ကြောင့် ဝီရိယသည်တပမဉ္စ၏ဟူသောစကား၌ပျင်းခြင်းကိုရှစ်ပါးကုန်သောအကြောင်းတို့ဖြင့်သိအပ်၏။ဝီရိယကိုလည်းထိုအတူရှစ်ပါးကုန်သောအကြောင်းတို့ဖြင့်သိအပ်၏။ ထို့ကြောင့် အဋ္ဌအင်္ဂုတ္တိုရ်ဒုတိယပဏ္ဏာသကတတိယဝဂ်၌ဤသို့ဟောတော်မူ၏။ ။ရဟန်းတို့။ပျင်းရိခြင်း၏အကြောင်းတို့သည်ဤရှစ်ပါးတို့တည်း။ရဟန်းတို့။ ဤလောက၌ရဟန်းသည်အမှုကိုပြုအံ့သည်ဖြစ်၍ရင်း။ တဘန်လည်းအမှုကိုပြုပြီး၍ရင်း။ တဘန်လည်း ခရီးသွားအံ့သောငှါဖြစ်၍ရင်း။တဘန်လည်းခရီးသွားပြီးသည်မှနောက်၌ရင်း။ တဘန်လည်းဆွမ်းခံအံ့သောငှါသွား၍ အလိုရှိတိုင်းမရသည်ဖြစ်၍ရင်း။ တဘန်လည်းဆွမ်းခံအံ့သောငှါသွား၍အလိုရှိတိုင်းပြည့်စုံသောက်အောင်ရသည်ဖြစ်၍ရင်း။ တဘန်လည်း အနည်းငယ်သော အနာသည် ရောက်သည်ဖြစ်၍ရင်း။ တဘန် လည်း ထိုရောက်သောအနာမှ ထမြောက်သည်ဖြစ်၍ရင်း။ ထိုထိုသို့သောရှစ်ပါးကုန်သောအကြောင်းတို့တွင် တပါးပါးသောအကြောင်းရှိ၍ရင်း။အလုံးစုံသောအကြောင်းရှိ၍ရင်း။ထိုရဟန်းသည်ပျင်းရိသောတွန့်သောစိတ်ရှိသည်ဖြစ်၍။တခုခုသောအကြောင်းကိုစွဲကိုးမယ်တမူဖြင့်ငါသည် အိပ်သင့်လှပြီဟုကြံ၍ ထိုရဟန်းသည်အိပ်၏။ မရောက်သေးသောဈာန် ဝိပဿနာမဂ်ဖိုလ်တရားသို့ရောက်စိမ့်သောငှါ။ မရသေးသောဈာန်မဂ်ဖိုလ်တရားကိုရစိမ့်သောငှါမျက်မှောက်မပြုရသေးသော ဈာန်မဂ်ဖိုလ် တရားကိုမျက်မှောက်ပြုအံ့သောငှါဝီရိယကိုမထုတ်။ရဟန်းတို့။ ဤသည်ကားရှစ်ပါးတည်း။ ရှစ်ခုတို့၏ပြည့်ကြောင်းဖြစ်သောပျင်းခြင်း၏အကြောင်းတည်း။ ။ရဟန်းတို့။ ဝီရိယကို ထုတ်ခြင်းအကြောင်းကားရှစ်ပါးတည်း။ ရှစ်ပါးမည်သည်အဘယ်နည်းဟူမူကား။ရဟန်းတို့။ဤလောက၌ရဟန်းသည်အမှုကိုပြုရအံ့သည်ဖြစ်၍ရင်း။ တဘန်လည်းအမှုကိုပြုပြီး၍ရင်း။ တဘန်လည်းခရီးသွားအံ့သောငှါဖြစ်၍ရင်း။ တဘန်လည်း ခရီးသွားပြီး သည်မှ

နောက်၌ရှင်း။ တဘန်လည်း ဆွမ်းခံအံ့သောငှါသွား၍ အလိုရှိ တိုင်းမရသည်ဖြစ်၍ရှင်း။ တဘန်လည်းဆွမ်းခံအံ့သောငှါသွား ၍ပြည့်စုံ လောက်အောင် ရသည်ဖြစ်၍ရှင်း။ တဘန်လည်းအ နည်းငယ်သော အနာသည် ရောက်သည် ဖြစ်၍ရှင်း။ တဘန် လည်းထိုရောက်သောအနာမှထမြောက်သည်ဖြစ်၍ရှင်း။ထိုထို သို့သောရှစ်ပါးကျန်သောအကြောင်းတို့တွင် တပါးပါးသောအ ကြောင်းရှိသည်ဖြစ်၍ရှင်း။အလုံးစုံသောအကြောင်းရှိ၍ရှင်း။ ထို ရဟန်းသည်လုံ့လနှင့်ယှဉ်သောစိတ်ရှိသည်ဖြစ်၍ တခုခုသော အကြောင်းကိုစွဲ၍ ရိုးမယ်တမူဖြင့် အိပ်အံ့ဟူ၍နှလုံးမချ။ ဝီရိယ တည်းဟူသောတပဖြင့် ထိုရဟန်းသည် မရောက် သေးသော ဈာန်ဝိပဿနာမဂ်ဖိုလ်တရားသို့ရောက်စိမ့်သောငှါ။ မရသေး သောဈာန်မဂ်ဖိုလ် တရားကိုရစိမ့်သောငှါ။ မျက်မှောက်မပြုရ သေးသော ဈာန်မဂ်ဖိုလ်တရားကို မျက်မှောက်ပြုအံ့သော ငှါ အားထုတ်၏။ ရဟန်းတို့။ ဤသည်ကားရှစ်ခုတို့၏ပြည့်ကြောင်း ဖြစ်သောအားထုတ်ခြင်း၏အကြောင်းတို့တည်း။ ။ရဟန်းတို့။ ဤသို့ရှစ်ပါးရှစ်ပါးကျန်သောအကြောင်းတို့ဖြင့် ပျင်းရိခြင်းအား ထုတ်ခြင်းနှစ်ပါးတို့ကိုသိ၍။ ပျင်းခြင်းကိုပယ်ပြီးလျှင်အားထုတ် ခြင်းကိုပြုအပ်၏။ ထိုအားထုတ်ခြင်း ဝီရိယကိုပြုသော ရဟန်း သည်လည်း လေးပါးသောအင်္ဂါနှင့်ပြည့်စုံသော ဝီရိယကိုပြု အပ်၏။ လေးပါးသောအင်္ဂါနှင့်ပြည့်စုံသောဝီရိယကိုလည်း။ ခု ကအင်္ဂုတ္တိုရ်၏ ပဌမပဏ္ဏာသကပဌမဝဂ်၌ဟောတော်မူ၏။ ။ ရဟန်းတို့။ ငါဘုရားသည် မဆုတ်မနစ်ခြင်း၌ တည်၍ဘုရား လောင်းဖြစ်သောကာလ၌ သဗ္ဗညုတဉာဏ်ကိုတောင့်တလတ် သော်။ စင်စစ်အရေ၊ အကြော၊ အရိုးသာလျှင်ကြွင်းစေ။ ငါ၏ ကိုယ်၌အလုံးစုံသောအသားအသွေးသည်ခြောက်စေ။ အကြင် ကျေးဇူးသို့ ယောကျ်ားတို့၏ ဉာဏ်နှင့်ယှဉ်သော အစွမ်းအား ဖြင့်ယောကျ်ားတို့၏ဉာဏ်နှင့်ယှဉ်သောဝီရိယဖြင့်။ယောကျ်ား တို့၏ဉာဏ်နှင့်ယှဉ်သောအားထုတ်ခြင်းဖြင့်ရောက်အပ်ကုန်၏။

ထိုကျေးဇူးသို့မရောက်မူ၍ ဝိရိယ၏တန့်ရပ်ခြင်းသည်မဖြစ်လတံ့ဟုနှလုံးထား၍အားထုတ်၏။ ရဟန်းတို့။ ထိုငါသည်မဂ်ဉာဏ်သဗ္ဗညုတဉာဏ်ကို မမေ့မလျော့ခြင်းဖြင့်ရအပ်ပြီ။ မိမိထက်မြတ်သောတရားမရှိသော အရဟတ္တဖိုလ်နိဗ္ဗာန်ဟူသောယောဂ၏ကျွန်ရာတရားကိုမမေ့မလျော့ခြင်းဖြင့်ရအပ်ပြီ။ ရဟန်းတို့။ သင်တို့သည်လည်း မဆုတ်မနစ်ခြင်း၌ တည်ကုန်သည်ဖြစ်၍။ စင်စစ်အရေ၊ အကြော၊ အရိုးတို့သာလျှင်ကြွင်းစေ။ ငါ၏ကိုယ်၌အလုံးစုံသောအသွေးအသားတို့သည်ပျောက်စေ။ အကြင်ကျေးဇူးတို့သို့ယောကျ်ားတို့၏ ဉာဏ်နှင့်ယှဉ်သော အစွမ်းအားဖြင့်ယောကျ်ားတို့၏ဉာဏ်နှင့်ယှဉ်သောဝီရိယဖြင့်။ ယောကျ်ားတို့၏ဉာဏ်နှင့်ယှဉ်သော အားထုတ်ခြင်းဖြင့် ရောက်အပ်၏။ ထိုကျေးဇူးသို့မရောက်မူ၍ ဝိရိယ၏တန့်ရပ်ခြင်းသည် မဖြစ်ရလတံ့ဟုနှလုံးထား၍ အားထုတ်ကုန်သည်ရှိသော်။ သင်တို့သည်လည်းမကြာမြင့်မီလျှင် အကြင်အရိယဖိုလ်အကျိုးကိုရလတံ့ဟုဟောတော်မူ၏။ ။ထိုကြောင့် တပေါ်စဟူသောပုဒ်၌ ထိုသို့သိအပ်ပြီးသော ဣန္ဒြိယသံဝရ ဝီရိယဟူသော တပသည်။ အဘိဇ္ဈာအစရှိသည်ကို ပယ်ခြင်း။ ဈာန်မဂ်ဖိုလ်ကို ရခြင်း၏ အကြောင်းဖြစ်သောကြောင့်မင်္ဂလာမည်၏။

---

## ၃၂။ မြတ်သောအကျင့်ကိုကျင့်ခြင်း- ဗြဟ္မစရိယမင်္ဂလာ။

ဗြဟ္မစရိယဟူသည်ကား။ သာမညဖလ သုတ် အဋ္ဌကထာ။ ဣတိဝုတ်အဋ္ဌကထာနည်းအားဖြင့်ဗြဟ္မစရိယမည်သည်။ ဒါန ဝေယျာဝစ္စ၊ ပဉ္စသီလ၊ အပ္ပမညာ။ မေထုန်မှကြဉ်ခြင်း၊ မိမိမယားဖြင့်ရောင့်ရဲခြင်း၊ ဝီရိယ၊ ဥပုသ်အင်္ဂါ၊ အရိယမဂ်၊ သာသနာ၏အစွမ်းအားဖြင့်ဆယ်ပါးအပြားရှိ၏။ ။မဟာသီဟနာဒသုတ်အဋ္ဌကထာ၌ကား။ တရားဟောခြင်းမြတ်သော အလိုတို့ကိုထည့်၍

ဗြဟ္မစရိယကို တဆဲ့တပါးအပြားရှိ၏ဟူ၍ဆိုအပ်၏။ ။ကေသွိံ ဗြဟ္မစရိယသ္မိံ သဟာသံမစ္စုပဟာယိနော။ ။ဟူလာသော အရာ၌တရားဟောခြင်းသည် ဗြဟ္မစရိယမည်၏။ ။ကေသွိံ။ တကြိမ်သော။ ဗြဟ္မစရိယသ္မိံ။တရားဟောခြင်း၌။ သဟာသံ။ တထောင်အတိုင်းအရှည်ရှိကုန်သောသူတို့သည်။ မစ္စုပဟာယိ နော။သေခြင်းကိုစွန့်ကုန်၏။ ။အပိအတရမာနုဝနံ။ ဖလာသော ဝသမိဏ္ဍုတိ။ဗိပက္ကုဗြဟ္မစရိယောသ္မိံ။ဇေ၀ံဇာနာဟိဂါမဏိ။ ။ ဟူလာသောအရာ၌။မြတ်သောအလိုသည်ဗြဟ္မစရိယမည်၏။ ။ အတရမာနုဝနံ။ အဆောတလျှင်မပြု ဒေသကာလကိုမြော်လင့် ကုန်သောသူတို့အား။ဖလာသောအပိ။ အလွန်ရခဲသောအကျိုးကို တောင့်တခြင်းသည်လည်း။ သမိဏ္ဍုတိဇေ၀။ ပြည့်စုံသလျှင်က တည်း။အဟံ။ဝါသည်။ဗိပက္ကုဗြဟ္မစရိယော။ ပြည့်စုံသောမြတ် သောနှလုံးအလိုရှိသည်။အသ္မိံ။ဖြစ်၏။ဇေ၀ံ။ဤသို့။ဂါမဏိ။ဂါမဏိ။ တို့။သင်သည်။ဇာနာဟိ။သိလော့။ ။ထိုအဋ္ဌကထာ၌တရားဟော ခြင်းသည်ကား။ အနက်အားဖြင့် သိက္ခာသုံးပါးလျှင် ရေတွက် အပ်သောတရားတည်း။ ဤတရား ဟောခြင်းကို အသီး မယူ သော်လည်းလိုအပ်သောအနက်ဝင်ပြီဟုနှလုံးသွင်း၍။သာမညဖ လသုတ်အစရှိသည်တို့၏ အဋ္ဌကထာ၌မဆိုသတည်း။ ။မြတ် သောအလိုသည်ဗြဟ္မစရိယမည်၏ဟူ၍အကြောင်းစကားဆို၏။ထို စကားကိုလည်း ဧကနိပါတ်ပဌမဝဂ်ဂါမဏိဇာတ်အဋ္ဌကထာ နည်းဖြင့်လည်း မှတ်အပ်၏။ ။ဂါမဏိဇာတ် အဋ္ဌကထာ၌ ကား။ ။လေးပါးသောသင်္ဂဟဝတ္ထုသည် မြတ်သောအကျင့် ဖြစ်သောကြောင့်ဗြဟ္မစရိယမည်၏။ ထိုသင်္ဂဟ ဝတ္ထုကြောင့် ဖြစ်သောစည်းစိမ်သည်လည်း မြတ်သောအနက်အားဖြင့်ဗြဟ္မ စရိယမည်၏ဟူ၍ဆို၏။ ။အတရမာနုဝနံ။ပညာရှိတို့၏အဆုံး အမ၌တည်၍အဆောတလျှင်မပြု အသင့်အားဖြင့်အမှုကိုပြုကုန် သောသူတို့အား။ ဖလာသောအပိ။ တောင့်တအပ်သော အကျိုး သည်လည်း။ သမိဏ္ဍုတိဇေ၀။ပြည့်စုံသလျှင်ကတည်း။ အဟံ။ဝါ

သည်။ဝိပက္ကဗြဟ္မစရိယော။ စည်းစိမ်ဟူသောအကျိုးကိုဖြစ်စေ
တတ်သောလေးပါးသောသင်္ဂဟဝတ္ထုရှိသည်။ အသို့။ ဖြစ်၏။
ဂါမဏိ။ဂါမဏိ။ဧဝံ။ဤသို့။ဇာနာဟိ။ သိလော့။ ။ဤကားဂါမ
ဏိဇာတ်အဋ္ဌကထာနှင့် အညီယောဇနာအပ်သောအနက်။ ။
အကြောင်းအမြွက်ကား။ ။လွန်လေပြီးသောအခါဗာရာဏသီ
မင်း၏ သားတရာတွင် အငယ်ဆုံးဖြစ်သော ဂါမဏိမင်းသား
သည်အတတ်သင်သောဆရာဘုရားလောင်းအမတ်ကိုအမှီပြု၍
ခမည်းတော်မင်းကြီးလွန်သဖြင့် မင်းအဖြစ်ကိုရလေသည်ကို
နှစ်သက်ရကား။ ဥဒါန်းကျူးသည့်၏အစွမ်းအားဖြင့် ဤဂါထာ
ကိုဆိုသတည်း။ ။ဤမင်္ဂလသုတ်အဋ္ဌကထာ၌ကား။ ။ဘဂ
ဝတိနောအာဝုသောဗြဟ္မစရိယံဝုသတီတိ။ဧဝမာဝုသော။ ။
ဟူ၍ ရထဝိနီတသုတ်၌ ရဟန်းတရားသည် ဗြဟ္မစရိယမည်၏
ဟုလာသည်ကိုသာဓကပြု၍မိန့်အပ်၏။ ။အာဝုသော။ ငါ့ရှင်
ပုဏ္ဏ။အာယသ္မာ။ငါ့ရှင်သည်။ နော။ငါတို့၏။ ဘဂဝတိ။မြတ်စွာ
ဘုရားအထံတော်၌။ ဗြဟ္မစရိယံ။ ရဟန်းတရားကို။ ဝုသတိ။
ကျင့်သလော။ အာဝုသော။ငါ့ရှင်သာရိပုတ္တရာ။ ဧဝံ။ ငါ့ရှင်ဆို
တိုင်းဟုတ်၏။ ။ထို့ကြောင့် ဤအဋ္ဌကထာ၌ ဆိုအပ်သောအ
အနက်ကိုဖွင်း။ သာမညဖလသုတ်အစရှိသည့်တို့၏အဋ္ဌကထာ၌
ဆိုအပ်သောအနက်ကိုဖွင်းယူ၍ ဗြဟ္မစရိယသည် တဆဲ့တပါး
အပြားရှိ၏။ ထိုတဆဲ့တပါးတို့တွင် ဒါနကိုအောက်၌ အယုတ်
အားဖြင့်ဟောတော်မူအပ်၏။ ဝေယျာဝစ္စဥပုသ်အင်္ဂါတို့ကိုအန
ဝဇ္ဇကမ္မဖြင့်သင်္ဂြိုဟ်အပ်ကုန်၏။ပဉ္စသီလကိုစောင့်၍မိမိမယား
ဖြင့်ရောင့်ရဲခြင်းတို့ကို ပါပဝိရတိ မဇ္ဇသံမယတို့ဖြင့် သင်္ဂြိုဟ်
အပ်ကုန်၏။ ဝီရိယကိုတပဖြင့်သင်္ဂြိုဟ်အပ်၏။ ထိုစကားသည်
မှန်၏။အဒေါသသည်ခန္တိမည်၏။အဒေါသဖြင့်လည်းမေတ္တာကို
ယူအပ်၏။ ထိုမေတ္တာဖြင့်မေတ္တာမှတပါးကုန်သော သုံးပါးကုန်
သောအပ္ပမညာတို့ကိုလည်းယူအပ်ကုန်၏။ အရိယမဂ်ကိုနေဝံ၌
ဟောလတ့်သော အရိယသစ္စဒဿနသဒ္ဒါဖြင့်ယူအပ်သည်၏အ

ဖြစ်ကြောင့်ဤ၌မရအပ်။ သေသောက်ခြင်းကိုနောက်မှ မဇ္ဇပါ နသဒ္ဒါဖြင့် ယူအပ်သည့်၏အဖြစ်ကြောင့်။ အာရတိဝိရတိပါပါ ဟူသောပုဒ်၌မယူအပ်သကဲ့သို့။ ထိုအတူအရိယမဂ်ကိုနောက်မှ အရိယသစ္စဒဿနသဒ္ဒါဖြင့် ယူအပ်သည့်၏အဖြစ်ကြောင့်။ ဤ ဗြဟ္မစရိယပုဒ်၌မယူအပ်။ ထို့ကြောင့်ပါဠိသောသနည်းအားဖြင့် မေထုန်မှကြဉ်ခြင်း။ ရဟန်းတို့၏တရားဟူသောဗြဟ္မစရိယကို သာလျှင်ရအပ်၏။ ထိုဗြဟ္မစရိယသည်လည်းအထက်အထက်၌ အထူးထူး အပြားပြားသော တရား ဝိသေသကို ရခြင်း၏ အ ကြောင်းဖြစ်သောကြောင့် မင်္ဂလာမည်၏။ ။ထိုစကား၌ဤ ဝတ္ထုကိုသိအပ်၏။

ရာဇဂြိုဟ်ပြည်၌ကပိလပုဏ္ဏား၏။ သားဖြစ်သောဘုန်းပညာ သက္ကဏာနှင့်ပြည့်စုံသော ပိပ္ပလိမည်သော လုလင်သည်ဖြစ်၍အ သက်နှစ်ဆယ်ရွယ်သို့ရောက်သတတ်။ ထိုအခါ၌။ ပိပ္ပလိလုလင်ကို မိဘတို့သည်အိမ်အနှောင်အဖွဲ့ဖြင့်နှောင်ဖွဲ့လိုကုန်၍။ သက္ကဏါ နှင့်တကွ ပြည့်စုံသော မိန်းမကိုရှာစိမ့် သောငှါ။ ရှစ်ယောက် ကုန်သောပုဏ္ဏားကိုစေကုန်၍။ ထိုပုဏ္ဏားတို့သည် ပဏ္ဏာကာရ ကိုယူကုန်၍သာဂလမြို့သို့သွားကုန်၏။ ထိုမြို့၌လည်း။ ဘဒ္ဒါကာ ပိလာနီ မည်သော ကောသိယ အနွယ်ဖြစ်သော ပုဏ္ဏား၏သမီး သည်တဆဲ့ခြောက်နှစ် အရွယ်ရောက်လျက်ရှိ၏။ မြတ်သောအ ဆင်းကိုဆောင်၏။ ကြီးသော ဘုန်းကြက်သရေရှိ၏။ ထိုပုရော ဟိတ်တို့သည်လည်းထိုမြို့သို့ရောက်၍ဘဒ္ဒါကာပိလာနီ၏ မိဘ တို့အားအလုံးစုံသောအကြောင်းတို့ကိုပြောဆိုကုန်၏။ ထိုပဏ္ဏာ ကာရတို့ကို ပေးပြီးလျှင် သူငယ်မကို ရပြီဟူ၍ ကပိလပုဏ္ဏား အားသတင်းစကားကိုမှာလိုက်ကုန်၏။ ပိပ္ပလိလုလင်သည်လည်း။ သတင်းစကားကို ကြားလေလျှင်။ အလိုမရှိ သည်ဖြစ်၍ ဆိတ် ကွယ်ရာသို့ကပ်ပြီးလျှင်။ ဘဒ္ဒါသည်မိမိ၏အမျိုးအနွယ် စည်းစိမ် အားလျော်သော အိမ်ထောင်ဘက်ကိုရစေသတည်း။ ငါသည် ကားရဟန်းပြုအံ့။ နောင်အခါ၌လုံးမသာယာခြင်းသည်မဖြစ်စေ

သင့်ဟူ၍မှာစာရေး၏။ ဘဒ္ဒါသည်လည်းထိုနည်းဖြင့်လျှင်မှာစာ ရေး၏။ မှာစာနှစ်ခုတို့ကိုယူ၍လာကုန်သောသူတို့သည် ခရီးအ ကြားဌ္ဌ ဆိုင်မိကြကုန်၍။ စာနှစ်ခုကိုလည်း ဘတ်ကုန် ပြီးလျှင် ထောဌ္ဌပင် ဝမ်းမြောက်သောမှာစာကို ရေးပေး၍သွားကြကုန် ၏။ ထိုပိပ္ပလိလုင်နှင့်ဘဒ္ဒါကာပိလာနီတို့သည်အလိုမရှိဘဲလျက် ပင်။ မိဘတို့ပေးစြားသည်ဖြစ်၍ပေါင်းဘော်ရခြင်းသည်ဖြစ်၏။ ထိုနေ့၌လျှင်နှစ်ယောက်ကုန်သောသူတို့သည်လည်း။ ညစာစား ကုန်၍ အိပ်ရာသို့တက်ကုန်သည်ရှိသော်။ အလုံးစုံပယ်ခြင်းငှါ မတတ် ကောင်းသည်ဖြစ်၍ ပိပ္ပလိလုင်သည် လက်ျာနံပါးဖြင့် အိပ်ရာသို့တက်၏။ ဘဒ္ဒါသည်လက်ဝဲနံပါးဖြင့် အိပ်ရာသို့တက် ၏။ ထိုအခါတယောက်သည်တယောက် ကိုယ်ချင်းကိုမျှလည်း မထိသို့ အိပ်ရာ၏အလယ်၌နှစ်ခုကုန်သော ပန်းဆိုင်တို့ကိုထား ကုန်၍ ညဉ့်သုံးယံပတ်လုံး မအိပ်ကုန်ဘဲ ကာလကိုလွန်စေကုန် ၏။ နေ့၌လည်းရယ်မောခြင်းကိုမျှမပြု။ နှစ်ယောက်ကုန်သောသူ တို့သည်လောက အာမိသဖြင့် မရောရှက်ကုန်ဘဲ လူတို့ဘောင် ၌နေကုန်လျက်အကျိုးမရှိ။ မိဘတို့လွန်သောကာလမှ။ များစွာ သောပစ္စည်းတို့ကိုသိမ်းဆည်းလျက်ဆန္ဒတူမျှကုန်သည်ရှိသော် လည်း။ ဘခသုံးပါးတို့သည် မိးလျှံပြောင်ပြောင်တောက်လောင် သောသက်ငယ်ခြမ်းဝါးနီးဖျာရိုင်တို့ဖြင့် ပြီးသော သစ်ရွက်မိုး ကဒိုကဲ့သို့တူကုန်၏။ ရဟန်းပြုကြကုန်အံ့ဟု ဆို၍။ အိမ်ဈေးမှ သင်္ကန်း မြေသပိတ် တို့ကို ဆောင်စေပြီးလျှင်။ အချင်းချင်း ဆံ တို့ကိုရိပ်ကုန်၍။ လောက၌အကြင်ရဟန္တာတို့သည်ရှိကုန်၏။ ထို ရဟန္တာတို့ကိုရည်၍။ ငါတို့သည်ရဟန်းပြု၏ဟုဆိုသဖြင့်ရဟန်း ပြုကြပြီးလျှင်။ သပိတ်ကိုသပိတ်အိတ်၌ထည့်၍လွယ်၍ပြာသာဒ်မှ ဆင်းသက်ဘဲကြကုန်၏။ ပိပ္ပလိလုင်သည် ရှေ့ကသွားလျက်။ နှစ် ဖြာကွဲသောခရီးကိုမြင်၍။ ထိုခရီးထက်၌ရပ်လျက်။ အသင်ဘဒ္ဒါ။ ဤသူတို့သည်ရဟန်းပြုကုန်လျက်လည်း ကွဲပြားခြင်းငှါမတတ် နိုင်ကုန်ဟုကြံ၍။ ငါတို့၌ ဖြစ်မှားသော စိတ်ရှိသော လူများအ

ပေါင်းသည့် အပါယ်ကို ပြည့်စေသည်ဖြစ်ရာ၏။ ဤနှစ်ဖြာကွဲ
သောခရီး၌သင်သည်တခုသောခရီးကိုယူလော့။ ငါသည်တခု
သောခရီးဖြင့်သွားအံ့ဟုဆို၏။ဘဒ္ဒါသည်လည်း။အရှင်။ဟုတ်မှန်
၏။ မာတုဂါမမည်သည်ကား ရဟန်းတို့၏ ဆန့်ကျင်ဘက်ဖြစ်
သောအညစ်အကြေးဖြစ်၏။ ရဟန်းပြု၍လည်းကွေ့ကွင်းခြင်းငှါ
မတတ်နိုင် ကုန်ဟူ၍ ငါတို့အား အပြစ် ထင်ကုန်မည် ဖြစ်၍မ
လျောက်ပတ်။ ခွဲကြကုန်အံ့ဟု ဆို၍။ သုံးကြိမ်လက်ျာရစ် လှည့်
ပြီးလျှင်။ လေးဌာနတို့၌ငါးပါးသောထိခြင်းဖြင့်ရှိခိုး၍။လက်အုပ်
ချီလျက် ယောက်ျားတို့သည်လက်ျာမည်ကုန်၏။ အရှင်အား
လက်ျာခရီးသည်သင့်၏။ မိန်းမမည်သည်ကားလက်ဝဲသဘော
ရှိ၏။ မိန်းမဖြစ်သောအကျွန်ုပ်အား လက်ဝဲခရီးသည် သင့်၏ဟု
ဆိုလျှင်။ သဘောမယွင်းခွသဖြင့်နှစ်ဝသောခရီးကောင်းတို့ကို
တကြောင်းစီသွားကြလေကုန်၏။ ထိုသူတို့၏ ကွဲသောကာလ၌
ဤမြေကြီးသည်။သင်တို့၏ကမ္ဘာတသိန်းအတိုင်းအရှည်ရှိသော
ကာလ၌ ဆည်းပူးအပ်သော ပါရမီဖြင့် ဘွဲ့ခြင်းတည်းဟူသော
မိတ်ခင်ပွန်းစစ်၏အဖြစ်သည်ယနေ့၌အဆုံးစွန်သော်ကွဲခြင်းဖြင့်
ကွဲပြားလေပြီ၊ သင်တို့နှစ်ဦး၏ လောကာ မိသဂုဏ်ကျေးဇူးတို့
ကိုငါသည် စေ့စပ်ရွက်ဆောင်ခြင်းငှါ မတတ်နိုင်ဟု ဆိုဘိသ
ကဲ့သို့မြည်လျက်ပဲ့တင်ဟီးသောအသံနှင့်တကွလှုပ်လေ၏။ မြေ
ကြီးတုန်လှုပ်လျက် ပဲ့တင်ဟီးသော အသံသည် ကောင်းကင်၌
မိုးစပ်းကြိုးသံကဲ့သို့ အာကာသ ဓာတ်သည် နိမ့် သကဲ့သို့ ဖြစ်၍
ထစ်ချုန်း၏။ စကြဝဠာတောင်သည်ပြိုလုခမန်းမျှ ပဲ့တင်လှိမ့်၏။
မြတ်စွာဘုရားသည် ဝေဠုဝန်ကျောင်းတော်ဂန္ဓကုဋီ၌သီတင်း
သုံးတော်မူလျက်မြေလှုပ်သောအသံကိုကြားတော်မူ၍ဆင်ခြင်
တော်မူလတ်သော်ထိုအကြောင်းကိုသိတော်မူ၍။ ကိုယ်တော်
တပါးတည်းသာလျှင် သပိတ်သင်္ကန်းကိုယူတော်မူ၍။ သုံးဂါ
ဝုတ်ခရီးတိုင်အောင်ကြွတော်မူ၍။ ရာဇဂြိုဟ်ပြည်နာဠန္ဒမြို့၏အ
ကြား။ ဗဟုပုတ္တကမည်သောပြည်ညောင်ပင်ရင်း၌ နေတော်မူ

၏။ဝိပ္ပလိသည်လည်းတကြောင်းသောခရီးဖြင့်လာသတ်သော်။ ထိုပဉ္စောင်ပစ်ရင်း၌နေတော်မူသော မြတ်စွာဘုရားကိုမြင်၍ရှိသေစွာရှိခိုးလျက် နေလေလျှင်။ နိဒါနဝဂ် ကဿပ သံယုတ်၌ ဟောအပ်သောနည်းဖြင့် သုံးပါးကုန်သော ဩဝါဒတို့ဖြင့် မြတ်စွာဘုရားသည်ဆုံးမအပ်သည်ဖြစ်၍ပဉ္စင်းဖြစ်လေ၏။ ခုနစ်ရက်အလွန်ရှစ်ရက်မြောက်သောနေ့၌ အရဟတ္တဖိုလ်သို့ရောက်လေ၏။ ဘဒ္ဒါသည်လည်း။ ရဟန်းမိန်းမတို့၏ ကျောင်းသို့ သွား၍ နောက်မျှားမကြာပင်လျှင် အရဟတ္တဖိုလ်သို့ရောက်လေ၏။ ဤသို့ထိုသူနှစ်ယောက်တို့သည် မေထုန်မှကြဉ်ခြင်းဟူသောဗြဟ္မစရိယကိုကျင့်၍အရဟတ္တဖိုလ်သို့ရောက်ကုန်၏။ထို့ကြောင့်ထိုသူတို့၏မေထုန်မှကြဉ်ခြင်းကဲ့သို့အဗြဟ္မစရိယဟုဆိုအပ်သောယုတ်မာခြင်းမမြတ်ခြင်းရှိသော မေထုန်အကျင့်ကိုပြုကျင့်ခြင်းမှကြဉ်ခြင်းဟုဆိုအပ်သော မြတ်သောအကျင့်ဟု ဘုရားချီးမွမ်းတော်မူအပ်သောဗြဟ္မစရိယ တရားကိုကျင့်ခြင်းသည်။ ထိုနှစ်ယောက်ကုန်သောပိပ္ပလိလုလင် ဘဒ္ဒါမည်သောသူတို့သည် အရဟတ္တဖိုလ်သို့ရောက်ကြလေသကဲ့သို့ အရဟတ္တဖိုလ်တိုင်အောင်အကျိုး စီးပွါး များခြင်းသော အကြောင်း ဖြစ်သောကြောင့် မင်္ဂလာမည်၏။

---

၃၃။ အရိယသစ္စာကိုသိမြင်ခြင်း-အရိယသစ္စဒဿနမင်္ဂလာ။

အရိယသစ္စာနဟူသောပုဒ်၏အရသစ္စာကား။ ဒုက္ခသစ္စာ၊ သမုဒယသစ္စာ၊ နိရောဓသစ္စာ၊ မဂ္ဂသစ္စာအားဖြင့်သစ္စာလေးပါးကိုယူအပ်၏" ဒဿနဟူသည်ကား။ ။စတုန္နံအရိယသစ္စာနံအဘိသမယဝသေနမဂ္ဂဒဿနံ။ ။ဟူသောအဋ္ဌကထာပါဠိနှင့် အညီ။ သစ္စာလေးပါးတို့ကိုထိုးထွင်း၍သိသည်၏ အစွမ်းအားဖြင့် မင်္ဂဉာဏ်ဖြင့်မြင်ခြင်းတည်း။ ထိုစကားကိုအကျယ်ပြဆိုဦးအံ့။

ဒုက္ခ၊ သမုဒယ၊ နိရောဓ၊ ဒုက္ခနိရောဓဂါမိနိပဋိပဒါ ဤလေးပါးတို့သည်သဘောကိုမစွန့်သဖြင့် မဘောက်မပြန်မှန်သည့်၏အဖြစ်ကြောင့်သစ္စာမည်ကုန်၏။ ဘုရားအစရှိကုန်သောအရိယာတို့၏သစ္စာ ဖြစ်သောကြောင့် အရိယသစ္စာ မည်ကုန်၏။ တနည်းကား။ ဘုရားသည် အရိယာမည်၏။ အရိယာဖြစ်သောဘုရားသည်သိအပ်သည့်၏အဖြစ်ကြောင့်၎င်း။ ဟောအပ်သည့်၏ အဖြစ်ကြောင့်၎င်း။ ထိုဒုက္ခအစရှိကုန်သောလေးပါးကုန်သောတရားတို့သည်ဘုရား၏ဥစ္စာဖြစ်ကုန်၏။ ထို့ကြောင့် ထိုဘုရား၏ဥစ္စာဖြစ်သောသစ္စာသည် အရိယသစ္စာ မည်ကုန်၏။ တနည်းကား။ ထိုသစ္စာတရားတို့ကိုသိသဖြင့်အရိယာ၏အဖြစ်ပြီးသည့်၏အဖြစ်ကြောင့်လည်းအရိယသစ္စာမည်ကုန်၏။ တနည်းကား။ မဘောက်မပြန်သောသဘောအားဖြင့် သိအပ်သော သစ္စာဖြစ်သောကြောင့်လည်းအရိယသစ္စာမည်ကုန်၏။ အစိုးအပွါး၌ဖြစ်သောကြောင့်အရိယာဟူ၍သမုတ်အပ်ကုန်သော အစိုးအပွါးမဲ့၌ မဖြစ်တတ်သည့်၏အဖြစ်ကြောင့် အရိယာဟူ၍ သမုတ်အပ်ကုန်သောသုံးဆဲ့ခုနစ်ပါးသောဗောဓိပက္ခိယတည်းဟူသောအရိယာတို့၏ တရားနှင့်ယှဉ်သည့်၏အဖြစ်ကြောင့် အရိယာဟူ၍သမုတ်အပ်ကုန်သော ဘုရားပစ္စေကဗုဒ္ဓါ သာဝကတို့သည်သိအပ်သောသစ္စာဖြစ်သောကြောင့်လည်း အရိယသစ္စာမည်ကုန်၏။ ထိုသစ္စာတို့တွင်ရှေး၌ဖြစ်ကုန်သောနှစ်ပါးကုန်သောသစ္စာတို့သည် ဝဋ်တရားဖြစ်ကုန်၏။ နောက်သစ္စာနှစ်ပါးတို့သည် ဝိဝဋ္ဋတရားဖြစ်ကုန်၏။ ထိုသစ္စာတို့တွင် ဝဋ်တရားဖြစ်သောသစ္စာ၌ရဟန်း၏ ကမ္မဋ္ဌာန်းအားဖြင့် နှလုံးသွင်းခြင်းသည် ဖြစ်၏။ ဝိဝဋ္ဋသစ္စာ၌နှလုံးသွင်းခြင်းသည်မရှိ။ ထိုစကားသည်မှန်၏။ ရှေးသစ္စာနှစ်ပါးတို့ကို ပဉ္စက္ခန္ဓာဒုက္ခံတဏှာသမုဒယော ဤသို့အကျဉ်းအားဖြင့်၎င်း။ ကတမေပဉ္စက္ခန္ဓာရူပက္ခန္ဓော ဤသို့အစရှိသောအကျယ်နည်းအားဖြင့်၎င်း။ အရိယာ၏အထံ၌သင်၍ နှုတ်ဖြင့်အဘန်တလဲလဲရွတ် ဘတ်သရဇ္ဈာယ်လျက်။ ကမ္မဋ္ဌာန်းစီး

ဖြန်းသောရဟန်းသည်ကမ္မဋ္ဌာန်းစီးဖြန်းသောအမှုကိုပြု၏။ ဤမှတပါးကျန်သော နှစ်ပါးကျန်သောသစ္စာတို့၌။ နိရောဓသစ္စာ၌ကိုမူကတ္တိမနသပံ။ဟူ၍ကြွေးသောအားဖြင့်သာလျှင်ကမ္မဋ္ဌာန်းစီးဖြန်းခြင်းအမှုကိုပြု၏။ ထိုရဟန်းသည်ဤသို့ပြုသည့်ရှိသော်လေးပါးကျန်သောသစ္စာတို့ကိုတချသောပဋိဝေဓဖြင့်သိ၏။တချသောအဘိသမယဖြင့်သိ၏။ ဒုက္ခကိုပရိညာပဋိဝေဓဖြင့်သိ၏။ သမုဒယကိုပဟာနပဋိဝေဓဖြင့်သိ၏။ နိရောဓကို သစ္ဆိကြိယပဋိဝေဓဖြင့်သိ၏။ မဂ္ဂသစ္စာကို ဘာဝနာပဋိဝေဓဖြင့်သိ၏။ ဒုက္ခကိုပရိညာဘိသမယဖြင့်သိ၏။သမုဒယကိုပဟာနာဘိသမယဖြင့်သိ၏။နိရောဓကိုသစ္ဆိကြိယာဘိသမယဖြင့်သိ၏။ မဂ္ဂကိုဘာဝနာဘိသမယဖြင့်သိ၏။ ဤသို့ထိုရဟန်းအားရှေးအတိုင်း၌ ဒုက္ခသစ္စာသမုဒယသစ္စာတို့၌ သင်ခြင်းမေးမြန်းခြင်းနာခြင်း ဆောင်ခြင်းသုံးသပ်ခြင်းဖြင့် သိခြင်းသည်ဖြစ်၏။ နိရောဓသစ္စာ မဂ္ဂသစ္စာတို့၌နာသောအားဖြင့်သိခြင်းသည်ဖြစ်သလျှင်ကတည်း။နောက်အတိုင်း၌ဒုက္ခသမုဒယမဂ္ဂသစ္စာတို့၌ကိစ္စအားဖြင့်သိခြင်းသည်ဖြစ်၏။ နိရောဓသစ္စာ၌အာရုံအားဖြင့်သိခြင်းသည်ဖြစ်၏။ ။မဟာဝဂ်မဂ္ဂသံယုတ် ပဌမဝဂ်၌ အဋ္ဌမသုတ် အဋ္ဌကထာ။ ။သစ္စဝိဘင်းအဋ္ဌကထာ။ ။အလုံးစုံသောပဋိဝေဓဉာဏ်သည်လည်းလောကုတ္တရာတည်း။ မာခြင်းဆောင်ခြင်း သုံးသပ်ခြင်းဉာဏ်သည်လောကီကာမာဝစရတည်း။ ပစ္စဝေက္ခနာသည်ကား ရအပ်သော သစ္စာရှိသောပုဂ္ဂိုလ်အားဖြစ်၏။ ။သစ္စဝိဘင်းအဋ္ဌကထာ။ ။ဤမဂ်လသုတ်၌လည်း ပဋိဝေဓ၏အစွမ်းဖြင့် သစ္စာအားမြင်ခြင်းကိုရအပ်၏။ ထို့ကြောင့်အဋ္ဌကထာ၌အဘိသမယဝသေနဟူသောစကားကိုလည်း။ ဧကာဘိသမယကိုရည်၍ဆိုအပ်၏။ထို့ကြောင့်သစ္စသံယုတ်တတိယဝဂ်၌ဤသို့ဟောတော်မူ၏။ ။ရဟန်းတို့။ အကြင်ပုဂ္ဂိုလ်သည် ဒုက္ခသစ္စာကိုလည်းမြင်၏။ထိုပုဂ္ဂိုလ်သည်ဒုက္ခသမုဒယသစ္စာကိုလည်းမြင်၏။ ဒုက္ခနိရောဓ သစ္စာကိုလည်းမြင်၏။ ဒုက္ခနိရောဓ ဂါမိနိ ပဋိပဒါဟူ

သောမဂ္ဂသစ္စာကိုလည်းမြင်၏။ အကြင်ပုဂ္ဂိုလ်သည်ဒုက္ခသမုဒယသစ္စာကိုမြင်၏။ ထိုပုဂ္ဂိုလ်သည် ဒုက္ခသစ္စာကိုလည်းမြင်၏။ ဒုက္ခနိရောဓသစ္စာကိုလည်းမြင်၏၊ ဒုက္ခနိရောဓဂါမိနီပဋိပဒါဟူသောမဂ္ဂသစ္စာကိုလည်းမြင်၏။ အကြင်ပုဂ္ဂိုလ်သည်ဒုက္ခနိရောဓသစ္စာကိုမြင်၏။ ထိုပုဂ္ဂိုလ်သည်ဒုက္ခနိရောဓဂါမိနီပဋိပဒါဟူသောမဂ္ဂသစ္စာကိုမြင်၏။ အကြင်ပုဂ္ဂိုလ်သည်ဒုက္ခနိရောဓသစ္စာကိုမြင်၏။ ထိုပုဂ္ဂိုလ်သည်ဒုက္ခသစ္စာကိုလည်းမြင်၏။ ဒုက္ခသမုဒယသစ္စာကိုသည်းမြင်၏။ ဒုက္ခနိရောဓဂါမိနီပဋိပဒါဟူသောမဂ္ဂသစ္စာကိုလည်းမြင်၏။ အကြင်ပုဂ္ဂိုလ်သည်ဒုက္ခနိရောဓဂါမိနီပဋိပဒါဟူသောမဂ္ဂသစ္စာကိုမြင်၏။ ထိုပုဂ္ဂိုလ်သည်ဒုက္ခသစ္စာကိုလည်းမြင်၏။ ဒုက္ခသမုဒယသစ္စာကိုလည်းမြင်၏။ ဒုက္ခနိရောဓသစ္စာကိုလည်းမြင်၏။ ။ဤသို့ဟောတော်မူ၏။ ။ယော ဘိက္ခဝေဒုက္ခံပဿတိဒုက္ခသမုဒယံပိသောပဿတိ။ဤသို့အစရှိသည်ကိုကေပဋိဝေဓ၏အစွမ်းအားဖြင့်ဟောတော်မူ၏။ ထိုစကားသည်မှန်၏။ ဤသုတ်၌ တခုသောဉာဏ်ဖြင့် သစ္စာလေးပါးတို့ကိုသိ၏ဟူ၍ဟောတော်မူ၏။ ။ထိုပါဠိတော် အဋ္ဌကထာ။ ။အကြင်သူသည် သစ္စာလေးပါးကိုမမြင်။ ထိုသူသည် ဒုက္ခကိုမလွန်နိုင်။ ထိုသို့သဘောရှိသောသူအား သံသရာ၏အဓွန့်သည်ရှည်၏။ လေးပါးသောသြဝါဒ၌တဖြောင်းပြန်ပြန်နှစ်ပွန်းရခြင်းသို့ရောက်၏။ အဝိဇ္ဇာအစရှိသောခန္ဓာအာယတနဓာတ်တို့၏မပြတ်ဖြစ်စဉ်ဟူသော သာဂရသမုဒ္ဒရာဝယ် ဇရာမရဏာရန်သူပစ္စတ္ထိကတို့သည် ကာလမစဲအမြဲနှိပ်စက်အပ်သည်ဖြစ်၍ သဲကန္တာရ၌ ကျမ်းသော ဖွဲ့ည်းကျန်သည် အပေါင်းတို့ သည် ပျက်စီးခြင်းသို့ရောက်သကဲ့သို့ရင်း။ ခရီးမှားသော ယောကျ်ား အပေါင်းတို့သည် ဘီလူးပြည်သို့ရောက်လေသောကြောင့် ဘီလူးအပေါင်းတို့သည်စားကြကုန်၍ ပျက်စီးခြင်းရောက်ကြကုန်သကဲ့သို့လောဘဓေါသအစရှိသောဘီလူးအပေါင်းတို့သည်တဖြောင်းပြန်ပြန် စားသောက်နှိပ်စက် ဖျက်ဆီးသည်ကို ခံရကြ

လောကုန်၏ပဟူ၍ ဟောတော်မူ၏။ ။သစ္စာလေးပါးကို မသိ
ခြင်းကြောင့်အပြစ်တည်းဟူသော အာဒီနဝ။ ထို့ကြောင့်ပဌမ
ဂေယျသုတ်၌။ ။ဘိက္ခဝေဒုက္ခံအရိယသစ္စံ အနနုဗုဒ္ဓါပဋိဝိဒ္ဓါ။
ဒုက္ခသမုဒယံ။ဒုက္ခနိရောဓေ။ ဒုက္ခနိရောဓဂါမိနိပဋိပဒါအရိယ
သစ္စံအနနုဗုဒ္ဓံပဋိဝိဒ္ဓံ။ဥဿိန္နာဘဝတဏှာ။ ခီဏာဘဝနေတ္တိ။နတ္ထိ
ဒါနိပုနဗ္ဘဝေါတိ။ ။ဣဒမဝေါစဘဂဝါ၊ဣဒံဝတွာနသုဂတော။
အထာပရံ ဧတဒဝေါစ သတ္ထာ။ ။စတုန္နံအရိယသစ္စာနံ။ ယ
ထာဘူတံအဒဿနာ။ သံသရိတံဒီဃမဒ္ဓါနံ။ တာသုတာသွေဝ
ဇာတိသု။ ။ယာနိဧတာနိဒိဋ္ဌာနိ။ ဘဝနေတ္တိ သမူဟတာ။
ဥစ္ဆိန္နမူလံဒုက္ခဿ။ နတ္ထိဒါနိပုနဗ္ဘဝေါ။ ။ဟူ၍ ဟောတော်မူ
၏။ ။ဘိက္ခဝေ။ရဟန်းတို့။ဒုက္ခံအရိယသစ္စံ။ဒုက္ခဟူသောအရိ
ယသစ္စာကို၊ အနနုဗုဒ္ဓံ။ လျှောက်ပတ်စွာသိအပ်ပြီ။ ပဋိဝိဒ္ဓံ။ ထိုး
ထွင်း၍သိအပ်ပြီ။ ဒုက္ခသမုဒယံ။ ဒုက္ခသမုဒယဟူသောအရိယ
သစ္စာကို။အနနုဗုဒ္ဓံ။လျှောက်ပတ်စွာသိအပ်ပြီ။ပဋိဝိဒ္ဓံ။ထိုးထွင်း၍
သိအပ်ပြီ။ ဒုက္ခနိရောဓေ။ ဒုက္ခနိရောဓဟူသော အရိယသစ္စာ
ကို။အနနုဗုဒ္ဓံ။လျှောက်ပတ်စွာသိအပ်ပြီ။ပဋိဝိဒ္ဓေါ။ ထိုးထွင်း၍သိ
အပ်ပြီ။ဒုက္ခနိရောဓဂါမိနိပဋိပဒါအရိယသစ္စံ။ဒုက္ခနိရောဓဂါမိနိ
ပဋိပဒါဟူသောအရိယသစ္စာကို။ အနနုဗုဒ္ဓံ။ လျှောက်ပတ်စွာသိ
အပ်ပြီ။ ပဋိဝိဒ္ဓံ။ထိုးထွင်း၍သိအပ်ပြီ။ ဘဝတဏှာ။ ဘဝတဏှာ
ကို။ဥစ္ဆိန္နာ။ဖြတ်အပ်ပြီ၊ ဘဝနေတ္တိ။ဘဝသို့ဆောင်ကြောင်းဖြစ်
သောတဏှာကြိုးသည်။ခီဏာ။ကုန်ပြီ၊ဒါနိ။ယခု။ပုနဗ္ဘဝေါ။ဘဝ
သစ်သည်။နတ္ထိ။မရှိ။ ဣတိဣဒံဝစနံ။ဤစကားကို။ ဘဂဝါ၊မြှန်း
တော်ကြီးသောမြတ်စွာဘုရားသည်။ အဝေါစ။ ဟောတော်မူ
ပြီ။ သုဂတော။ ကောင်းသောစကားကိုဆိုတော်မူတတ်သော
မြတ်စွာဘုရားသည်။ ဣဒံဝစနံ။ ဤစကားကို။ ဝတွာန။ ဟော
တော်မူပြီး၍။ သတ္ထာ။ နတ်လူနှင့်တကွသောလူကို ဆုံးမတော်မူ
တတ်သောမြတ်စွာဘုရားသည်။အထာပရံ။ထိုမှတပါးသော။ဧ
တံဝစနံ။ စတုန္နံအရိယသစ္စာနံအစရှိသောထိုစကားကို။ အဝေါ

စ။ဟောတော်မူပြီ။စတုန္နံ။လေးပါးကုန်သော။အရိယသစ္စာနံ။အရိယသစ္စာတို့ကို။ယထာဘူတံ။အဟုတ်အမှန်။အဒဿနာ။ မမြင်ခြင်းကြောင့်။ ဒီဃံ။ရှည်စွာသော။အဒ္ဓါနံ။ကာလပတ်လုံး။ တာသုတာသုဝေဇာတိသု။ထိုထိုဘဝတို့၌လျှင်။ သံသရိတံ။ရဟော့ပဋိသန္ဓေ၏အစွမ်းအားဖြင့် အဘန်တလဲလဲကျင်လည်အပ်ပြီ။ ယာနိ။အကြင်သစ္စာတို့သည်။သန္တိ။ရှိကုန်၏။ တာနိ။ထိုသစ္စာတို့ကို။ဒိဋ္ဌာနိ။မြင်အပ်ကုန်ပြီ။ ဘဝနေတ္တိ။ ဘဝသို့ဆောင်ကြောင်းဖြစ်သောတဏှာကြိုးကို။သမူဟတာ။နုတ်အပ်ပြီ။ဒုက္ခဿ။ ဒုက္ခ၏။မူလံ။အရင်းကို။ဥစ္ဆိန္နံ။ဖြတ်အပ်ပြီ။ဒါနိ။ယခုပုနဗ္ဘဝေါ။ဘဝသစ်၌ဖြစ်ခြင်းသည်။ နတ္ထိ။ မရှိ။ ။ဤသို့ဟောတော်မူသောဒေသနာတော်နှင့် အညီ သစ္စာ လေးပါးကို ဟုတ်မှန် သည် အတိုင်း လျှောက်ပတ်စွာသိခြင်း။ ထိုးထွင်း၍သိခြင်းတို့ဖြင့်သိနိုင်သော အနုဗုဒ္ဓပဋိဝိဒ္ဓဉာဏ်နှင့်ပြည့်စုံမှသာလျှင်။ဒုက္ခဿမူလဥစ္ဆိန္နအဖြစ်သို့ရောက်နိုင်မည်။ ထိုအရိယသစ္စာဟူသောသစ္စာလေးပါးတရားတို့ကို အဟုတ်အမှန်အားဖြင့် လျှောက်ပတ်စွာ မမြင်နိုင်ခြင်းတည်းဟူသော အဒဿနပုဂ္ဂိုလ်တို့သည်ကား။ ဒီဃမဒ္ဓါနအဖြစ်သို့ရောက်၍သံသရာအဋ္ဋနံ့တို့သည် ရှည်ကုန်သည်ဖြစ်၍။ ဒုက္ခဒေါမနဿ အစရှိသော တဆဲ့ တပါးသော မီးပုံကြီးတို့သည် ငြီးငြီးပြောင်ပြောင် တောက်လောင် စွဲငြိခြင်းတည်းဟူသောလောင်စာ၏အဖြစ်မှမလွန်နိုင်ကုန်ပြီ။ ထို့ကြောင့်ဆိုအပ်ပြီးသောပဌမဂေယျသုတ်၌။ ။ယေနဒုက္ခံနပ္ပဇာနန္တိ။အထောဒုက္ခဿသမ္ဘဝံ။ယတ္ထစသဗ္ဗသောဒုက္ခံ။အသေသံဥပရုဇ္ဈတိ။တံစမဂ္ဂံနဇာနန္တိ။ဒုက္ခူပသမဂါမိနံ။ ။စေတောဝိမုတ္တိဟီနာတေ။အထောပညာဝိမုတ္တိယာ။ အဘဗ္ဗာတေအန္တကြိယာယ။ တေဝေဇာတိဇရူပဂါ။ ။ယေစဒုက္ခံပဇာနန္တိ။ အထောဒုက္ခဿသမ္ဘဝံ။ယတ္ထစသဗ္ဗသောဒုက္ခံ။ အသေသံဥပရုဇ္ဈတိ။ တံစမဂ္ဂံပဇာနန္တိ။ ဒုက္ခူပသမဂါမိနံ။ စေတောဝိမုတ္တိသမ္ပန္နာ။ အထောပညာဝိမုတ္တိယာ။ ဘဗ္ဗာတေအန္တကြိယာယ။ နတေဇာတိဇရူပ

ဂါ။ ။ဟူ၍ဟောတော်မူ၏။ ။သုတ္တနိပါတ်တတိယဝဂ်ဒွယဝေဒနုပဿနာသုတ်၌လည်းထိုအတူလျှင်ဟော၏။ ။ယေ၊အကြင်သူတို့သည်။ဒုက္ခံ။ဒုက္ခကို။ နပ္ပဇာနန္တိ။မသိကုန်။ အထော။ထို့မှတပါး။ဒုက္ခသ။ဒုက္ခ၏။သမ္ဘဝံ။ အကြောင်းဖြစ်သောသမုဒယသစ္စာကို။ နပ္ပဇာနန္တိ။မသိကုန်။ ယတ္ထ။အကြင်နိဗ္ဗာန်၌။ သဗ္ဗသောသဗ္ဗပကာရံ။ ခပ်သိမ်းသောအခြင်းအရာအားဖြင့်အပြားရှိသော။ဒုက္ခံ။ဒုက္ခသည်။အသေသံ။အကြွင်းမဲ့။ဥပရုဇ္ဈတိ။ချုပ်၏။တဉ္စ။ထိုနိဗ္ဗာန်ကိုလည်း။ နပ္ပဇာနန္တိ။မသိကုန်။ ဒုက္ခုပသမဂါမိနံ။ဒုက္ခ၏ငြိမ်းရာနိဗ္ဗာန်သို့သွားကြောင်းဖြစ်သော။တံမဂ္ဂံ။ထိုအဋ္ဌင်္ဂိကမဂ်ကိုလည်း။နဇာနန္တိ။မသိကုန်။ တေ။ထိုသူတို့သည်။စေတောဝိမုတ္တိဟီနာ။အရဟတ္တဖိုလ်သမာဓိမှယုတ်ကုန်၏။ အထော။ထို့မှတပါး။ ပညာဝိမုတ္တိယာ။အရဟတ္တဖိုလ်ပညာမှ။ ဟီနာ။ယုတ်ကုန်၏။တေ။ထိုသူတို့သည်။အန္တကြိယာယ။ ဝဋ်ဆင်းရဲ၏အဆုံးကိုပြုခြင်းငှါ။ အဘဗ္ဗာ။မထိုက်ကုန်။ တေ။ ထိုသူတို့သည်။ဝေ။စင်စစ်။ ဇာတိဇရူပဂါ။ ပဋိသန္ဓေနေခြင်းအိုခြင်းသို့ကပ်ကုန်၏။ ။ယေ။အကြင်သူတို့သည်။ဒုက္ခဉ္စ။ ဒုက္ခကိုလည်း။ပဇာနန္တိ။သိကုန်၏။ အထော။ထို့မှတပါး။ဒုက္ခသ။ဒုက္ခ၏။ သမ္ဘဝံ။ အကြောင်းဖြစ်သောသမုဒယသစ္စာကိုလည်း။ ပဇာနန္တိ။ သိကုန်၏။ယတ္ထ။အကြင်နိဗ္ဗာန်၌။ သဗ္ဗသော။ခပ်သိမ်းသောအပြားရှိသော။ဒုက္ခံ။ဒုက္ခသည်။ အသေသံ။အကြွင်းမဲ့။ ဥပရုဇ္ဈတိ။ချုပ်၏။တဉ္စ။ထိုနိဗ္ဗာန်ကိုလည်း။ပဇာနန္တိ။သိကုန်၏။ ဒုက္ခုပသမဂါမိနံ။ဒုက္ခ၏ငြိမ်းရာနိဗ္ဗာန်သို့သွားကြောင်းဖြစ်သော။တဉ္စမဂ္ဂံ။ထိုအဋ္ဌင်္ဂိကမဂ်ကိုလည်း။ ပဇာနန္တိ။ သိကုန်၏။ တေ။ ထိုသူတို့သည်။ စေတောဝိမုတ္တိသမ္ပန္နာ။ အရဟတ္တဖိုလ်သမာဓိနှင့်ပြည့်စုံကုန်၏။အထော။ထို့မှတပါး။ပညာဝိမုတ္တိယာ။ အရဟတ္တဖိုလ်ပညာနှင့်။သမ္ပန္နာ။ပြည့်စုံကုန်၏။ တေ။ ထိုသူတို့သည်။အန္တကြိယာယ။ ဝဋ်ဆင်း၏ အဆုံးကိုပြုခြင်းငှါ။ ဘဗ္ဗာ။ ထိုက်ကုန်၏။ တေ။ထိုသူတို့သည်။ဇာတိဇရူပဂါ။ပဋိသန္ဓေနေခြင်းအိုခြင်းသို့

ကပ်ကုန်သည်။ နဟောန္တိ။ မဖြစ်ကုန်။ ။ဤသို့သစ္စာကိုမြင်ကုန်၍ သံသရာဆင်းရဲကို လွန်ကုန်သောသူတို့သည် အရေအတွက်၏လမ်းကိုလွန်ကုန်ပြီ။ ဝဏ္ဏတို့ဖြင့်အဘယ်ပြရန်ရှိတော့အံ့နည်း။ ။ထို့ကြောင့်။ ။အရိယသစ္စာနဒဿနံနာမစတုန္နံ အရိယသစ္စာနံအဘိသမယဝသေနမဂ္ဂဒဿနံ။ တံသံသာရဒုက္ခဝိတိက္ကမဟေတုတော မင်္ဂလန္တိ ဝုစ္စတိ။ ။ဟုဟောတော်မူ၏။ ။အရိယသစ္စာနဒဿနံနာမ။ အရိယသစ္စာနဒဿနမည်သည်ကား။ စတုန္နံ။လေးပါးကုန်သော။ အရိယသစ္စာနံ။အရိယသစ္စာတို့ကို။အဘိသမယဝသေန။သိသည်၏အစွမ်းအားဖြင့်။ မဂ္ဂဒဿနံ။မဂ်ဖြင့်မြင်ခြင်းတည်း။တံ။ထိုလေးပါးကုန်သောအရိယသစ္စာတို့ကိုသိသည်၏အစွမ်းအားဖြင့်မဂ်ဖြင့်မြင်ခြင်းကို။ သံသာရဒုက္ခဝိတိက္ကမဟေတုတော။ သံသရာဆင်းရဲကိုလွန်ခြင်း၏အကြောင်းဖြစ်ခြင်းကြောင့်။ မင်္ဂလန္တိ။မင်္ဂလာဟူ၍။ ဝုစ္စတိ။ဆိုအပ်၏။

---

## ၃၄။ အရဟတ္တဖိုလ်နိဗ္ဗာန်ကိုမျက်မှောက်ပြုခြင်း- နိဗ္ဗာနသစ္ဆိကိရိယာမင်္ဂလာ။

နိဗ္ဗာန်မည်သည်ကားပရိယာယ်အားဖြင့် နှစ်ပါးအပြားရှိ၏။ ထို့ကြောင့် ဣတိဝုတ်ဒုတိယဝဂ် သတ္တမ သုတ်၌။ ။ဒွေမာဘိက္ခဝေနိဗ္ဗာနဓာတုယော။ကတမာဒွေ။ သဥပါဒိသေသာနိဗ္ဗာနဓာတုအနုပါဒိသေသာနိဗ္ဗာနဓာတု။ ကတမာစဘိက္ခဝေသဉပါဒိသေသာနိဗ္ဗာနဓါတု။ဣဓဘိက္ခဝေဘိက္ခုအရဟံဟောတိခီဏာသဝေါဝုသိတဝါကတကရဏီယော ဩဟိတဘာရောအနုပ္ပတ္တသဒတ္ထော ပရိက္ခီဏ ဘဝ သံယော ဇနော သမ္မဒညာဝိမုတ္တော။ တဿတိဋ္ဌန္တေဝပဉ္စိန္ဒြိယာနိယေသံအဝိဂတတ္တာမနာပါမနာပံပစ္စနုဘောတိ။သုခဒုက္ခံပစ္စနုဘောတိ။တဿယောရာဂက္ခယောဒေါသက္ခယော မောဟက္ခယော အယံဝုစ္စတိ ဘိက္ခု

ဝေသဥပါဒိသေသာနိဗ္ဗာနဓာတု။ ကတမာစဘိက္ခဝေအနုပါဒိ
သေသာနိဗ္ဗာနဓာတု။ဣဓဘိက္ခဝေဘိက္ခုအရဟံဟောတိ။ လ။
သမ္မဒညာဝိမုတ္တော။တဿဣဓေဝဘိက္ခဝေသဗ္ဗဝေဒယိတာနိ
အနဘိနန္ဒိတာနိသီတိဘဝိဿန္တိ။ အယံဝုစ္စတိဘိက္ခဝေအနုပါဒိ
သေသာနိဗ္ဗာနဓာတု။ ဣမာခေါဘိက္ခဝေ ဒွေနိဗ္ဗာနဓာတုယော
တိ။ ဧတမတ္ထံဘဂဝါအဝေါစ။ တတ္ထေတံဣတိဝုစ္စတိ။ ဒွေမာ
စက္ခုမတာပကာသိတာ။နိဗ္ဗာနဓာတုအနိဿိတေနတာဒိနာ။
ဧကာယံဓာတုဣဓဒိဋ္ဌဓမ္မိကာ။ သဥပါဒိသေသာ ဘဝနေတ္တိခ
ယာ။ အနုပါဒိသေသာပနသမ္ပရာယိကာ။ ယမှိနိရုဇ္ဈန္တိဘဝါနိ
သဗ္ဗသော။ ။ယေဝတဒညာယပဒံအသင်္ခတံ။ဝိမုတ္တစိတ္တာဘဝ
နေတ္တိသင်္ခယာ၊တေဓမ္မသာရာဓိဂမာခယေရတာ။ ပဟံသုတေ
သဗ္ဗဘဝါနိတာဒိနောတိ။ ။ဟူ၍ဟောတော်မူ၏။ ။ဘိက္ခ
ဝေ။ရဟန်းတို့။ နိဗ္ဗာနဓာတုယော။နိဗ္ဗာနဓာတ်တို့သည်။ ဣမာ
ဒွေ၊ ဤနှစ်ပါးတို့တည်း။ ဒွေ။ နှစ်ပါးကုန်သော နိဗ္ဗာနဓာတ်တို့
သည်။ကတမာ။အဘယ်သည်တို့နည်းဟူမူကား။သဥပါဒိသေ
သာ။သဥပါဒိသေသဖြစ်သော။ နိဗ္ဗာနဓာတု။ နိဗ္ဗာနဓာတ်။အနု
ပါဒိသေသာ။ အနုပါဒိသေသဖြစ်သော။ နိဗ္ဗာနဓာတု။ နိဗ္ဗာန
ဓာတ်။ ဣမာ။ဤသည်တို့တည်း။ ဘိက္ခဝေ။ တို့။ သဥပါဒိသေ
သာ။သဥပါဒိသေသဖြစ်သော။နိဗ္ဗာနဓါတု။ နိဗ္ဗာနဓာတ်သည်။
ကတမါစ။အဘယ်နည်းဟူမူကား။ဘိက္ခဝေ။တို့။ဣဓ၊ဤသာသ
နာတော်၌၊ဘိက္ခု။ရဟန်းသည်။အရဟံ။ဝေးစွာပယ်အပ်ပြီးသော
ကိလေသာရှိသည်။ဟောတိ။ဖြစ်၏။ခီဏာသဝေါ။ကုန်ပြီးသော
အာသဝေါရှိသည်။ဟောတိ။ဖြစ်၏။ဝုသိတဝါ။ကျင့်အပ်ပြီးသော
အရိယမဂ်အရိယဖိုလ်ရှိသည်။ ဟောတိ။ဖြစ်၏။ ကတကရဏီ
ယော။ မဂ်ဖြင့်ပြုအပ်ပြီးသော တဆဲ့ခြောက်ပါးသော ကိစ္စရှိ
သည်။ဟောတိ။ ဖြစ်၏။ ဩဟိတဘာရော။ချအပ်ပြီးသောခန္ဓာ
ဟူသောဝန်၊ကိလေသာဟူသောဝန်၊ကုသိုလ်အကုသိုလ်ကံဟူ
သောဝန်ရှိသည်။ ဟောတိ။ဖြစ်၏။ အနုပ္ပတ္တသဒတ္ထော။မိမိ၏အ

ကျိုးဟူသောအရဟတ္တဖိုလ်သို့ရောက်ပြီးသည်။ ဟောတိ။ ဖြစ်၏။ ပရိက္ခီဏဘဝသံယောဇနော၊ ကုန်ပြီးသောဘဝတို့၌သတ္တဝါတို့ကိုယှဉ်စေတတ်သောကာမရာဂအစရှိသောသံယောဇဉ်ရှိသည်။ ဟောတိ။ဖြစ်၏။သမ္မာ။ကောင်းစွာ။ အညာ။ဒုက္ခအစရှိသည်တို့၌သိအပ်သောတရားကိုအရဟတ္တမဂ်ဉာဏ်ဖြင့်သိ၍။ဝိမုတ္တော။စိတ်၏ခပ်သိမ်းသောကိလေသာတို့မှလွတ်ခြင်းနိဗ္ဗာန်သို့ညွှတ်ခြင်းဟူသောဝိမုတ္တိနှစ်ပါးရှိသည်။ ဟောတိ။ ဖြစ်၏။ တဿ။ထိုရဟန္တာအား။ ယေသံ။ အကြင်စက္ခုအစရှိကုန်သောဣန္ဒြေတို့၏။ အဝိဂတတ္တာ။ အနုပ္ပါဒနိရောဓ၏အစွမ်းအားဖြင့်မချုပ်သေးသည်၏အဖြစ်ကြောင့်။ ပဉ္စိန္ဒြိယာနိ။ စက္ခုအစရှိကုန်သောငါးပါးကုန်သောဣန္ဒြေတို့သည်။ တိဋ္ဌန္တေဝ။ တည်ကုန်သလျှင်ကတည်း။ သော။ထိုရဟန္တာသည်။ မနာပါမနာပံ။ နှစ်သက်ဘွယ်ရှိသော နှစ်သက်ဘွယ်မရှိသော ရူပါရုံအစရှိသည်ကို။ပစ္စနုဘောတိ။ခံစားရ၏။ သုခဒုက္ခံ။ချမ်းသာဆင်းရဲကို။ပစ္စနုဘောတိ။ ခံစားရ၏။ တဿ။ ထိုရဟန္တာ၏။ ယောရာဂက္ခယော။အကြင်ရာဂ၏ကုန်ခြင်းသည်။ ယောဒေါသက္ခယော။ အကြင်ဒေါသ၏ ကုန်ခြင်းသည်။ ယောမောဟက္ခယော။ အကြင်မောဟ၏ကုန်ခြင်းသည်။ အတ္ထိ။ရှိ၏။ ဘိက္ခဝေ။တို့။ အယံ။ ဤခန္ဓာငါးပါးရှိသောရဟန္တာ၏ ရာဂဒေါသမောဟ၏ ကုန်ခြင်းကို။ သဥပါဒိသေသနိဗ္ဗာနဓာတု။ သဥပါဒိသေသနိဗ္ဗာနဓာတ်ဟူ၍။ဝုစ္စတိ။ဆိုအပ်၏။ဘိက္ခဝေ။တို့။ အနုပါဒိသေသနိဗ္ဗာနဓာတု။ အနုပ္ပါဒိသေသနိဗ္ဗာနဓာတ်သည်။ ကတမာစ၊ အဘယ်နည်းဟူမူကား။ဘိက္ခဝေ။တို့။ ဣဓ။ဤသာသနာတော်၌။ဘိက္ခု။သည်။ အရဟံ။ ဝေးစွာပယ်အပ်ပြီးသော ကိလေသာရှိသည်။ ဟောတိ။ဖြစ်၏။ခီဏာသဝေါ။ကုန်ပြီးသောအာသဝေါရှိသည်။ ဟောတိ။ဖြစ်၏။ဝုသိတဝါ။ ကျင့်အပ်ပြီးသောအရိယမဂ်အရိယဖိုလ်ရှိသည်။ ဟောတိ။ ဖြစ်၏။ ကတကရဏီယော။ မဂ်ဖြင့်ပြုအပ်ပြီးသောတဆဲ့ခြောက်ပါးသောကိစ္စရှိသည်။ ဟောတိ။ဖြစ်

၏။ပြဟိတဘာရော။ချအပ်ပြီးသော်ခန္ဓါဟူသော်ဝန်ကိလေသာ
ဟူသောဝန်ကုသိုလ်အကုသိုလ်ကံဟူသောဝန်ရှိသည်။ဟောတိ။
ဖြစ်၏။အနုပ္ပတ္တသဒတ္ထော။ မိမိ၏အကျိုးဟူသောအရဟတ္တဖိုလ်
သို့ရောက်ပြီးသည်။ဟောတိ။ဖြစ်၏။ ပရိက္ခီဏဘဝသံယောဇ
နော။ ကုန်ပြီးသောဘဝတို့၌သတ္တဝါတို့ကိုယှဉ်စေတတ်သော
ကာမရာဂအစရှိသော်သံယောဇဉ်ရှိသည်။ဟောတိ။ဖြစ်၏။သမ္မာ။
ကောင်းစွာ။ အညာ။ဒုက္ခအစရှိသည့်တို့၌သိအပ်သောတရားကို
အရဟတ္တမဂ်ဉာဏ်ဖြင့်သိ၍။ ဝိမုတ္တော။ စိတ်၏ခပ်သိမ်းသော
ကိလေသာတို့မှလွတ်ခြင်း နိဗ္ဗာန်သို့ညွတ်ခြင်းဟူသော ဝိမုတ္တိ
နှစ်ပါးရှိသည်။ ဟောတိ။ဖြစ်၏။ ဘိက္ခဝေ။တို့။ တဿ။ ထိုရ
ဟန္တာ၏။ဣဓေဝ။ဤအတ္တဘော၌လျှင်။ အနဘိနန္ဒိတာနိ။တဏှာ
အစရှိသည့်တို့သည် မနှစ်သက် အပ်ကုန်သော။ သဗ္ဗဝေဒယိ
တာနိ။ သုခအစရှိကုန်သောခပ်သိမ်းသော အဇ္ဈာကတဝေဒနာ
တို့သည်။ သီတိ။ စင်စစ်ငြိမ်းခြင်းအားဖြင့်ငြိမ်းကုန်သည်။ ဘ
ဝိဿန္တိ။ ဖြစ်ကုန်လတ္တံ့။ တနည်းကား။ သီတိဘဝိဿန္တိ။ တ
ဘန်ပဋိသန္ဓေနေခြင်းမရှိ ချုပ်ခြင်းဖြင့်ချုပ်ကုန်၏။ ဘိက္ခဝေ။
တို့။အယံ။ ဤရဟန္တာ၏ဝေဒနာအစရှိကုန်သောခန္ဓာငါးပါးတို့၏
တဘန် ပဋိသန္ဓေနေခြင်းမရှိသော ချုပ်ခြင်းဖြင့် ချုပ်သော သ
ဘောကို။ အနုပါဒိသေသနိဗ္ဗာနဓာတု။ အနုပါဒိသေသနိဗ္ဗာန
ဓာတ်ဟူ၍။ ဝုစ္စတိ။ ဆိုအပ်၏။ ဘိက္ခဝေ။ တို့။ ဒွေ။ နှစ်ပါးကုန်
သော။ နိဗ္ဗာနဓာတုယော။နိဗ္ဗာနဓာတ်တို့သည်။ ဣမာခေါ။ ဤ
သည်တို့တည်း။ဣတိ။ဤသို့။ဘဂဝါ။မြတ်စွာဘုရားသည်။ ဧတ
မတ္ထံ။ထိုအနက်ကို။အဝေါစ။ဟောတော်မူပြီ။တတ္ထ။ထိုအနက်၌။
ဣတိ။ဤသို့။ ဧတံဝစနံ။ထိုစကားကို။ ဝုစ္စတိ။ဆိုအပ်၏။ စက္ခုမ
တာ။ ဗုဒ္ဓစက္ခု၊မံသစက္ခု၊ဒိဗ္ဗစက္ခု၊ပညာစက္ခု၊ သမန္တစက္ခု၊ဟူ
သောငါးပါးသောစက္ခု၊ရှိတော်မူသော။အနိဿိတေန။တဏှာ
ဒိဋ္ဌိတို့၏ မှီရာ၏အစွမ်းအားဖြင့် တစုံတခုသောတဏှာကို မမှီ
တသော။တနည်းကား။အနိဿိတေန။ရာဂအနှောင်အဖွဲ့အစရှိ

သည်တို့ဖြင့်နှောင်ဖွဲ့သောအားဖြင့် တစုံတခုသောတရားကိုမ မှီထသော။ တာဒိနာ။ ဣဋ္ဌာရုံအစရှိသည်တို့၌တုသောသဘော ရှိသည်၏ အဖြစ်ဟုဆိုအပ်သော သည်းခံခြင်း ရှိတော် မူသော မြတ်စွာဘုရားသည်။ ဒွေ။ နှစ်ပါးကုန်သော။ ဣမာနိဗ္ဗာနဓာတူ။ ဤ နိဗ္ဗာနဓာတ်တို့ကို။ ပကာသိတာ။ ပြအပ်ကုန်ပြီ။ ဣဓ။ ဤနှစ်ပါး ကုန်သောနိဗ္ဗာနဓာတ်တို့တွင်။ ဒိဋ္ဌဓမ္မိကာ။ မျက်မှောက်သော အတ္တဘော၌ ဖြစ် သော။ ဘဝနေတ္တိခယာ။ ဘဝ သို့ ဆောင် ကြောင်းဖြစ်သော တဏှာ၏ကုန်ရာဟူသော။ ဧကာ။ တပါး သော။အယံဓာတု။ဤနိဗ္ဗာနဓာတ်သည်။သဉပါဒိသေသာ။သဉ ပါဒိသေသနိဗ္ဗာနဓာတ်မည်၏။ ယမ္ဟိ။ အကြင် အနုပ္ပါဒိသေသ နိဗ္ဗာန်၌။ ဘဝါနိ။ဥပပတ္တိဘဝတို့သည်။ သဗ္ဗသော။ အချင်းခပ် သိမ်းအားဖြင့်။ နိရုဇ္ဈန္တိ။ချုပ်ကုန်၏။ သမ္ပရာယိကာ။ ခန္ဓာပျက် သည်၏နောက်အတ္တိုဖြစ်သော။ အယံပန။ ဤနိဗ္ဗာန္နဓာတ်သည် ကား။ အနုပ္ပါဒိသေသာ။ အနုပ္ပါဒိသေသ နိဗ္ဗာနဓာတ်မည်၏။ ယေဝ။အကြင်ပုဂ္ဂိုလ်တို့သည်သာလျှင်။ အသင်္ခတံ။အကြောင်း တရားတို့သည်မပြုပြင်အပ်သော။ တံပဒံ။ ထိုနိဗ္ဗာန်ကို။အညာ ယ။သိ၍။ ဝိမုတ္တစိတ္တာ။ ကိလေသာမှလွတ်သောစိတ်ရှိကုန်၏။ ဘဝနေတ္တိသင်္ခယာ။ ဘဝသို့ဆောင်ကြောင်းဖြစ်သောတဏှာ ၏ကုန်ခြင်းရှိကုန်၏။တေ။ထိုပုဂ္ဂိုလ်တို့သည်။ဓမ္မသာရာဓိဂမာ။ တရားတို့၌ အနှစ် ဖြစ်၍ ဖြစ်သော အရဟတ္တ ဖိုလ် ကို ရခြင်း ကြောင့်။ခယေ။ ရာဂအစရှိသည်တို့၏ကုန်ရာဖြစ်သောနိဗ္ဗာန်၌။ ရတာ။မွေ့လျော်ကုန်၏။ တနည်းကား။ ဓမ္မသာရာဓိဂမာ။ တ ရားတို့၌မြတ်သောနိဗ္ဗာန်ကိုရသည်၏အဖြစ်ကြောင့်။ခယေ။ခပ် သိမ်းသောသင်္ခါရတို့၏ကုန်ရာဖြစ်သောအနုပါဒိသေသနိဗ္ဗာန် ၌။ ရတာ။မွေ့လျော်ကုန်၏။ တာဒိနော။ဣဋ္ဌာရုံအစရှိသည်တို့၌ တူသောသဘောရှိသည်၏အဖြစ်ဟုဆိုအပ်သော သည်းခံခြင်း ရှိကုန်သော။ တေ။ ထိုပုဂ္ဂိုလ်တို့သည်။ သဗ္ဗဘဝါနိ။ခပ်သိမ်း ကုန်သောဘဝတို့ကို။ ပဟံသု။ စွန့်ကုန်ပြီ။ ။ဤသို့ထိုနိဗ္ဗာန်

သည်ပရိယာယအားဖြင့်နှစ်ပါးအပြားရှိ၏။ရထဝိနီတသုတ်အဋ္ဌ
ကထာ။ ။ဤမင်္ဂလသုတ်၌လည်း။ အရဟတ္တဖိုလ်သည်သာ
လျှင်နိဗ္ဗာန်မည်၏။ထို့ကြောင့်အဋ္ဌကထာ၌။ ။ဣဓအရဟတ္တဖ
လံနိဗ္ဗာနန္တိအဓိပ္ပေတံ။ တမ္ပိဟိပဉ္စဂတိဝါနေနဝါနသညိတာယ
တဏှာယနိက္ခန္တတ္တာ နိဗ္ဗာနန္တိ ဝုစ္စတိဣတရေသ ပနနိဗ္ဗာနဿ
အရိယသစ္စာနဒဿနေနေဝသစ္ဆိကြိယာသိဒ္ဓါ။တေနေတံဣဓန
အဓိပ္ပေတံ။ ။ဟုမိန့်ဆိုတော်မူ၏။ ။ဣဓ။ဤနိဗ္ဗာနသစ္ဆိကြိ
ယာဟူသောပါဌ်၌။အရဟတ္တဖလံ။အရဟတ္တဖိုလ်ကို။ နိဗ္ဗာနန္တိ။
နိဗ္ဗာန်ဟူ၍။အဓိပ္ပေတံ။အလိုရှိအပ်၏။ဟိသစ္စံ။မှန်၏။ တမ္ပိ။ထိုအ
ရဟတ္တဖိုလ်ကိုလည်း။ပဉ္စဂတိဝါနေန။၅ပါးသောဂတိတို့ကိုချုပ်
စပ်တတ်သည်၏အဖြစ်ကြောင့်။ဝါနသညိတာယ။ဝါနဟုသမုတ်
အပ်သော။တဏှာယ။တဏှာမှ။ နိက္ခန္တတ္တာ။ ဝိသယာတိက္ကမန
အားဖြင့်ထွက်မြောက်သည်၏အဖြစ်ကြောင့်။ နိဗ္ဗာနန္တိ။ နိဗ္ဗာန်
ဟူ၍။ ဝုစ္စတိ။ ဆိုအပ်၏။ ဣတရေသ။ အရဟတ္တဖိုလ်မှတပါး
သော။ နိဗ္ဗာနဿပန။ အသင်္ခတဓာတ်နိဗ္ဗာန်ကိုကား။ အရိယ
သစ္စာနဒဿနေနေဝ။ အရိယသစ္စာတို့ကိုမဂ်ဖြင့်မြင်သဖြင့်သာ
လျှင်။သစ္ဆိကြိယာ။မျက်မှောက်ပြုခြင်းသည်၊ သိဒ္ဓါ။ပြီး၏။တေ
န။ထိုကြောင့်။ ဧတံ။ထိုအသင်္ခတဓာတ်နိဗ္ဗာန်ကို။ ဣဓ။ဤနိဗ္ဗာန
သစ္ဆိကြိယာဟူသောပါဌ်၌။ နအဓိပ္ပေတံ။အလိုမရှိအပ်။ ။အ
ဘိဓမ္မတ္ထသင်္ဂဟဋီကာ၌ကား။ ။ဘဝါဘဝံဝိနနတောသံသိဗ္ဗ
နတော ဝါနသင်္ခါတာယတဏှာယ နိက္ခန္တံ။ နိဗ္ဗာတိဝါဧတေန
ရာဂဂ္ဂိအာဒိကောတိနိဗ္ဗာနံ။ ။ဟုမိန့်ဆို၏။ ။ဘဝါဘဝံ။ဒုဂ္ဂ
တိသုဂတိ၏အစွမ်းအားဖြင့်ရင်း အယုတ်အမြတ်၏ အစွမ်းအား
ဖြင့်ရင်း ငယ်သောဘဝကြီးသောဘဝကို။ ဝိနနတော။သံသိဗ္ဗန
တော။ အောက်အထက် ပြန်သည်၏အစွမ်းအားဖြင့် စပ်တတ်
သည်၏အဖြစ်ကြောင့်။ ဝါနသင်္ခါတာယ။ဝါနဟုဆိုအပ်သော။
တဏှာယ။တဏှာမှ။ယံဓမ္မဇာတံ။အကြင်အသင်္ခတဓါတ်တရား
သည်။နိက္ခန္တံ။ဝိသယာတိက္ကမန၏အစွမ်းအားဖြင့်လွန်၏။ ဣတိ

တသ္မာ။ ထိုကြောင့်။ တံဓမ္မဇာတံ။ ထိုအသင်္ခတဓာတ်တရားသည်။ နိဗ္ဗာနံ။ နိဗ္ဗာန်မည်၏။ ဝါ။ တနည်း ကား။ ဧတေန။ ထိုအသင်္ခတဓာတ်တရားဖြင့်။ ရာဂဂ္ဂိ အာဒိကော။ ရာဂအစရှိသောမီးသည်။ နိဗ္ဗာတိ။ ငြိမ်းတတ်၏။ ဣတိတသ္မာ။ ထိုသို့ရာဂအစရှိသောမီး၏ငြိမ်းကြောင်းဖြစ်သောသဘောကြောင့်။ တံဓမ္မဇာတံ။ထိုအသင်္ခတဓာတ်တရားသည်။နိဗ္ဗာနံ။နိဗ္ဗာန်မည်၏။ ။အာဒိသဒ္ဒါဖြင့်ရာဂအစရှိသောမီးကိုပြရာ၍။ ဒေါသမောဟ ဇာတိဇရာမရဏ အစရှိကုန်သော မီးအပေါင်းတို့ကို ယူအပ်ကုန်၏။ ။ရာဂက္ခယ ဒေါသက္ခယ မောဟက္ခယဟူသော အမည်သုံးပါးသည် အရဟတ္တဖိုလ်၏အမည်လည်းဖြစ်၏။ ထို့ကြောင့် သဠာယတန ဇမ္ဗုခါဒကသံယုတ်ပါဠိတော်၌။ ။ဧကမန္တံနိသိန္နောခေါဇမ္ဗုခါဒကော ပရိဗ္ဗာဇကော အာယသ္မန္တံ သာရိပုတ္တံဧတဒဝေါစ။ နိဗ္ဗာနံနိဗ္ဗာနန္တိအာဝုသောသာရိပုတ္တဝုစ္စတိ။ ကတမံနုခေါအာဝုသော သာရိပုတ္တနိဗ္ဗာနန္တိ။ ယောခေါအာဝုသောရာဂက္ခယော ဒေါသက္ခယော မောဟက္ခယောဣဒံဝုစ္စတိနိဗ္ဗာနံ။ ။အရဟတ္တံအရဟတ္တန္တိအာဝုသောသာရိပုတ္တဝုစ္စတိ။ကတမံနုခေါအာဝုသောသာရိပုတ္တအရဟတ္တန္တိ။ယောခေါအာဝုသောရာဂက္ခယောဒေါသက္ခယော မောဟက္ခယော။ ဣဒံဝုစ္စတိအရဟတ္တံ။ ။ဟူ၍ဆို၏။ ။ဧကမန္တံ။တင့်အပ်လျောက်ပတ်သောအရပ်၌။နိသိန္နောခေါ။နေပြီးသော။ ဇမ္ဗုခါဒကော။ ဇမ္ဗုခါဒကအမည်ရှိသော။ ပရိဗ္ဗာဇကော။ အရှင်သာရိပုတ္တရာ၏ တူဖြစ်သောအဝတ်ဝတ်သောပရိဗိုဇ်သည်။ အာယသ္မန္တံသာရိပုတ္တံ။အရှင်သာရိပုတ္တရာကို။ဧတံဝစနံ။ဤစကားကို။ အဝေါစ။လျှောက်၏။အာဝုသောသာရိပုတ္တ။ငါ့ရှင်သာရိပုတ္တရာ။ ကတမံနုခေါ။အဘယ်ကိုပင်လျှင်။နိဗ္ဗာနံ။နိဗ္ဗာန်ဟူ၍။ ဝုစ္စတိ။ ဆိုအပ်သနည်း။ဣတိဧတံဝစနံ။ဤစကားကို။အဝေါစ။ လျှောက်၏။အာဝုသော။ငါ့ရှင်။ယောခေါ။အကြင်သဘောသည်။ရာဂက္ခယော။ရာဂ၏ကုန်ကြောင်းဖြစ်၏။ ဒေါသက္ခယော။ ဒေါသ၏ကုန်ကြောင်းဖြစ်၏။

မောဟက္ခယော။ မောဟ၏ ကုန်ကြောင်း ဖြစ်၏။ ဣဒံ။ ဤသဘောတရားကို။ နိဗ္ဗာနံ။ နိဗ္ဗာန်ဟူ၍။ ဝုစ္စတိ။ ဆိုအပ်၏။ ။အာဝုသောသာရိပုတ္တ။ အရှင်သာရိပုတ္တရာ။ အရဟတ္တံအရဟတ္တန္တိ။ အရဟတ္တ အရဟတ္တဟူ၍။ ဝုစ္စတိ။ ဆိုအပ်၏။ အာဝုသောသာရိပုတ္တ။ အရှင်သာရိပုတ္တရာ။ ကတမံ နု ခေါ။ အဘယ်ကိုလျှင်။ အရဟတ္တံ။ အရဟတ္တဟူ၍။ ဝုစ္စတိ။ ဆိုအပ်သနည်း။ ဣတိဇော်ဝစနံ။ ဤစကားကို။ အဝေါစ။ လျှောက်၏။ အာဝုသော။ ငါ့ရှင်။ ယော ခေါ။ အကြင်သဘောတရားသည်။ ရာဂက္ခယော။ ရာဂ၏ကုန်သည်၏အဆုံး၌ဖြစ်၏။ ဒေါသက္ခယော။ ဒေါသ၏ကုန်သည်၏အဆုံး၌ဖြစ်၏။ မောဟက္ခယော။ မောဟ၏ကုန်သည်၏အဆုံး၌ဖြစ်၏။ ဣဒံ။ ဤသဘောတရားကို။ အရဟတ္တံ ဣတိ။ အရဟတ္တဟူ၍။ ဝုစ္စတိ။ ဆိုအပ်၏။ ။ ဇမ္ဗုခါဒကသုတ်အဋ္ဌကထာ။ ။ဤသို့ရာဂက္ခယ ဒေါသက္ခယ မောဟက္ခယဟူသော အမည်သုံးပါးသည် အရဟတ္တဖိုလ်၏အမည်လည်း ဖြစ်၏။ ထို့ကြောင့် နိဗ္ဗာန်ဟူသော ဤအမည်ကိုလည်းအရဟတ္တဖိုလ်၏အမည်ဟူ၍ဆိုအပ်၏။ အရဟတ္တဖိုလ်သို့ရောက်ခြင်းသည်၎င်း။ အရဟတ္တဖိုလ်ကိုဆင်ခြင်ခြင်းသည်၎င်း။ အကြင်ဆိုအပ်ပြီးသောအရဟတ္တဖိုလ် နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်းသည်ကား မျက်မှောက်သောကိုယ်၏အဖြစ်၌။ သုခဝိဟာရဖြစ်၍ ဖြစ်သော အရဟတ္တဖလ သမာပတ်၏ အကြောင်းဖြစ်သောကြောင့်မင်္ဂလာမည်၏။

---

## ၃၅။ လောကဓံတရားရှစ်ပါး၌မတုန်လှုပ်ခြင်း– နကမ္ပတိမင်္ဂလာ။

ဖုဋ္ဌဿ လောကဓမ္မေဟိ။ ဟူသော ပုဒ်အရ ခပ်သိမ်းသော သတ္တလောကတို့၌ဘုရားရဟန္တာတို့နှင့်တကွ သတ္တဝါတို့၏တွေ့ကြုံအပ်သောတရား။ အနုပါဒိသေသနိဗ္ဗာန ဓါတ်တိုင် အောင် လောကသို့အစဉ်လိုက်သောတရားဖြစ်သောကြောင့် လောက

ခံတရားမည်၏။ ထိုလောကခံတရားသည်။ လာဘ။ အလာဘ။
ယသ။ အယသ။ သုခ။ ဒုက္ခ။ နိန္ဒာ။ ပသံသာ။ ဟူ၍ရှစ်ပါးအပြားရှိ
ကုန်၏။ ထိုရှစ်ပါးကုန်သောတရားတို့သည် လောကခံမည်ကုန်
၏။ ထိုကြောင့်။ အဋ္ဌအင်္ဂုတ္တိုရ်ပဌမပဏ္ဏာသကပဌမဝဂ်၌။ ။ အဋ္ဌိ
မေဘိက္ခဝေလောကဓမ္မာလောကံအနုပရိဝတ္တန္တိ။ လောကောစ
အဋ္ဌလောကဓမ္မေအနုပရိဝတ္တတိ။ ကတမေအဋ္ဌ။ လာဘောစအ
လာဘောစ ယသောစ အယသောစ နိန္ဒာစပသံသာစ သုခဉ္စ
ဒုက္ခဉ္စ။ ဣမေဘိက္ခဝေအဋ္ဌလောကဓမ္မာလောကံအနုပရိဝတ္တန္တိ
လောကောစအဋ္ဌလောကဓမ္မေအနုပရိဝတ္တတိ။ ။ ဟူ၍ဟော
တော်မူ၏။ ။ အဋ္ဌလောကဓမ္မသုတ်ပါဠိတော်။ ။ ဘိက္ခဝေ။
တို့။ အဋ္ဌ။ ရှစ်ပါးကုန်သော။ ဣမေလောကဓမ္မာ။ ဤလောက၏
တရားတို့သည်။ လောကံ။ လောကသို့။ အနုပရိဝတ္တန္တိ။ အစဉ်လိုက်
ကုန်၏။ လောကောစ။ လောကသည်လည်း။ အဋ္ဌ။ ရှစ်ပါးကုန်
သော။ လောကဓမ္မေ။ လောက၏တရားတို့သို့။ အနုပရိဝတ္တတိ။
အစဉ်လိုက်၏။ ။ လောကဿ။ လောက၏။ ဓမ္မာ။ တရားတို့
တည်း။ ဣတိတသ္မာ။ ထိုကြောင့်။ လောကဓမ္မာ။ လောကဓမ္မမည်
ကုန်၏။ တေဟိ။ ထိုလောကခံတို့မှ။ ဝိမုတ္တောနာမ။ လွတ်သော
သူမည်သည်ကား။ နတ္ထိ။ မရှိ။ လောကဓမ္မာ။ လောကခံတို့သည်။
ဗုဒ္ဓါနံပိ။ ဘုရားတို့အားလည်း။ ဟောန္တိ။ ဖြစ်ကုန်၏။ တေနေဝ။ ထို
ကြောင့်သျှင်။ လောကံအနုပရိဝတ္တန္တီတိ။ လောကံအနုပရိဝတ္တန္တိ
ဟူ၍။ အာဟ။ ဟောတော်မူပြီ။ ။ ထိုပါဠိတော်၏အဋ္ဌကထာ။ ။ ဤ
သုတ်၏အဋ္ဌကထာ၌။ လောကေဓမ္မာ လောကဓမ္မာ ယာဝဝတ္တ
ဝတ္တိတာဝအနိဝတ္တကဓမ္မာတိဝုတ္တံ။ ။ ဟူ၍ဤမျှကိုသာသျှင်ဆို
၏။ ။ လောကေ။ လောက၌။ ဓမ္မာ။ တရားတို့တည်း။ လောက
ဓမ္မာ။ လောက၌တရားတို့။ ယာဝ။ အကြင်မျှလောက်။ ဝတ္တ
ထိုလောက၌ဖြစ်ခြင်းသည်။ ဝတ္တိ။ ရှိ၏။ တာဝ။ ထိုမျှလောက်။
အနိဝတ္တကဓမ္မာ။ မဆုတ်နစ်တတ်ကုန်သော တရားတို့တည်း။
ဣတိ။ ဤသို့။ ဝုတ္တံဝုတ္တော။ ဆိုလိုသည်။ ဟောတိ။ ဖြစ်၏။ ။ ယသော

တ္တိနုဝသာဝါမဏ္ဍိမသာဝါ။ ဟူ၍ဤမင်္ဂလသုတ် အဋ္ဌကထာ၌ဆို၏။ ။ယသာတိ။ယဿ ဟူသည်ကား။နဝသာဝါ။ ငယ်သောပုဂ္ဂိုလ်၏ရင်း။ မဏ္ဍိမသာဝါ။ အလတ်ဖြစ်သော ပုဂ္ဂိုလ်၏ရင်း။ ထေရသာဝါ။ ထေရ်ဖြစ်သောပုဂ္ဂိုလ်၏ရင်း။ ။ပရိပုဏ္ဏပဉ္စဝဿာဘိက္ခုနဝေါနာမဟောတိ။ ပဉ္စဝဿတောပဋ္ဌာယမဏ္ဍိမော။ ဒသဝဿတောပဋ္ဌာယထေရော။ အပရောနယော။အပရိပုဏ္ဏဒသဝဿောနဝေါ။ဒသဝဿတောပဋ္ဌာယမဏ္ဍိမော။ဝီသတိဝဿတောပဋ္ဌာယထေရော။ ။ဒေဝတာသံယုတ်ဒုတိယဝဂ်ဒသမသုတ်အဋ္ဌကထာ။ ။အပရိပုဏ္ဏပဉ္စဝဿော။ငါးဝါမပြည့်သေးသော။ ဘိက္ခု။ရဟန်းသည်။ နဝေါနာမ။ငယ်သောပုဂ္ဂိုလ်မည်၏။ ပဉ္စဝဿတော။ ငါးဝါရသည်မှ။ ပဋ္ဌာယ။စ၍။ မဏ္ဍိမော။ အလတ်ဖြစ်သော ပုဂ္ဂိုလ်မည်၏။ ဒသဝဿတော။ ဆယ်ဝါရသည်မှ။ပဋ္ဌာယ။ စ၍။ ထေရော။ထေရ်မည်၏။ အပရောနယော။ တနည်းကား။ အပရိပုဏ္ဏဒသဝဿော။ ဆယ်ဝါမပြည့်သေးသောရဟန်းသည်။ နဝေါ။ ငယ်သောပုဂ္ဂိုလ်မည်၏။ဒသဝဿတော။ဆယ်ဝါရသည်မှ၊ပဋ္ဌာယ။ စ၍။ မဏ္ဍိမော။ အလတ်ဖြစ်သော ပုဂ္ဂိုလ်မည်၏။ ဝီသတိဝဿတော။ အဝါနှစ်ဆယ်မှ။ပဋ္ဌာယ။စ၍။ထေရော။ထေရ်မည်၏။(ဘိက္ခုနောဝါဒကလက္ခဏာသို့ရောက်သောထေရ်ကိုရည်၍ အဝါနှစ်ဆယ်မှ စ၍ ထေရ်မည်၏ဟုဆိုသတည်း။) ။လာဘ၊ အလာဘအစရှိကုန်သောလောကဓံတို့သည် တွေ့အပ်လွှမ်းမိုးအပ်သော အကြင်အငယ်၊ အလတ်၊ မထေရ်ဖြစ်သောပုဂ္ဂိုလ်တို့၏စိတ်သည် မတုန်လှုပ်။ ထိုအငယ်၊ အလတ်၊ မထေရ်ဖြစ်သောပုဂ္ဂိုလ်၏တစုံတခုသော လောကဓံသည် မတုန်လှုပ် စေနိုင်သော ထိုစိတ်သည် လောကထက် မြတ်သည်၏အဖြစ်ကို ဆောင်တတ်သည်၏ အဖြစ်ကြောင့်။ မင်္ဂလာမည်၏။ ထိုလောကဓံ တို့သည် တွေ့အပ်လွှမ်းမိုးအပ်သည့်ရှိသော်အဘယ်အငယ်၊ အလတ်၊ မထေရ်ဖြစ်သောသူ၏စိတ်သည်မတုန်လှုပ်သနည်းဟူမူကား။ကျန်ပြီးသော

အာသဝေါရှိသောရဟန္တာ၏စိတ်သည်မတုန်လှုပ်။ ရဟန္တာမှတ
ပါးသောတစုံတယောက်သောအငယ်၊ အလတ်၊ မထေရ်ဖြစ်
သောသူ၏စိတ်သည် မတုန်လှုပ်သည် မဟုတ်။ တုန်လှုပ်သည်
သာလျှင်ကတည်း။ထိုကြောင့်။ ပုထုဇဉ်သာမဏေအစရှိသည်
တို့သည်။ လကုဏ္ဍကဘဒ္ဒိယ မထေရ်ကိုမြင်၍။ ထိုမထေရ်၏
ဦးခေါင်း နား ရွက် နှာခေါင်းတို့၌ ကိုင်ပြီးလျှင်။ ဘထွေး သင်
သည်သာသနာတော်၌ပြီးငွေ့သလော။ မွေ့လျော်ပါ၏လောဟု
၍ဆိုကုန်၏။ မထေရ်သည်ထိုသာမဏေအစရှိသည်တို့အား အ
မျက်မထွက်မဖြစ်မှား။ထိုကြောင့်ရဟန်းတို့သည်။အရှင်တို့။သာ
မဏေအစရှိသည်တို့သည်။ လကုဏ္ဍကဘဒ္ဒိယမထေရ်ကို ဤ
သို့လျှင်ညှဉ်းဆဲကုန်၏။ လကုဏ္ဍဘဒ္ဒိယ မထေရ်သည် အမျက်
မထွက်သလင်ကတည်း။ မဖြစ်မှားသလျှင်ကတည်းဟုစကား
ကိုဖြေစေကုန်၏။ မြတ်စွာဘုရားသည်ထိုစကားကိုကြားတော်
မူ၍။ရဟန်းတို့။လကုဏ္ဍဘဒ္ဒိယမထေရ်သည်အမျက်မထွက်ဟု
သောစကားသည် ဟုတ်မှန်၏။ ရဟန္တာတို့မည်သည်ကား အ
မျက်မထွက်ကုန် သလျှင်ကတည်း။ မဖြစ်မှားကုန် သလျှင်က
တည်း။ ထိုစကားသည်သင့်၏။ ထိုရဟန္တာ တို့သည် တခဲနက်
သောကျောက်တောင်နှင့်တူကုန်၏။ မရွေ့မလှုပ်မရှား ကုန်ဟု
မိန့်တော်မူ၍။ ဓမ္မပဒပဏ္ဍိတဝဂ်၌။ ။သေလောယထာဧက
ဃနော။ ဝါတေနနသမီရတိ။ ဧဝံနိန္ဒာပသံသာသု။ နသမိဉ္ဇန္တိ
ပဏ္ဍိတာ။ ။ဟုဟောတော်မူ၏။ ။ဧကဃနော။ တခဲနက်
သော။သေလော။ကျောက်အတိပြီးသောတောင်သည်။ဝါတေ
န။လေကြောင့်။ နသမီရတိယထာ။ မတုန်လှုပ်သတဲ့သို့။ ဧဝံတ
ထာ။ထိုအတူ။ပဏ္ဍိတာ။ပညာရှိတို့သည်။နိန္ဒာပသံသာသု။ကဲ့ရဲ့
ခြင်းချီးမွမ်းခြင်းတို့ကြောင့်။နသမိဉ္ဇန္တိ။မတုန်လှုပ်ကုန်။ ။ဤ
ဂါထာ၌ နိန္ဒာပသံသာဟူ၍ နှစ်ပါးကုန်သော လောကဓံတို့ကို
အကပယ်၍ကား ဟောအပ်ကုန်၏။ ထိုသို့ ဟောအပ် ကုန်သော်
လည်း။ အနက်ကိုရှစ်ပါးကုန်သော လောကဓံတို့၏အလွှမ်းအား

ဖြင့်လည်းသိအပ်ကုန်၏။ထိုကြောင့်လျှင်။ ။ဇေကေ့ယ္ယနေ့သအသု
သိရော သေလော ပုရဏ္ဏိမာ ဒိဘောဒေန ဝါတေန နသမီရတိန
ဇူသတိနစလတိ။ ဇေံအဇ္ဈသုပိလောကဓမ္မေသုအဇ္ဈောဏ္ဌရဇ္ဇေ
သုနသမီရတိ။ဇေံရူပါသဒ္ဒါရသာဂန္ဓာ။ဖဿာစကေဝလါဣဋ္ဌာ
ဓမ္မာ။ အနိဋ္ဌာစ နပ္ပဝေဓေန္တိ တာဒိနော။ ဌိတံစိတ္တံ ဝိပ္ပမုတ္တံ ဝ
ယဉ္စဿာနုပဿတော။ ။ဟုဟောဘော်မူ၏။ ။ဤစကား
ကိုအဇ္ဈအင်္ဂုတ္တိုရ်ဒုတိယပဏ္ဏာသကပဌမဝဂ်ဌ္ဌရင်း။ ဓမ္မပဒခန္ဓ
ကဌ္ဌရင်း။ မိမိ၏အရဟတ္တဖိုလ်ကိုကြားသော အရှင်သောဏမ
ထေရ်သည် မြတ်စွာဘုရားအထံတော်၌ဆိုအပ်၏။ ။ဇေကေ့ယ္ယ
နော။ တခဲနက်သော။ အသုသိရော။ အခေါင်းမရှိသော။ သေ
လော။ကျောက်အတိပြီးသောတောင်သည်။ပုရဏ္ဏိမာဒိဘောဒေ
န။အရှေ့မှလာသောလေအစရှိသောအားဖြင့်ပြားသော။ ဝါတေ
န။လေကြောင့်။နသမီရတိ။မတုန်။ နဇူသတိ။မလှုပ်။ နစလတိ။မ
ဒွေ့။ ဇေံ။ ဤအတူ။ တာဒိနော။ သည်းခံခြင်းနှင့်ပြည့်စုံသော
ရဟန်း၏။ စိတ္တံ။ စိတ်သည်။ အဇ္ဈသုပိ။ ရှစ်ပါးအပြားရှိသည်
လည်းဖြစ်ကုန်သော။ လောကဓမ္မေသု။ လောကဓံ တရားတို့
သည်။ အဇ္ဈောဏ္ဌရဇ္ဇေသု။ လွှမ်းမိုးကုန်သော်လည်း။ နသမီရ
တိ။မတုန်လှုပ်။ ဇေံ။ဤသို့။ တာဒိနော။ သည်းခံခြင်းနှင့်ပြည့်စုံ
သော။အဿ။ထိုစိတ်၏။ ဥပ္ပါဒဉ္စ။ဖြစ်ခြင်းကိုရင်း။ ဝယဉ္စ။ပျက်
ခြင်းကိုရင်း။အနုပဿတော။ အဘန်တလဲလဲရှုသောရဟန်း၏။
ဌိတံ။တည်သော။ ဝိပ္ပမုတ္တံ။ ဝိပဿနာပဋိပတ်၌ဖလသမာပတ်
၏အစွမ်းအားဖြင့်လွတ်သော နိဗ္ဗာန်အာရုံသို့လည်းညွတ်သော။
စိတ္တံ။စိတ်ကို။ ကေဝလာ။အလုံးစုံကုန်သော။ ဣဋ္ဌာစ။ ကောင်း
သည်လည်းဖြစ်ကုန်သော။အနိဋ္ဌာစ။မကောင်းသည်လည်းဖြစ်
ကုန်သော။ ရူပါစ။ရူပါရုံတို့သည်ရင်း။သဒ္ဒါစ။ သဒ္ဒါရုံတို့သည်
ရင်း။ရသာစ။ရသာရုံတို့သည်ရင်း။ ဂန္ဓာစ။ဂန္ဓာရုံတို့သည်ရင်း။
ဖဿာစ။ဖောဋ္ဌဗ္ဗာရုံတို့သည်ရင်း။ ဓမ္မာစ။ဓမ္မာရုံတို့သည်ရင်း။
နပ္ပဝေဓေန္တိ။ မတုန်လှုပ်စေနိုင်ကုန်။ ။ဤသို့ အဇ္ဈကထာ၌

ရဟန္တာ၏သာလျှင်စိတ်သည် မတုန်လှုပ်ဟူ၍ဆိုအပ်၏။ ထို၀ကားသည်သင့်၏။ ရဟန္တာမှတပါးသော အရိယာသာ၀ကတို့၏လည်းစိတ်သည် မတုန်လှုပ်ဟူ၍ ဆိုခြင်းငှါမတတ်ကောင်း။ ထိုကြောင့်လျှင်မြတ်စွာဘုရားသည်။ ။လာဘောအလာဘောယသောအယသောနိန္ဒာပသံသာစ သုခံဒုက္ခဉ္စဧတေအနိစ္စာမနုဇေသုဓမ္မာအသဿတာဝိပရိဏာမဓမ္မာဧတေစဉတွာ သတိမာသုမေဓာအဝေက္ခတိ ဝိပရိဏာမဓမ္မေဣဋ္ဌဿဓမ္မာန ပဝေဓေန္တိစိတ္တံအနိဋ္ဌတော နောပဋိဃာတမေတိ တဿ။ ။ဟူ၍ဟောတော်မူ၏။ ။ဘိက္ခဝေ။ တို့။ မနုဇေသု။ လူတို့၌။ လာဘော။လာဘ်ရခြင်း၎င်း။ အလာဘော။လာဘ်မရခြင်း၎င်း။ ယသော။ အခြံအရံရှိခြင်း၎င်း။ အယသော။ အခြံအရံမရှိခြင်း၎င်း။ နိန္ဒာ။ကဲ့ရဲ့ခြင်း၎င်း။ ပသံသာ။ ချီးမွမ်းခြင်း၎င်း။ သုခံ။ ချမ်းသာခြင်း၎င်း။ဒုက္ခံ။ဆင်းရဲခြင်း၎င်း။ ဧတေဓမ္မာ။ ဤတရားတို့သည်။ အနိစ္စာအသဿတာ။ မမြဲကုန်။ ဝိပရိဏာမဓမ္မာ။ ဖောက်ပြန်တတ်သောသဘောရှိကုန်၏။ ဧတေစ။ ထိုတရားတို့ကိုလည်း။ ဉတွာ။သိ၍။သတိမာ။သတိရှိသော။သုမေဓော။ကောင်းသောပညာရှိသည်။ ဝိပရိဏာမဓမ္မေ။ ဖောက်ပြန်တတ်ကုန်သောတရားတို့ကို။ အဝေက္ခတိ။ ဆင်ခြင်၏။ ဣဋ္ဌဿ။ အလိုရှိအပ်ကုန်သော။ ဓမ္မာ။ တရားတို့သည်။ အဿ။ ထိုအရိယာသာဝက၏။ စိတ္တံ။စိတ်ကို။နပဝေဓေန္တိ။မတုန်လှုပ်စေနိုင်ကုန်။ တဿ။ထိုအရိယာသာဝက၏။ စိတ္တံ။စိတ်သည်။ အနိဋ္ဌတော။ အလိုမရှိအပ်သောအာရုံကြောင့်။ပဋိဃာတံ။အမျက်ထွက်ခြင်းသို့။နောဧတိ။မရောက်။ ။အကြားအမြင်မရှိသောပုထုဇဉ်ပုဂ္ဂိုလ်တို့၏စိတ်သည်ကား လာဘ်ရခြင်း၌၎င်း။ အခြံအရံပြည့်စုံခြင်း၌၎င်း။ ချီးမွမ်းသည်ကိုခံရခြင်း၌၎င်း။ အလိုသို့ပြည့်ခြင်း အနာမဲ့ခြင်းဖြင့်ချမ်းသာသည်ကိုရခြင်း၌၎င်း။ ငါ၌ယခုဖြစ်လာသော လာဘ်အစရှိသောပြည့်စုံခြင်းတို့သည်။ လောကဓံတရားမျှဖြစ်၍ စင်စစ်အားဖြင့်မမြဲတတ်ခြင်းပျက်စီးတတ်ခြင်းဖောက်ပြန်တတ်ခြင်း

တည်းဟူသော သင်္ခါရဓမ္မဝိပရိဏာမဓမ္မဖြစ်သည်ဟူ၍မဆင်ခြင်။ ယထာဘူတဉာဏ်ဖြင့်ဟုတ်မှန်တိုင်းမသိ။အလွန်လျှင်တုန်လှုပ်ခြင်းရှိကုန်၏။ အကြင်ပုထုဇဉ်ပုဂ္ဂိုလ်တို့၏စိတ်သည်ကား။ လာဘ်မရခြင်း၌၎င်း။အခြံအရံမပြည့်စုံခြင်း၌၎င်း။ ကဲ့ရဲ့စွပ်စွဲဆဲရေးသည်ကိုခံရခြင်း၌၎င်း။အလိုသို့မကျရောဂါရသဖြင့်ဒုက္ခကိုတွေ့ရခြင်း၌၎င်း။ ငါ၌ယခုဖြစ်လာသောလာဘ်မရခြင်းစသောဆင်းရဲခြင်းတို့သည် လောကဓံတရားဖြစ်၍ စင်စစ်အားဖြင့်မမြဲတတ်ပျက်စီးတတ်ဘောက်ပြန်တတ်ခြင်းတည်းဟူသောသင်္ခါရဓမ္မဝိပရိဏာမဓမ္မတို့မျှဖြစ်သည်ဟူ၍မဆင်ခြင်။ယထာဘူတဉာဏ်ဖြင့် ဟုတ်မှန်တိုင်းမသိ။ ထိုပုထုဇဉ် ပုဂ္ဂိုလ်တို့၏ စိတ်သည်ထိုတွေ့ကြုံအပ်သောဣဋ္ဌဖလ၊ အနိဋ္ဌဖလ၏အကြောင်းတို့ကြောင့် အလွန်လျှင်ထိတ်လန့်ခြင်းနှင့်တကွ ဒေါသဖြစ်ခြင်းသို့ရောက်ကုန်၏။ရဟန္တာဖြစ်ကုန်သောအရိယာသူတော်ကောင်းတို့၏စိတ်သည်ကား။အကြင်ဆိုအပ်ပြီးသောလာဘ်အစရှိသောရှစ်ပါးကုန်သော လောကဓံတရားတို့ကိုတွေ့၏။ ထိုဆိုအပ်ပြီးသောလာဘ်အစရှိသော ရှစ်ပါးကုန်သော လောကဓံတရားတို့ကိုတွေ့သည်ရှိသော်။ ဘူတ၊တစ္ဆဖြစ်သောတရားကိုသာလျှင်ယထာဘူတဉာဏ်ဖြင့်သိနိုင်သည်ဖြစ်၍။ထိုဣဋ္ဌဖလ၊အနိဋ္ဌဖလတို့၏အကြောင်းဖြစ်သော လာဘအစရှိသော တရားတို့သည်။ ထိုရဟန္တာဖြစ်ကုန်သော အရိယာသာဝကအပေါင်း သူတော်ကောင်းတို့၏စိတ်ကို။ ထိတ်လန့်တုန်လှုပ်စေခြင်းငှါမတတ်နိုင်ကုန်သလျှင်ကတည်း။ ။အဋ္ဌအင်္ဂုတ္တိုရ် ဒုတိယပဏ္ဏာသက ပဌမဝဂ်။ ။ဤသို့လောကဓမ္မရှစ်ပါး၌မတုန်မလှုပ်တည်သောစိတ်ရှိခြင်းသည်။ လောကသုံးပါးထက်လွန်မြတ်သည်၏အဖြစ်ကြောင့်မင်္ဂလာမည်၏။

---

## ၃၈။ လောကဓံတရားရှစ်ပါး၌မစိုးရိမ်ခြင်း-အသောကမင်္ဂလာ။

အသောကံဟူသောပုဒ်၏အရကား။ ။သောကံ။ စိုးရိမ်ခြင်းသည်လည်း။နတ္ထိ။မရှိ။အသောကံ။စိုးရိမ်ခြင်းလည်းမရှိ။ဟူသော ထော်မူရာ၌။ စိတ္တံယဿ ဟူ သောပါဌ်ဖြင့်။ ရဟန္တာပုဂ္ဂိုလ်တို့၏စိတ်သည် ပျက်စီးခြင်းလျှင်အကြောင်းရှိသော စိုးရိမ်ခြင်း သောက ပရိဒေဝ ဒုက္ခ ဒေါမနဿ စသောညစ်ညူးကြောင်းဖြစ်သောတရားတို့သည် မရှိဟူ၍ သိအပ်ကုန်၏။ ။သောက ဟူသော်ကား ပျက်စီး ခြင်း အစရှိသော အကြောင်းကြောင့်ဖြစ်သောဒေါမနဿသည် သောကမည်၏။ ။မဟာသတိပဋ္ဌာနသုတ်၌။ ။ကတမောစ ဘိက္ခဝေ သောကော။ ယောခေါ်ဘိက္ခဝေ အညတရည တရေန ဗျသနေန သမန္နာဂတဿ အညတရညတရေန ဒုက္ခ ဓမ္မေန ဖုဋ္ဌဿသောကော သောစနာ သောစိတတ္တံ အန္တောသောကော အန္တောပရိသောကော။အယံဝုစ္စတိဘိက္ခဝေသောကော။ ။ဟူ၍ဟောတော်မူ၏။ ။ဘိက္ခဝေ။ရဟန်းတို့။ ကတမောစ။အဘယ်သဘောကိုလျှင်။သောကော။သောကဟူ၍။ ဝုစ္စတိ။ဆိုအပ်သနည်း။ဘိက္ခဝေ။ရဟန်းတို့။ အညတရညတရေန။ အမှတ်မဲ့တပါးပါးသော။ဗျသနေန။အဆွေအမျိုးအစရှိသည်တို့၏ပျက်စီးခြင်းနှင့်။သမန္နာဂတဿ။ ပြည့်စုံသောသူအား။ အညတရညတရေန။အမှတ်မဲ့တပါးပါးသော။ဒုက္ခဓမ္မေန။သတ်ခြင်းနှောင်ဖွဲ့ခြင်းအစရှိသော ဒုက္ခ၏အကြောင်းသည်။ဖုဋ္ဌဿ။နှိပ်စက်အပ်သောသူအါ။ယောခေါ။ အကြင်သို့သဘောရှိသည်လျှင်ဖြစ်သော။ သောကော။စိုးရိမ်ခြင်းလက္ခဏာရှိသောသောကသည်။ဥပ္ပဇ္ဇတိ။ဖြစ်၏။ သောစနာ။စိုးရိမ်သောအခြင်းအရာသည်။ ဥပ္ပဇ္ဇတိ။ ဖြစ်၏။ သောစိတတ္တံ။ စိုးရိမ်သည်၏အဖြစ်သည်။ ဥပ္ပဇ္ဇတိ။ ဖြစ်၏။ အန္တောသောကော။ ကိုယ်၏အတွင်းကိုခြောက်စေတတ်သော သောကသည်။ဥပ္ပဇ္ဇတိ။ ဖြစ်၏။ အန္တောပရိသောကော။ ကိုယ်၏အ

ဂွင်းကိုထက်ဝန်းကျင်ခြောက်စေတတ်သော သောကသည်။ ပဥ္စတိ။ဖြစ်၏။ဘိက္ခဝေ။တို့။အယံ။ဤသဘောကို။ သောကော။ သောကဟူ၍။ဝုစ္စတိ။ ဆိုအပ်၏။ ။အနိဋ္ဌာရမ္မဏာနုဘဝနလက္ခဏာ ဒေါမနဿံ။ ယထာတထာအနိဋ္ဌာကာရသမ္ဘောဂရသံ။ စေတသိကာဗာဓပစ္စုပဋ္ဌာနံ။ ။အဋ္ဌသာလိနီ။ ။ဒေါမဿံ။ဒေါမနဿသည်။အနိဋ္ဌာရမ္မဏာနုဘဝနလက္ခဏာ။ အနိဋ္ဌာရုံကိုခံစားခြင်းလက္ခဏာရှိ၏။ယထာတထာ။ဟူးဟူးဗြားဗြားအားဖြင့်။ အနိဋ္ဌာကာရသမ္ဘောဂရသံ။ အနိဋ္ဌာကာရကိုခံစားခြင်းရသရှိ၏။ စေတသိကာဗာဓပစ္စုပဋ္ဌာနံ။ စိတ်၌ဖြစ်သောကျင်နာခြင်း ပစ္စုပဋ္ဌာန်ရှိ၏။ ။သောပနာယံကိဥ္စာပိ အတ္ထတော ဒေါမနဿဝေဒနာ ဟောတိ။ ဝိံ သန္တေပိ အန္တော နိဇ္ဈာန လက္ခဏော။ စေတသော ပရိနိဇ္ဈာနရသော။ သောစန ပစ္စုပဋ္ဌာနော။ ။ သစ္စဝိဘင်းအဋ္ဌကထာ။ ။သောပနာယံသောကော။ ထိုသောကသည်။အတ္ထတော။သရုပ်အားဖြင့်။ဒေါမနဿဝေဒနာ။ ဒေါမနဿဝေဒနာသည်။ကိဥ္စာပိဟောတိ။အကယ်၍ကားဖြစ်၏။ဝိံ သန္တေပိ။ဤသို့ဖြစ်ငြားသော်လည်း။ သော။ ထိုသောကသည်။ အန္တောနိဇ္ဈာနလက္ခဏော။ အတွင်း၌တွန့်သော ကြံခြင်း လက္ခဏာရှိ၏။တနည်းကား။အတွင်း၌လောင်ခြင်းလက္ခဏာရှိ၏။ တနည်းကား။ အတွင်း၌မိမိ၏မှီရာကိုလောင်သည့်၏ အစွမ်းအားဖြင့်ကြံခြင်းလက္ခဏာရှိ၏။ စေတသော။ စိတ်၏။ ပရိနိဇ္ဈာနရသော။ ထက်ဝန်းကျင်လောင်ခြင်းရသရှိ၏။ သောစနပစ္စုပဋ္ဌာနော။ စိုးရိမ်ခြင်းလျှင်ထင်သောအခြင်းအရာရှိ၏။ ။ပုဗ္ဗေဝုတ္တလက္ခဏာဒိကာ ဒေါမနဿဝေဒနာဝသောကောတိ ပုနလက္ခဏာဒယော နဝတ္တဗ္ဗာသိယုံ။ တထာပိဒေါမနဿပိသေသတ္တာ သောကာဘါဝဝိသိဋ္ဌာလက္ခဏာဒယော်ဝတ္တဗ္ဗါတိကိဉ္စာပိတိအာဒိမာဟ။ ဝိသာရဒ္ဓရဟိတမန္တောဗောသံကုဝိတမိန္တနံ သုခနံဝါ အန္တောနိဇ္ဈာနံဗဟန် ဉာတိဗျသနာဒိအနုရူပံသောစနံထံထံဝါဂုဏံဒေါသဋ္ဌအနုဂတ္တာသောစနံတပ္ပနံအနုသောစနံ။ ။ထိုအဋ္ဌ

ကထာ၏ဋီကာ။ ။ပုဗ္ဗေ။ရှေး၌။ ဝုတ္တလက္ခဏာဒိကာ။ ဆိုအပ်ပြီးသောလက္ခဏာအစရှိသည်နှင့်ပြည့်စုံသော။ ဒေါမနဿဝေဒနာဝ၊ဒေါမနဿဝေဒနာသည်သာလျှင်။သောကော။ သောကမည်၏။ဣတိတသ္မာ။ထိုကြောင့်။ပုန။ တဘန်။လက္ခဏာဒယော။ လက္ခဏာအစရှိသည်တို့ကို။ နဝတ္တဗ္ဗာ။ မဆိုအပ်ကုန်သည်။ သိယံ။ဖြစ်ကုန်ရာ၏။ တထာပိ။ထိုသို့ဖြစ်ကုန်သော်လည်း။ ဒေါမနဿပိသေသတ္တာ။ ဒေါမနဿမှထူးသည်၏ အဖြစ်ကြောင့်။ သောကဘာဝပိသိဒ္ဓါ။ သောက၏အဖြစ်ဖြင့် ထူးကုန် သော။ လက္ခဏာဒယော။လက္ခဏာအစရှိသည်တို့ကို။ ဝတ္တဗ္ဗာ။ဆိုအပ်ကုန်၏။ဣတိတသ္မာ။ထိုကြောင့်။ ကိစ္စာပိတိအာဒိ ။ကိစ္စာပိအစရှိသည်ကို။အာစရိယော။အဋ္ဌကထာဆရာသည်။ အာဟ။ဆို၏။ ဗိသာရဒရပဟိတံ။ရဲရင့်ခြင်းမှကင်းသော။အဇ္ဈတ္တဝေ။အတွင်း၌လျှင်။သံကုစိတစိန္တနံ။တွန့်သောကြံခြင်းသည်။ အဇ္ဈတ္တနိဇ္ဈာနံ။ အဇ္ဈတ္တနိဇ္ဈာနမည်၏။ဝါ။တနည်းကား။ အဇ္ဈတ္တဝေ။အတွင်း၌။ သုခနံဒဟနံ။လောင်ခြင်းသည်။ အဇ္ဈတ္တနိဇ္ဈာနံ။ အဇ္ဈတ္တနိဇ္ဈာနမည်၏။ဉာတိဗျသနာဒိအနုရုပံ။ ဆွေမျိုးတို့၏ပျက်စီးခြင်းအစရှိသည်အားလျော်စွာသော။ သောစနံ။ စိုးရိမ်ခြင်းသည်။ အနုသောစနံ။အနုသောစနမည်၏။ ဝါ။တနည်းကား။ တံ။ ထိုထိုသို့သဘောရှိသော။ ဂုဏံ။ကျေးဇူးသို့ငှါ။ ဒေါသံ။ အပြစ်သို့ငှါ။ အနုဂန္တွာ။အစဉ်လိုက်၍။ သောစနံတပ္ပနံ။ စိုးရိမ်ပူပန်ခြင်းသည်။ အနုသောစနံ။ အနုသောစနမည်၏။ ။ထိုဆိုအပ်ပြီးသော ဉာတိဗျသနအစရှိသော ပျက်စီးခြင်းတို့ကို မိမိကိုယ်၌ငှါ။ သားသမီးဆွေမျိုးတို့၌ငှါ တွေ့ကြုံခြင်းအကြောင်းရှိသော သောကဒေါမနဿဟုဆိုအပ်သော စိုးရိမ်ခြင်း နှလုံးမသာယာခြင်းစသောတရားတို့သည်။ ရဟန္တာပုဂ္ဂိုလ်တို့၏စိတ်ကိုကား သွမ်းမိုးဘိစီးခြင်းသို့ မရောက် နိုင်ကုန်။ ထိုကြောင့် ရဟန္တာပုဂ္ဂိုလ်တို့၏စိတ်သည်သမုစ္ဆေဒပဟာန်ဖြင့်ပယ်လှန်ချိုးဖျက်ပြီးဖြစ်သော သောကဒေါမနဿရှိသည်၏အဖြစ်ကြောင့်။ နိဗ္ဗာန

သုခဖြစ်၍အသောကဟူသိုအပ်သောစိုးရိမ်ခြင်းကင်းသောစိတ်သည်မင်္ဂလာမည်၏။ ။ပုထုဇဉ်တို့၏စိတ်သည်ကား။ အခါခပ်သိမ်း စိုးရိမ်ခြင်း ကင်းသည်ကိုမရ။ ဥပနိဿယ ဖြစ်သော သဒ္ဓါရဝမ္မ အနိစ္စလက္ခဏာတရားတို့ကို နာကြားဆောင်ရွက်လေ့ကျက် ပွါးများခြင်းဖြင့်သာလျှင် အသောကဟူသော မင်္ဂလာကို ရံခါရံခါရနိုင်၏ဟူ၍မှတ်အပ်၏။ အဘယ်သူသည်လျှင် အသောကဟူသောတရားကိုရံခါအားဖြင့်ရနိုင်သည်ကိုသိအပ်သနည်းဟူမူကား။ ပဉ္စနိပါတ်ပဌမဝဂ် ဥရဂဇာတ်အဋ္ဌကထာ၌လာသော ဘုရားလောင်း ပုဏ္ဏားစသော ငါးယောက် ကုန်သောသူတို့၏ဝတ္ထုကိုသိအပ်၏။ ။လွန်လေပြီးသောအခါ ဗာရာဏသီ ပြည်၌ ဘုရား လောင်း ပုဏ္ဏား သည် လယ် ထွန်ယောကျ်ားအဖြစ်ဖြင့် နှစ်ယောက်ကုန်သောသားအဘတို့သည်လယ်ထွန်ခြင်းအမှုကိုပြုကြကုန်သတတ်။ ထိုအခါတခုသောအဆိပ်ထန်သောမြွေခဲ၍ ဘုရားလောင်းပုဏ္ဏား၏ သားဖြစ်သောသူငယ်သည်သေလေလျှင်။ ဆင်ခြင်မိသော သဒ္ဓါရဝမ္မအနိစ္စတရားကိုကိုးကား ယုံကြည်ခြင်းရှိသည့်အတိုင်း။ သောကပရိဒေဝဒုက္ခဒေါမနဿစသော စိုးရိမ်ခြင်းတို့သည်မရှိ။ အမိဖြစ်သော ပုဏ္ဏေးမကြီးကို သွားချေးမနှင့်တကွ ကျွန်မကို ခေါ်ပြီးလျှင်။ တယောက်စာသောထမင်းကိုသာယူပြီးလျှင် အလျှင်အမြန်လာကြမည့်အကြောင်းကိုမှာလိုက်၏။ ထိုအခါပုဏ္ဏေးမကြီးသည်။ ထိုမှာလိုက်သောစကားကိုကြားလေ၍။ သို့မှာသောစကားသည် လူကြီးမှာသလော၊ လူငယ်မှာသလောဟု မေးလေလျှင်လူကြီးမှာလိုက်ကြောင်းကိုသိ၍။ စင်စစ်အားဖြင့်ငါ၏သားသည်ပေါးသောဂတိသို့ ရတော့သေလွန်လေပြီဟု သိသဖြင့်။ သွားချေးမနှင့်ကျွန်မကိုခေါ်ပြီးလျှင်တယောက်စာသောထမင်းနှင့်တကွသွားရောက်ကြကုန်၍။ ပုဏ္ဏားကြီးကဲ့သို့ပင်လျှင်မရွှင်သော သောကပရိဒေဝ ဒုက္ခဒေါမနဿ ဟူသော စိုးရိမ်ခြင်းတရားတို့ကို ပယ်ဖျောက်၍။ လေးယောက် ကုန်သော သူတို့

သည့်သဥ်္ဂါရဝမှ အနိဋ္ဌ တရားတို့ကိုသာ ပွါးများ ဆင်ခြင်ရင်း
ဖြင့်သဗ္ဗိုဟ်ခြင်းအမှုကိုသာပြုခြင်း၌အားထုတ်ကြကုန်၏။ ထို
အခါထိုသူတို့သည် မရဏာဿသတိကို ပွါးခြင်း တည်းဟူသော
ဘာဝနာ၏ဘန်းခိုးကြောင့်။ သိကြားမင်းသည်ထိုငါးယောက်
ကုန်သောသူတို့၏ အကြောင်းကိုသိ၍ ချဉ်းကပ်ပြီးလျှင်။ သား
လင်မယောင်ဘွား၏သေခြင်း၌ စိုးရိမ်ပူဆွေး သင့်ကောင်းလျက်
စိုးရိမ်ခြင်းမရှိသည်၏အဖြစ်ကိုအသီးအသီးမေးလေကုန်၏။ ထို
အခါအဘဖြစ်သောဗြာဟ္မဏလောင်းပုဏ္ဏားကြီးသည် ရှေးဦးစွာ
ကြားလိုသည်ဖြစ်၍။ ။ဥရဂေါဝတစံဇိဏ္ဏံ။ဟိတွာဂစ္ဆတိသတ္တ
နုံ။ဧဝံသရိရေနိဗ္ဘောဂေ။ပေတေကာလကတေသတိ။ ။ဍယှ
မာနောနဇာနာတိ။ဉာတိနံပရိဒေဝနံ။တသ္မာဧတံနသောစာမိ။ဂ
တောသောတဿယာဂတိ။ ။ဟူသောဂါထာကိုဆို၏။ ။
ဥရဂေါ။မြွေသည်။ဇိဏ္ဏံတစံ။အရေဟောင်းကို။ ဟိတွာ။ စွန့်၍။
ဂစ္ဆတိဣဝ။ သွားသကဲ့သို့။ ဧဝံတထာ။ ထိုအတူ။ မေ။ ငါ၏။
ပုတ္တော။သားသည်။သတ္တနုံ။မိမိကိုယ်ကို။ဟိတွာ။စွန့်၍။ ဂစ္ဆတိ။
သွား၏။သရိရေ။ကိုယ်သည်။ နိဗ္ဘောဂေ။ဇီဝိတိန္ဒြေကင်းသည်။
ပေတေ။တမလွန်သို့လားသည်။ ကာလကတေ။သေသည်။ သ
တိ။ရှိသော်။ရုဏ္ဏေနဝါ။မျက်ရည်ကိုလွှတ်သဖြင့်ရင်း။ပရိဒေဝေ
နဝါ။အသံကိုလွှတ်သောငိုကြွေးခြင်းဖြင့်ရင်း။ ကောအတ္ထော။အ
ဘယ်အကျိုးရှိအံ့နည်း။တဿအတ္တနော။ထိုမိမိ၏။ ယာဂတိ။ အ
ကြင်ဂတိသည်။အတ္ထိ။ရှိ၏။ တံဂတိံ။ထိုဂတိသို့။ ဂတော။လား
သော။ဍယှမာနော။ဘုတ်ကြည်းအပ်သော။ သော။ထိုငါ၏သား
သည်။ဉာတိနံ။ဆွေမျိုးတို့၏။ပရိဒေဝနံ။ငိုကြွေးခြင်းကို။နဇာနာ
တိ။မသိ။တသ္မာ။ထိုကြောင့်။ ဧတံ။ဤသားကို။ အဟံ။ငါသည်။န
သောစာမိ။မစိုးရိမ်။ ။အမိပုဏ္ဏေးမသည်လည်း။ ။အနဝှ်
တောအယာ်အဂါ။အနနုညာတောဣတောဂတော။ယထာဂတော
တထာဂတော။ တတ္ထကာပရိဒေဝနာ။ ။ဍယှမာနောနဇာနာ
တိ။ဉာတိနံပရိဒေဝနံ။ တသ္မာဧတံနသောစာမိ။ ဂတောသော

တေသာယာဂတိ၊ ။ဟူ၍ဆို၏။ ။မယာ၊ ငါသည်၊ အနုဒိ
သော။ဒေါတဲ၊ အယံ၊ ဤငါ၏သားသည်၊ အဂါ။ငါ့ထိုအိမ်သို့
သော်၏။ယောဒါသည်၊ အနုညာသောသခွင့်မပြုဘဲ၊ ဆူသော။ဤ
သာမူ။ဂတော။ဘာဝတပါးသို့သွား၏။အာဂတောယထာ။ မိမိ၏
အလိုအားဖြင့်သာလျှင်လာသကဲ့သို့၊ တထာ၊ ထိုအတူ။ဂတော။
မိမိ၏အလိုအားဖြင့်သာလျှောင်သွား၏။ တတ္ထ၊ ထိုမိမိ၏အလိုအား
အားဖြင့်သာလျှင်ဘာဝတပါးသို့သွားရာ၌၊ ပရိဒေဝနာ။ ငိုကြွေး
ခြင်းသည်၊ ကာ။ အဘယ်အကျိုးရှိအံ့နည်း။ ။တဿအတ္တ
နော။ထိုမိမိ၏။ ယာဂတိ။ အကြင်ဂတိသည်၊ အတ္ထိ။ ရှိ၏။ တံဂ
တိံ။ထိုဂတိသို့၊ ဂတော။လားသော။ဒုယှမာနေ၊ ဘုတ်ကြည်း
အပ်သော။သော။ထိုငါ၏သားသည်။ဉာတီနံ။ဆွေမျိုးတို့၏။ ပရိ
ဒေဝနံ။ငိုကြွေးခြင်းကို။ နဇာနာတိ။မသိ။ တသ္မာ။ထိုကြောင့်၊ ဧ
တံ။ဤသားကို။ အဟံ။ငါသည်။ နသောစာမိ။ မစိုးရိမ်။ ။နှမ
ယ်သည်လည်း။ ။သစေရောဒေ ကိသာ အဿံ။ တဿာ
မေကိံ ဖလံသိယာ။ဉာတိမိတ္တသုဟဇ္ဇာနံ။ ဘိယျောနော အရတိ
သိယာ။ ။ဍယှမာနေနဇာနာတိ။ဉာတီနံပရိဒေဝနံ။ တသ္မာဧ
တံနသောစာမိ။ ဂတောသောတဿ ယာဂတိ။ ။ဟူ၍ဆို
၏။ ။ဇေဋ္ဌဘာတရိ။ မောင်ကြီးသည်။ မတေ။သေသည်ရှိ
သော်။ အဟံ။ ငါသည်။ သစေရောဒေ။ အကယ်၍ ငိုကြွေးအံ့။
ကိသာ။ ကိုယ်ကြုံလှီကာသော။ အဿံ။ဖြစ်ရာ၏။ တပ္ပစ္စယာ။ ထို
ငိုခြင်းဟူသော အကြောင်းကြောင့်။ ဘာတုပန။ မောင် အား
ကား။ ဝုဍ္ဎိနာမ။အစီးအပွါးမည်သည်။နတ္ထိ။မရှိ။ တဿာမေ။ထို
ငါ့အား။ရောဒန္တိယာ။ငိုသဖြင့်။ ကိံ ဖလံသိယာ။အဘယ်အကျိုး
ဖြစ်ပါအံ့နည်း။နော။ငါတို့၏။ဉာတိမိတ္တသုဟဇ္ဇာနံ။ ဆွေမျိုးမိတ်
ဆင်ပွန်းတို့အား။ဘိယျော။လွန်စွါ။အရတိ။မမွေ့လျော်ခြင်းသည်။
သိယာ။ဖြစ်ရာ၏။ ။တဿအတ္တနော။ထိုမိမိ၏။ ယာဂတိ။ အ
ကြင်ဂတိသည်။အတ္ထိ။ရှိ၏။ တံဂတိံ။ထိုဂတိသို့။ ဂတော။ သွား
သော။ ဍယှမာနေ။ ဘုတ်ကြည်းအပ်သော။ သော။ ထိုငါ၏

မောင်သည်။ဉာတိနံ။ဆွေမျိုးတို့၏။ ပရိဒေဝနံ။ငိုကြွေးခြင်းကို။ နစ္စာနာတိ။မသိ။တသ္မာ။ထိုကြောင့်။ဧတံ။ဤမောင်ကို။အဟံ။ငါသည်။ နသောစာမိ။ မစိုးရိမ်။ ။သေသောသူ၏မယားသည်လည်း။ ။ယထာပိဒါရကောစန္ဒံ။ဂစ္ဆန္တံ။အနုရောဒတိ။ ဧဝံသမ္ပဒမေဝေဒံ။ ယောပေတမနုသောစတိ။ ။ဍယှမာနောနစ္စာနာတိ။ ဉာတိနံပရိဒေဝနံ။ တသ္မာဧတံနသောစာမိ။ ဂတောသောတဿယာဂတိ။ ။ဟူ၍ဆို၏။ ။ဒါရကော။ ရသင့်သည်မရသင့်သည်ကိုမသိသေးသောသူငယ်သည်။ မာတု။ အမိ၏။ ဥစ္ဆင်္ဂေ။ခါးပိုက်၌။နိသိန္နော။ နေလျက်။ အာကာသေန။ ကောင်းကင်ဖြင့်။ဂစ္ဆန္တံ။ သွားသော။စန္ဒံ။ လပြည့်ဝန်းကို။ ဒိသွာ။မြင်၍။ အမ္မ။အမိ။မေ။ငါ့အား။စန္ဒံ။လကို။ ဒေဟိ။ပေးလော့။ မေ။ငါ့အား။ စန္ဒံ။လကို။ဒေဟိ။ပေးလော့။ဣတိ။ ဤသို့။အနုရောဒတိယထာပိ။ အဘန်တလဲလဲငိုသကဲ့သို့လည်း။ဧဝံတထာ။ထိုအတူ။ ယော။အကြင်သူသည်။ပေတံ။သေသောသူကို။အနုသောစတိ။အဘန်တလဲလဲစိုးရိမ်၏။တဿ။ထိုသူအား။ ဣဒံသမ္ပဒမေဝ။ ဤဆိုအပ်ပြီးသောဥပမာ၏ဖြစ်ခြင်းသည်လျှင်။ ဟောတိ။ဖြစ်၏။ ။တဿ အတ္တနော။ထိုမိမိ၏။ယာဂတိ။ အကြင်ဂတိသည်။ အတ္ထိ။ရှိ၏။တံဂတိံ။ထိုဂတိသို့။ဂတော။သွားသော။ဍယှမာနော။ဘုတ်ကြည်းအပ်သော။သော။ထိုငါ၏လင်သည်။ ဉာတိနံ။ဆွေမျိုးတို့၏။ပရိဒေဝနံ။ငိုကြွေးခြင်းကို။ နစ္စာနာတိ။မသိ။ တသ္မာ။ထိုကြောင့်။ဧတံ။ ဤသေသောလင်ကို။ အဟံ။ငါသည်။ နသောစာမိ။ မစိုးရိမ်။ ။ကျွန်မသည်လည်း။ ။ယထာပိဥဒကကုမ္ဘော။ဘိန္နော အပ္ပဋိသန္ဓိယော။ ဧဝံ။သမ္ပဒမေဝေဒံ။ ယောပေတမနုသောစတိ။ ။ဍယှမာနောနစ္စာနာတိ။ ဉာတိနံပရိဒေဝနံ။ တသ္မာဧတံနသောစာမိ။ ဂတောသောတဿယာဂတိ။ ။ဟူ၍ဆို၏။ ။ဖြပဗ္ဗတာ။ ပုဏ္ဏား။ ဘိန္နော။ ခုနစ်ပိုက်ကွဲသော။ ဥဒကကုမ္ဘော။ ရေအိုးသည်။အပ္ပဋိသန္ဓိယောယထာပိ။ တဘန်မစပ်ကောင်းသောသဘောရှိသကဲ့သို့လည်း။ ဧဝံတထာ။ ထိုအတူ။

ယော။အကြင်သူသည်၊ပေတာ၊ သေသောသူကို။ အနှဲ့သောစတိ။ ဖိုးရှိမ်၏။တသာ၊ထိုသူအား။ ဇာဒံသမ္ပဒမေ၀။ ဤကဲ့သောအိုး၏ ဥပမာသည်သာလျှင်။ဟောတိ။ဖြစ်၏။ ။တသာအတ္တနော။ထို မိမိ၏။ယာဂတိ။ အကြင်ဂတိသည်။အဓ္ဓိ။ရှိ၏။တံဂတိ။ထိုဂတိ သို့။ ဂတော။သွားသော။ ဥယျာမာနော။ဘုတ်ကြည်းအပ်သော။ သော။ထိုသေသောသခင်သည်။ဥာတိနံ။ ဆွေမျိုးတို့၏။ ပရိဒေ ၀နံ။ငိုကြွေးခြင်းကို။နဇာနာတိ။မသိ။ တသ္မာ။ထိုကြောင့်။ ထော။ ဤသေသောသခင်ကို။အဟံ။အကျွန်ုပ်သည်။နသောစာမိ။ မစိုး ရိမ်။ ။သိကြားမင်းသည်လည်း၊ထိုငါးယောက်ကုန်သောသူ တို့၏တရားစကားကိုနာရသဖြင့်။ ကြည်ညို၍ယနေ့မှသည် မိမိ လက်ဖြင့် အမှုကို မပြုကြကုန်လင့်။ ငါသည် သိကြား နတ်မင်း တည်း။ သင်တို့၏အိမ်၌ မနိုင်းရှည်နိုင်ကုန်သော ရတနာခုနစ် ပါးတို့ကို ပြုဖြင်အံ့။ သင်တို့သည် ကုသိုလ်ကောင်းမှုကို ပြုကြ ကုန်လော့ဟုဆို၍ဘဲလေ၏။ ။ထိုငါးယောက်ကုန်သောသူ တို့သည်သောကကိုဖျောက်သဖြင့်။မနိုင်းရှည်နိုင်သော်ရတနာ တို့ကိုရသေ၏။ မြတ်စွာဘုရားသည်။ သားသေသော သူကြွယ် ကို အပူတည်းဟူသော သောကမီးကို ငြိမ်းစေခြင်း၄ါ။ ထိုအ တိတ်ကိုဆောင်၍ဟောတော်မူလျှက်ဒုက္ခသစ္စာစသော။ သစ္စာ ကိုပြတော်မူ၏။ ထိုသစ္စာကိုပြတော်မူသည်အဆုံး၌။ သူကြွယ် သည်သည်းသောတာပန်ဖြစ်လေ၏။ ။ထိုကြောင့်။ ရဟန္တာ ပုဂ္ဂိုလ်တို့ကဲ့သို့သမုစ္ဆေဒ ပဟာန်ဖြင့် ပယ်ခြင်း၄ါ မတတ်စွမ်း သော်လည်း။ဗျသနအကြောင်းကြောင့်ဖြစ်လာသော။သောက ဒေါမနဿစသော ပူပန်ခြင်း ဖြင်းသော တရားတို့ကို သင်္ခါရ ဓမ္မအနိစ္စလက္ခဏာတင်၍တရားတည်းဟူသော ဥပနိဿယကို ယူပြီးလျှင်။တဒင်္ဂပဟာန်ပင်ဖြစ်သော်လည်း။ပဟာန်ပေါင်းများ သည် ဖြစ်က မင်္ဂတရား ဖိုလ်အခြေကို ရလေသည့် သဘော ကြောင့်။ အသောကစေတနာကိုမင်္ဂလာမည်၏ဟု ဟောတော် မူသတည်း။အသောကကထာပြီး၏။

## ၃၇။ ကိလေသာမှုကင်းခြင်း-ဝိရဇမင်္ဂလာ။

ဝိရဇံဟူသောသဒ္ဒါအရ။ရဇံ။ မြူသည်လည်း။ နတ္ထိ။မရှိ။ ဝိရဇံ။မြူလည်းမရှိ။ဟုဟောတော်မူသောပုဒ်၌။ရာဂဒေါသ မောဟတို့သည်။မြူမည်ကုန်၏။ပကတိမြူတို့သည် အကြင်အကြင်ဝတ္ထုတို့၌ကျ၏။ ထိုထိုဝတ္ထုတို့ကိုညစ်ညူးသည်ကိုပြုတတ်သကဲ့သို့။ ထိုအတူရာဂဒေါသမောဟတို့သည်။ ထိုထိုသတ္တဝါတို့၏ စိတ်ကိုညစ်ညူးသည်ကို အကြင်ကြောင့်ပြုတတ်ကုန်၏။ ထိုသို့ညစ်ညူးခြင်းကို ပြုတတ်သော အားဖြင့်။ မြူနှင့် တူသည်၏ အဖြစ်ကြောင့်ထိုရာဂဒေါသမောဟတို့သည်။ရဇော၊ဝိယရဇော၊ဟူသောဝစနတ္ထနှင့်အညီရဇမည်ကုန်၏။ထိုကြောင့်မြတ်စွာဘုရားသည်ရူဋ္ဌပန်အား ဇီဝက၏ အိမ်၌ နေတော် မူလျက် လျှင်။ ဝေဠုဝန်ကျောင်း၌နေအရောင်အဝါကိုနှုံးစေတော်မူ၏။ ။ရာဂေါရဇောနစပနရေဏုဝုစ္စတိ။ရာဂဿေတံအဓိဝစနံရဇောတိဇ္ဇတံ။ ရဇံဝိပ္ပဇဟိတွာဘိက္ခဝေါဝိဟရန္တိ။တေဝိတရဇဿသာသနေ။ ။ ဒေါသောရဇောနစပနရေဏုဝုစ္စတိ။ ဒေါသဿေတံအဓိဝစနံရဇောတိဇ္ဇတံ။ရဇံဝိပ္ပဇဟိတွာဘိက္ခဝေါဝိဟရန္တိ။ တေဝိတရဇဿသာသနေ။ ။မောဟောရဇောနစပနရေဏုဝုစ္စတိ။ မောဟဿေတံအဓိဝစနံရဇောတိဇ္ဇတံ။ ရဇံဝိပ္ပဇဟိတွာဘိက္ခဝေါဝိဟရန္တိ။ တေဝိတရဇဿ သာသနေ။ ။ဟူသောဤသုံးဂါထာတို့ကိုဟောတော်မူ၏။ ။အရိယဿ။အရိယာ၏။ဝိနယေ။ ဝိနည်း၌။ရာဂေါ။ရာဂကို။ရဇော။ရဇဟူ၍။ဝုစ္စတိ။ဆိုအပ်၏။ရေဏုပန။ပကတိမြူကိုကား။ရဇော။ရဇဟူ၍။ နဝုစ္စတိ။ မဆိုအပ်။ ရဇောတိ။ ရဇဟူ သော။ ဧတံ အဓိဝစနံ။ ဤအမည် သည်။ ရာဂဿ။ ရာဂ၏။အဓိဝစနံ။အမည်တည်း။ တေဘိက္ခဝေါ။ ထိုပညာရှိကုန်သောရဟန်းတို့သည်။ဧတံရဇံ။ ထိုရာဂဟူသောမြူကို။ ပဇဟိတွာ။ စွန့်ခြင်းကြောင့်။ ဝိတရဇဿ။ အချင်းခပ်သိမ်းကင်းပြီးသောရာဂ အစရှိသောမြူရှိသော ဘုရား၏။ သာသနေ။ သာသနာတော်၌။ဝိဟရန္တိ။နေကုန်၏။ ။အရိယဿ။အရိယာ

၏။ပိနယေ။ပိနည်း၌။ဒေါသော။ဒေါသကို။ရဇော။ရဇဟူ၍။ ဝုစ္စ
တိ။ဆိုအပ်၏။ ရေဏုပန။ ပကတိမြူကိုကား။ရဇော။ ရဇဟူ၍။
နဝုစ္စတိ။မဆိုအပ်။ရဇောတိ၊ရဇဟူသော။ဧတံအဓိဝစနံ။ ဤအ
မည်သည်။ဒေါသဿ။ဒေါသ၏။အဓိဝစနံ။အမည်တည်း။ တေ
ဘိက္ခဝေါ။ ထိုပညာရှိကုန်သောရဟန်းတို့သည်။ ဧတံရဇံ။ ထို
ဒေါသဟူသောမြူကို။ပဇဟိတွာ။စွန့်ခြင်းကြောင့်။ဝိတရဇသာ။
အချင်းခပ်သိမ်းကင်းပြီးသော ရာဂအစရှိသောမြူရှိသော ဘုရား
၏။သာသနေ။သာသနာတော်၌။ဝိဟရန္တိ။နေကုန်၏။ ။အဝိ
ယဿ။ အဝိယာ၏။ပိနယေ။ ပိနည်း၌။မောဟော။ မောဟကို။
ရဇော။ရဇဟူ၍။ဝုစ္စတိ။ဆိုအပ်၏။ရေဏုပန။ပကတိမြူကိုကား။
ရဇော။ ရဇဟူ၍။ နဝုစ္စတိ။မဆိုအပ်။ ရဇောတိ။ ရဇဟူသော။
ဧတံအဓိဝစနံ။။ဤအမည်သည်။မောဟဿ။မောဟ၏။ အဓိဝစ
နံ။အမည်တည်း။တေဘိက္ခဝေါ။ထိုပညာရှိကုန်သောရဟန်းတို့
သည်။ ဧတံရဇံ။ ထိုမောဟဟူသောမြူကို။ပဇဟိတွာ။ စွန့်ခြင်း
ကြောင့်။ဝိတရဇသာ။ အချင်းခပ်သိမ်းကင်းပြီးသောရာဂအစရှိ
သောမြူရှိသောဘုရား၏။သာသနေ။သါသနာတော်၌။ ဝိဟရန္တိ။
နေကုန်၏။ ။အကယ်၍ကား။ ထိုရာဂဒေါသမောဟတို့သည်
မြူနှင့်တူသောအားဖြင့် ထပ်တူဖြစ်ကုန်၏။ ထိုသို့ဖြစ်ကုန်သော်
လည်း။ ထိုရာဂဒေါသမောဟတို့အား အထူးသည်ရှိသလျှင်က
တည်း။ ထိုစကားသည်မှန်၏။ တိကအင်္ဂုတ္တိုရ်ဒုတိယပဏ္ဏာသ
ကဒုတိယဝဂ်၌။ ။သစေဘိက္ခဝေအညတိတ္ထိယာ ပရိဗ္ဗာဇကာ
ဧဝံပုစ္ဆေယျုံ၊ တယောအာဝုသောဓမ္မာ။ ကတမေတယော။ ရာ
ဂေါဒေါသောမောဟော။ ဣမေခေါအာဝုသောတယောဓမ္မာဣ
မေသံအါဝုသောတိဏ္ဏံဓမ္မာနံကောဝိသေသောကောအဓိပ္ပာယ
သောကိံ နာနာကရဏန္တိဧဝံပုဋ္ဌာတုမှေဘိက္ခဝေဝေတေသံအည
တိတ္ထိယာနံပရိဗ္ဗာဇကာနံဧဝံဗျာကရေယျာထရာဂေါခေါ အာ
ဝုသောအပ္ပသာဝဇ္ဇောဒန္ဓဝိရာဂီ။ဒေါသောမဟာသာဝဇ္ဇောခိပ္ပ
ဝိရာဂီ။မောဟောမဟာသာဝဇ္ဇောဒန္ဓဝိရာဂီတိ။ ။ဟူ၍ဟော

တော်မူ၏။ ။ဘိက္ခဝေ။တို့။အညတိတ္ထိယာ။ အညတိတ္ထိယဖြစ်
ကုန်သော။ပရိဗ္ဗာဇကာ။ပရိဗိုဇ်တို့သည်။အာဝုသော။ ငါ့ရှင်တို့။
တယော။သုံးပါးကုန်သော။ဣမေဓမ္မာ။ဤတရားတို့သည်။သန္တိ။
ရှိကုန်၏။တယော။သုံးပါးကုန်သောတရားတို့သည်။ ကတမေ။
အဘယ်သို့နည်းဟူမူကား။အာဝုသော။ ငါ့ရှင်တို့။ရာဂေါ။ရာဂ။
ဒေါသော။ဒေါသ။ မောဟော။မောဟ။ တယော။ သုံးပါးကုန်
သော။ဓမ္မာ။တရားတို့သည်။ဣမေခေါ။ဤသည်တို့တည်း။ အာဝု
သော။ငါ့ရှင်တို့။ဣမေသံတိဏ္ဏံဓမ္မာနံ။ဤသုံးပါးကုန်သောတရား
တို့၏။ ဝိသေသော။ထူးသောအကြောင်းသည်။ကော။ အဘယ်
နည်း။အဓိပ္ပါယသော။တူသောပယောဂသည်။ကော။အဘယ်
နည်း။ နာနာကရဏံ။အထူးကား။ကိံ။အဘယ်နည်း။ ဣတိဧဝံ။
ဤသို့။ တုမှေ။သင်တို့ကို။စေပုစ္ဆေယျုံ။ အကယ်၍မေးကုန်ငြား
အံ့။ ဘိက္ခဝေ။ရဟန်းတို့။ ဧဝံ။ဤသို့။ ပုဋ္ဌာ။ မေးအပ်ကုန်သော။
တုမှေ။ သင်တို့သည်။ အညတိတ္ထိယာနံ။ အညတိတ္ထိယဖြစ်ကုန်
သော။ တေသံပရိဗ္ဗာဇကာနံ။ ထိုပရိဗိုဇ်တို့အား။ အာဝုသော။
ငါ့ရှင်တို့။ရာဂေါခေါ။ ရာဂသည်လျှင်။အပ္ပသာဝဇ္ဇော။လောက
ဝဇ္ဇအားဖြင့်၎င်း။ဝိပါကဝဇ္ဇအားဖြင့်၎င်း။ နည်းသောအပြစ်ရှိ၏။
ဒန္ဓဝိရာဂီ။ ဆိုမင်၏စွန်းခြင်းကဲ့သို့ ဖြည်းညင်းစွာ ပြေခြင်းရှိ၏။
ဒေါသော။ဒေါသသည်။မဟာသာဝဇ္ဇော။ လောကဝဇ္ဇအားဖြင့်
၎င်း။ ဝိပါကဝဇ္ဇအားဖြင့်၎င်း။ ကြီးသောအပြစ်ရှိ၏။ ခိပ္ပဝိရာဂီ။
လျင်မြန်စွာပြေခြင်းရှိ၏။ မောဟော။ မောဟသည်။ မဟာသာ
ဝဇ္ဇော။လောကဝဇ္ဇအားဖြင့်၎င်း။ ဝိပါကဝဇ္ဇအားဖြင့်၎င်း။ ကြီး
သောအပြစ်ရှိ၏။ဒန္ဓဝိရာဂီ။ဖြည်းညင်းစွာပြေခြင်းရှိ၏။ဣတိဧဝံ။
ဤသို့။ဗျာကရေယျာထ။ဖြေကြကုန်လော့။ ။ရာဂသည် လော
ကဝဇ္ဇအားဖြင့်၎င်း။ ဝိပါကဝဇ္ဇအားဖြင့်၎င်း။ အသို့လျှင် ဖြစ်သ
နည်းဟူမူကား။ အမိအဘတို့သည်၎င်း။ နှမ အစရှိကုန်သောသူ
တို့သည်၎င်း။ သားမယားတို့အားသင့်ရာအမျိုးသမီးတို့နှင့် လက်
ထပ်ထိမ်းမြားခြင်း မင်္ဂလာမည်သည်ကိုပြုကုန်၏။ ဤသို့ရှေးဦး

ရာဂသည် လောကဝဇ္ဇအားဖြင့်အပြစ်နည်း၏။ မိမိ၏မယား ဖြင့်ရောင့်ရဲခြင်းလျှင် မူလရှိသောအပါယ်ပဋိသန္ဓေ မည်သည် ကားမဖြစ်။ ဤသို့ရာဂသည်ဝိပါကဝဇ္ဇ၏အစွမ်းအားဖြင့်လည်း နည်းသောအပြစ်ရှိ၏။ဆိမင်၏စွမ်းခြင်းသည် ကြာမြင့်စွာလိုက် သကဲ့သို့ရာဂသည်ပြေသည်ရှိသော်ဖြည်းညင်းစွာပြေ၏။ ရာဂ သည်နှစ်ဘဝသုံးဘဝတိုင်အောင်လိုက်၍ လည်းတပ်ခြင်းသည် မပြေနိုင်ရှိ၏။ထိုစကား၌ဤဝတ္ထုကိုသိအပ်၏။တယောက်သော ယောကျ်ားသည်အစ်ကို၏မယား၌မိစ္ဆာစာရကိုကျင့်သတတ်။ ထိုမိန်းမသည်လည်း မိမိလင်ရင်းထက် ထိုညီ ယောကျ်ားကို အလွန်ချစ်၏။ထိုမိန်းမသည်။ထိုယောကျ်ားငယ်ကို၊ အမောင်။ဤ အကြောင်းသည် ထင်ရှားဖြစ်ချေသော် ကြီးစွာသော လုတ်ူ၏ ကဲ့ရဲ့ခြင်းဖြစ်လတ့ံ။သင့်အစ်ကိုကိုသတ်လော့ဟုဆို၏။ထိုမိန်းမ သည်ဤနည်းဖြင့် သုံးကြိမ်ဆိုလတ်သော်။ ထိုယောကျ်ားသည် မိန်းမစကားကိုယူ၍အစ်ကိုကြီးကိုသတ်လေ၏။ ထိုအစ်ကိုကြီး သည်မယား၌ချစ်ခြင်းကိုမစွန့်နိုင်၍ ထိုအိမ်၌လျှင်ကျွဲကောင် ကြီးဖြစ်၏။ ထိုကျွဲကောင်ကြီးသည် မိန်းမ၏ ရင်ခွင်သို့သာ လျှင်အခါခပ်သိမ်းကျ၏။ထိုမိန်းမသည်လည်း။ ထိုကျွဲကောင် ကို လင်ကြီး ပင်တည်းဟု ထင်မှတ်၍ သတ်လေ၏။ ထိုကျွဲ ကောင်သည်ထိုမိန်းမကိုမစွန့်နိုင်၍ ထိုအိမ်၌ပင်ခွေးဖြစ်ပြန်၏။ ထိုခွေးသည် မိန်းမသွားသမျှကိုပင်လိုက်လေ၏။ ထိုအခါသူတ ပါးတို့ကခွေးမုဆိုးဟုပျက်ရယ်ပြောဆိုကြလေလျှင်။ထိုခွေးကို ပင်တဖန်သတ်ပြန်လေ၏။ ထိုခွေးသည်လည်း ထိုမိန်းမ၌ ချစ် ခြင်း ပြင်းသည် ဖြစ်၍။ ထိုအိမ်၌ပင် နွား ဖြစ် လေ၏။ ထိုနွား သည် ထိုမိန်းမသွားတိုင်းပင်လိုက်လေပြန်၏။ ရှေးနည်းတူ လူ တို့ကနွားကျောင်းသည်မဟု ပျက်ရယ်ပြောဆို ပြန်လေသော်။ ထိုနွားကိုလည်း သတ်ပြန် လေ၏။ ထိုနွားငယ်သည် ထိုအခါ၌ လည်းထိုမိန်းမ၏ ချစ်ခြင်းကိုမစွန့်၍ ထိုမိန်းမ၏ ဝမ်း၌ ပင်လျှင် ဇာတိဿရဉာဏ်ကို ရသောသူ၏ အဖြစ်ဖြင့်ဖြစ်၏။ ထိုသူငယ်

သည် အစဉ်သဖြင့်လေးဘဝ၌ ထိုမိန်းမ သတ်သည်၏ အဖြစ်ကိုမြင်၍၊ ဤသို့သောရန်သူမ၏ အထံ၌စဉ်လျက် ငါသည် ဖြစ်လာ၏ဟုထိုအခါမှစ၍မိမိကိုယ်ကိုထိုမိန်းမလက်ဖြင့်ထိလျှင်အလွန်ထိတ်လန့်တုန်လှုပ်လျက်သာလျှင်ငိုလေ၏။ ထိုမိန်းမလက်သို့မိမိကိုယ်ကိုမထိစေလို။သို့ဖြစ်၍အဘိုးအဘွားတို့သည်ယူ၍မွေးရလေ၏။ ကြီးပြင်းသောအခါအဘိုးအဘွားတို့အား ထိုအကြောင်းကိုပြောကြားလေ၏။ ထိုအခါအဘိုးသည်ငိုလျက် သို့လောက်ပင် နှိပ်စက်သော ရန်သူမတို့နှင့် အတူနေ၍ အဘယ်အကျိုး ရှိအံ့ဟု မြေးငယ် ကို ခေါ်၍ တခု သော ကျောင်း သို့ သည်းကပ်ပြီးလျှင်။ ကြီးပြင်းသော အရွယ်ရောက်ကာလ နှစ်ယောက် ကုန်သော မြေးအဘိုးတို့သည် ရဟန်း ပြုကြ၍ အရဟတ္တဖိုလ်သို့ ရောက်ကြ ကုန်၏။ ။ဒေါသသည် အသို့လျှင် လောက ဝဇ္ဇ အားဖြင့်ရင်း။ ဝိပါက ဝဇ္ဇ အားဖြင့် ရင်း အပြစ်ကြီးသနည်းဟူမူကား။ အကြင်သူသည် ဖျက်ဆီးအပ်သည်ဖြစ်၍အမိအဘ နှမအစ်ကို အစရှိကုန်သောသူတို့၌ရင်း။ ရဟန်းသူတော်ကောင်းတို့၌ရင်းပြစ်မှားလေ၏။ ထိုသူသည် ရောက်လေရာရာတို့၌။ ဤသူသည်ကားဤသို့သဘောရှိ၏ဟုကဲ့ရဲ့ခြင်းကိုရလေ၏။ ဤသို့ရှေးဦးစွာဒေါသသည် လောကဝဇ္ဇအားဖြင့်ကြီးသောအပြစ်ရှိ၏။ ဒေါသ၏အစွမ်းအားဖြင့်ပြုအပ်သော အနန္တရိယကံဖြင့်တကမ္ဘာပတ်လုံးငရဲ၌ခံရ၏။ဤသို့ဒေါသသည်ဝိပါကဝဇ္ဇအားဖြင့်ကြီးသောအပြစ်ရှိ၏။ ဒေါသသည်အသို့လျှင် လျင်စွာပြေလွယ်သနည်းဟူမူကား။ ဖျက်ဆီးပြစ်မှားမိသော သူတို့ထံ၌ ရင်း။ စေတီ ဗောဓိ ၌ ရင်း။ ရဟန်း သူ တော် တို့ ထံ ၌ ရင်း။ အကျွန်ုပ်၏ပြစ်မှားမိသောကံကိုသည်းခံပါဟုတောင်းပန်ကန်တော့သည်နှင့်တပြိုင်နက်ပြေ၏။ ထိုကြောင့် ဒေါသသည် လျင်စွာပြေလွယ်၏။ ။မောဟအားဖြင့် တွေဝေသည်ဖြစ်၍မိဘတို့၌ရင်း။ စေတီဗောဓိတို့၌ရင်း။ ရဟန်းတို့၌ရင်းပြစ်မှား၍ထိုသူသည်ရောက်လေရာရာအရပ်တို့၌လည်းကဲ့ရဲ့ခြင်းကိုရ၏။ဤ

လိုမောဟသည်ရှေးဦးစွာလောကဝဇ္ဇ၏အစွမ်းအားဖြင့် အပြစ်ကြီး၏။ မောဟ၏အစွမ်းအားဖြင့် ပြုအပ်သော အနတ္ထရိယကံကြောင့်တကမ္ဘာပတ်လုံးငရဲ၌ခံရ၏။ ဤသို့မောဟသည်ဝိပါကဝဇ္ဇ၏အစွမ်းအားဖြင့်အပြစ်ကြီး၏။ ဝံရေသည်အကြိမ်တရာဖွပ်လျှော်ငြားသော်လည်း မဖြူသကဲ့သို့မောဟသည် အလွန်မိုက်သောသဘောရှိသောကြောင့် ထိုအတူပင်တည်း။ ထိုကြောင့်ရဟန်းတို့အား မြတ်စွာဘုရားသည်။ ။အနုတ္တ ဇနနော လောဘော။ လောဘော စိတ္တပ္ပကောပနော။ ဘယမန္တရတော ဇာတံ။ တန္တ နော နာဝဗုဇ္ဈတိ။ ။လုဒ္ဓေါအတ္ထံနဇာနာတိ။ လုဒ္ဓေါဓမ္မံနပဿတိ။ အန္ဓတမံတဒါဟောတိ။ ယံလောဘောသဟတေနရံ၊ ။အနုတ္တ ဇနနော ဒေါသော။ ဒေါသော စိတ္တပ္ပကောပနော။ ဘယမန္တရတော ဇာတံ။ တန္တ နော နာဝဗုဇ္ဈတိ။ ။ဒုဋ္ဌော အတ္ထံ နဇာနာတိ။ ဒုဋ္ဌော ဓမ္မံ နပဿတိ။ အန္ဓတမံတဒါဟောတိ။ ယံဒေါသော သဟတေ နရံ။ ။အနုတ္တ ဇနနော မောဟော။ မောဟော စိတ္တပ္ပကောပနော။ ဘယမန္တရတော ဇာတံ။ တန္တ နော နာဝဗုဇ္ဈတိ။ ။မူဠှော အတ္ထံ နဇာနာတိ။ မူဠှော ဓမ္မံ နပဿတိ။ အန္ဓတမံ တဒါဟောတိ။ ယံမောဟော သဟတေ နရံ။ ။ဣတိဝုတ်တိကနိပါတ်ဝဇ္ဇဝဂ်မင်္ဂလသုတ်ပါဠိတော်။ ။လောဘော။ လောဘသည်။ အနုတ္တ ဇနနော။ မိမိ၏အကျိုးမဲ့သူတပါး၏အကျိုးမဲ့ကိုဖြစ်စေတတ်၏။ လောဘော။ လောဘသည်။ စိတ္တပ္ပကောပနော။ စိတ်ကို ချောက်ချားစေတတ်၏။ တံ။ ထိုလောဘဟု ဆိုအပ်သော။ အန္တရတော။ မိမိ၏စိတ်၌လျှင်။ ဇာတံ။ ဖြစ်သော။ ဘယံ။ အကျိုးမဲ့၏ဖြစ်ခြင်းစိတ်၏ ချောက်ချားခြင်းအစရှိသော ဘေး၏အကြောင်းကို။ ဇနော။ များစွာသောလူမိုက်သည်။ နာဝဗုဇ္ဈတိ။ မသိ။ လုဒ္ဓေါ။ လောဘနှိပ်စက်သောသူသည်။ အတ္ထံ။ မိမိ၏အကျိုးစီးပွါးစသောအားဖြင့်ပြားသော အကျိုးစီးပွါးကို။ နဇာနာတိ။ မသိ။ လုဒ္ဓေါ။ လောဘနှိပ်စက်သောသူသည်။ ဓမ္မံ။ ဆယ်ပါးသောကုသလကမ္မပထတရားကိုလည်း။ နပဿတိ။ မမြင်။ ဥဏ္ဏှိမနသ

ဓမ္မံ။ဥဒ္ဒိဿရိမန္တသဿမ္မေကို။ပဂေဝ။အဘာယ်ဆိုဘွယ်ရှိအံ့နည်း။ယံ။
အကြင်အခါ၌။ လောဘော။ လောဘာသည်။ နရံ။လူကို။ သဟာ
တေ။နှိပ်စက်၏။တဒါ။ထိုအခါ၌။ အန္ဓတမံ။ကန်းသည်၏အဖြစ်
ကိုပြုတတ်သောအမိုက်သည်။ ဟောတိ။ဖြစ်၏။ တနည်းကား။
ယံ။အကြင်ကြောင့်။ လောဘော။လောဘာသည်။ ဥပ္ပဇ္ဇမာနော။
ဖြစ်လတ်သော်။ နရံ။လူကို။ သဟာတေ။နှိပ်စက်၏။ တသ္မာ။ ထို
ကြောင့်။ တဒါ။ထိုလောဘဖြစ်သောအခါ၌။ အန္ဓတမံ။ ကန်း
သည်၏အဖြစ်ကိုပြုတတ်သောအမိုက်သည်။ဟောတိ။ဖြစ်၏။ ။
ဒေါသော။ဒေါသသည်။အနတ္ထဇနနော။မိမိ၏အကျိုးမဲ့သူတပါး
၏အကျိုးမဲ့ကိုဖြစ်စေတတ်၏။ ဒေါသော။ ဒေါသသည်။ စိတ္တပ္ပ
ကောပနော။ စိတ်ကိုချောက်ချားစေတတ်၏။ တံ။ထိုဒေါသဟု
ဆိုအပ်သော။အန္တရတော။မိမိ၏စိတ်၌သျှောင်။ ဇာတံ။ ဖြစ်သော။
ဘယံ။ အကျိုးမဲ့၏ဖြစ်ခြင်းစိတ်၏ချောက်ချားခြင်း အစရှိသော
ဘေး၏အကြောင်းကို။ဇနော။များစွာသောလူမိုက်သည်။ နာဝ
ဗုဇ္ဈတိ။မသိ။ဒုဋ္ဌော။ဒေါသနှိပ်စက်သောသူသည်။ အတ္ထံ။မိမိ၏
အကျိုးစီးပွါးအစရှိသောအားဖြင့် ပြားသောအကျိုးစီးပွါးကို။ န
ဇာနာတိ။မသိ။ဒုဋ္ဌော။ဒေါသနှိပ်စက်သောသူသည်။ ဓမ္မံ။ဆယ်
ပါးသောကုသလကမ္မပထတရားကိုလည်း။ နပဿတိ။ မမြင်။
ယံ။အကြင်အခါ၌။ ဒေါသော။ဒေါသသည်။ နရံ။ လူကို။ သဟာ
တေ။နှိပ်စက်၏။တဒါ။ထိုအခါ၌။ အန္ဓတမံ။ ကန်းသည်၏အဖြစ်
ကိုပြုတတ်သောအမိုက်သည်။ဟောတိ။ ဖြစ်၏။ တနည်းကား။
ယံ။အကြင်ကြောင့်။ ဒေါသော။ဒေါသသည်။ ဥပ္ပဇ္ဇမာနော။ဖြစ်
လတ်သော်။ နရံ။လူကို။ သဟာတေ။ နှိပ်စက်၏။ တသ္မာ။ ထို
ကြောင့်။တဒါ။ထိုဒေါသဖြစ်သောအခါ၌။အန္ဓတမံ။ကန်းသည်၏
အဖြစ်ကိုပြုတတ်သောအမိုက်သည်။ ဟောတိ။ဖြစ်၏။ ။မော
ဟော။မောဟာသည်။အနတ္ထဇနနော။ မိမိ၏အကျိုးမဲ့သူတပါး၏
အကျိုးမဲ့ကိုဖြစ်စေတတ်၏။ မောဟော။ မောဟာသည်။ စိတ္တပ္ပ
ကောပနော။စိတ်ကို ချောက်ချားစေတတ်၏။ တံ။ထိုမောဟာဟု

ဆိုအပ်သော။အနုဿရတော။မိမိ၏စိတ်၌လျှင်။ ဇာတံ။ ဖြစ်သော။ ဘယံ။ အကျိုးမဲ့၏ဖြစ်ခြင်း စိတ်၏ချောက်ချားခြင်း အစရှိသော ဘေး၏အကြောင်းကို။ ဇနေ။များစွာသောလူမိုက်သည်။ နာဝ ဗုဇ္ဈတိ။ မသိ။ မူဠှော။ မောဟနှိပ်စက်သော သူသည်။ အတ္ထံ။ မိမိ၏ အကျိုးစီးပွါး အစရှိသော အားဖြင့် ပြား သော အကျိုး စီးပွါးကို။ နဇာနာတိ။ မသိ။ မူဠှော။ မောဟနှိပ်စက်သော သူသည်။ ဓမ္မံ။ ဆယ်ပါးသော ကုသလ ကမ္မပထ တရားကို လည်း။နပဿတိ။မမြင်။ယံ။အကြင်အခါ၌။ မောဟော။ မောဟ သည်။နရံ။လူကို။သဟတေ။နှိပ်စက်၏။တဒါ။ထိုအခါ၌။ အန္ဓတမံ။ကန်းသည်၏အဖြစ်ကိုပြုတတ်သောအမိုက်သည်။ ဟောတိ။ ဖြစ်၏။တနည်းကား။ ယံ။အကြင်ကြောင့်။ မောဟော။ မောဟ သည်။ဥပ္ပဇ္ဇမာနော။ ဖြစ်လတ်သော်။နရံ။လူကို။ သဟတေ။နှိပ် စက်၏။ တသ္မာ။ထိုကြောင့်။ တဒါ။ထိုမောဟဖြစ်သောအခါ၌။ အန္ဓတမံ။ ကန်းသည်၏အဖြစ်ကိုပြုတတ်သော မိုက်ခြင်း၏အ ဖြစ်သည်။ ဟောတိ။ဖြစ်၏။ ။ဤသို့ဖြေဆိုခဲ့သည်၏ အဖြစ် အစရှိသော အားဖြင့် ထူးသည်ဖြစ်၍ဖြစ်ကုန်သော မိုက်ခြင်း ၏အဖြစ်ဖြင့်ထပ်တူဖြစ်ကုန်သော ထိုရာဂအစရှိသည်တို့ကို အ ကြင်အကြင်ဆိုအပ်ပြီးသောအနက်အားဖြင့်ရဇမည်ကုန်၏ဟူ၍ သိအပ်ကုန်၏။ ။ထိုသို့မြူမည်သော ရာဂဒေါသမောဟအစရှိ ကုန်သောတဆဲ့တပါးသောမီးတို့ ကင်းရာကုန်ရာချုပ်ရာ ဖြစ် ကုန်သောအသင်္ခတဓာတ်ဟုဆိုအပ်သော နိဗ္ဗာန်ကိုမြင် တော်မူကုန်ပြီးသော ရဟန္တာပုဂ္ဂိုလ်တို့၏စိတ်၌ကား။ ။ဝိဂ တာ‌တေရဇာဗောဓိဝိရဇံ။ ။ဟူ၍ဟောအပ်၏။ ။ဧ တသ္မာ။ ဤစိတ်မှ။ တေရဇာ။ ထိုရာဂဒေါသမောဟဟူကုန် သောမြူတို့သည်။ဝိဂတာ။ကင်းကုန်၏။ဣတိသ္မာ။ ထိုကြောင့်။ဧ တံ။ထိုမြူကင်းသောရဟန္တာပုဂ္ဂိုလ်တို့၏စိတ်သည်။ ဝိရဇံ။ဝိရ ဇမည်၏။ ။ဤသို့သောဝစနတ္ထနှင့်အညီ။ရဟန္တာပုဂ္ဂိုလ်တို့၏ စိတ်၌ရမက်တဖျော်ကိလေသာတည်းဟူသောမြူတို့၏အညစ်အ

ကြေးအပေါင်းတို့သည်ကင်းလေကုန်ပြီးဖြစ်၍မင်္ဂလာမည်ကုန်၏။ ။ပုထုဇဉ်ပုဂ္ဂိုလ်တို့၏စိတ်၌ကား။ ရဟန္တာပုဂ္ဂိုလ်တို့ကဲ့သို့သမုစ္ဆေဒအစွမ်းဖြင့်ပင်မပယ်နိုင်သော်လည်း။တဒင်္ဂပဟာန အစွမ်းဖြင့်ပင်လျှင် သမ္မာဒိဋ္ဌိရှိယမည်သော အာရက္ခခါတ်စသည်တို့ဖြင့်ရာဂအစရှိသောရဇပဟူသော မြူအညစ်အကြေးတို့ကိုဆေးကြောသုတ်သင် ပယ်ထွင်သန့်ရှင်းခြင်း၌လည်း လောကဝဇ္ဇပိပါကဝဇ္ဇအားဖြင့် နှစ်ပါးသောအပြစ်တို့သည် သံလဟုကမည်သောပေါ့ပါးခြင်းသို့ ရောက်နိုင်သည်၏အဖြစ်ကြောင့်ငှင်း။အတိသေဌှဟုဆိုအပ်သော သေတဆဏ္ဍှစ်ဝသောထီးဖြူတို့ကိုလှစ်ထူဖြန့်မိုးလျက် အလွန်မြတ်နိုး နှစ်သက်အပ်စွာသော ပဋိသန္ဓေ အဘိညာဉ်သမာပတ်တို့ကို ဆတ်ဆတ်ရချရနိုင်သည်၏အဖြစ်ကြောင့်ငှင်း။ ထိုတဒင်္ဂပဟာနအစွမ်းဖြင့်ပယ်လှန်သုတ်သင် ချွတ်ထွင်ရိတ်လှီးအပ်သော ဝိရဇတရားသည်လည်း မင်္ဂလာမည်၏။ ။ထိုရဇမည်သော ရာဂဒေါသမောဟတို့ကို တဒင်္ဂမျှမပယ်မူ၍ ရာဂ၏အလိုသို့လိုက်သော ဝေသာလီပြည်၌ တဦးသောဆေဋ္ဌာသည်၏ သားသည်။ လိစ္ဆဝီမင်း၏သို့ဖြစ်သောရတနာနတ်သွင်ကို ယိုချင်နှစ်သက် စုံမက် တပ်စွန်းခြင်းသည်ဘိစီး၍။ လျှံပြီးပြောင်ပြောင် တောက်လောင် ငြိစွဲ အပ်သော တဏှာထက်သန် ဥပါဒါန် လောင်မီး ကြောင့် ပျက်စီးခြင်းသို့ ရောက်လေသည်ကို သိအပ်၏။ ။ဒေါသ မောဟဟူသောမြူတို့ကို တဒင်္ဂမျှ မပယ် နိုင်သည်ဖြစ်၍ ဗာရာဏသီပြည်၌တိကဝါသမည်သော မင်း၏သားဖြစ်သော ဒုဋ္ဌကုမာရမည်သောဒိမ်ရှေ့မင်းသည်။ တပါးသောပစ္စေကဗုဒ္ဓါအရှင်ကို ငြိုငြင်ဘိစီး ဖျက်ဆီး နှိပ်စက်အပ်သော ဒုဋ္ဌဒေါသ တည်းဟူသောကံ၏အစွမ်းကြောင့်။ မိမိ၏ပဋိသန္ဓေစိတ်နှင့် တပြိုင်နက်တည်သော ကမ္မဇစိတ္တဇဟုဆိုအပ်သော ဥပာဒေါဇော ခါတ်သည်ကမ္ဘာမီးမက ပြင်းပြ တောက်လောင်ခြင်း ရှိသည်ဖြစ်၍ သည်းအူပြောင်းဖြန်ပုပ်နံအဖှန်အလွန်ကျင်နါခြင်းတို့ကိုမျှောက်

ဘုံသော၌။ အလှစွာသောရေတို့ကိုရှာဖွေအားထုတ်ကြသော်
လည်းမိမိပြုအပ်ပြီးသောအကုသလအတိတ် ကမ္မဖိဋ္ဌိ၏တန်းခိုး
သည်လွှမ်းမိုးနှိပ်စက်ခြင်းကြောင့် အိုင်။ အင်း စသော ရေအ
ပေါင်းတို့သည် ခမ်းခြောက်ပျောက်ကွယ်ခြင်းသို့ ရောက်လေ
ကုန်၏။ ထိုသို့ခမ်းခြောက်ပျောက်ကွယ်ခြင်းသည်လောကဝဇ္ဇ
မည်၏။ ကိုနွင့်တမူအပူသည်းစွာဝေဒနာတို့ကိုသည်းခံရာမရ၍
မရဏာသန္ဓေဇာ၏အဆုံး၌ရောက်အပ်သော ကမ္မဖိဋ္ဌိ၏တန်းခိုး
ဖြင့်မဟာအဝိစိငရဲမီးလျှံတို့သည် ယူဆောင်နှိပ်စက်အပ်သော
ဇာခွမ်းကြောင့်မဟာအဝိစိငရဲ၌ခံရသော အပါယဂမနီယဒုက္ခ
ဟုဆိုအပ်သော အင်းရဲသည့် ဝိပါက ဝဇ္ဇ မည်၏။ ထိုဆိုအပ်
ကုန်ပြီးသောမောဟ၏မိုက်မည်းတွေဝေခြင်းအလင်းမရသော
သဘာဝကြောင့်။ ဒေါသမီးလွှမ်းမိုး၍အကျိုးမှမဲ့ဘူးလေသော
ဒုစ္စရုမာရမည်သော အိမ်ရှေ့မင်းကိုသိအပ်၏။ ။ထိုသို့တ
ဒင်္ဂမျှရာဂ အစရှိသော မှုတို့ကို မပယ် ခြင်းကြောင့် တွေ့အပ်
သောပဋ္ဌပြုနှိဒုက္ခသမ္ပရာယိကဒုက္ခတို့၏အပြစ်ဟူသောအာဒီန
ဝကိုသိသဖြင့် ရာဂဒေါသမောဟဟူကုန်သော မှုတို့ကိုတဒင်္ဂ
ဝိက္ခမ္ဘ နအစွမ်းဖြင့်ပင်ချောင် ပယ်နိုင်သည်ဖြစ်က မြိုကင်းသော
စိတ်ကိုရခြင်း၌စွမ်းနိုင်၏။ထိုကြောင့်မြတ်စွာဘုရားသည်။ ။
ယောစ လောဘံပဟတွာန။ လောဘနေ ယျေနလုဇ္ဇတိ။ လော
ဘောပဟီယတေ ဘမှာ။ ဥဒဗိန္ဒုဝပေါက္ခရာ။ ။ယောစဒေါ
သံပဟတွာန။ ဒေါသနေယျေနုဒုသာတိ။ ဒေါသောပဟီယတေ
တမှာ။တာလပက္ကံဝဗန္ဓနာ။ ။ယောစမောဟံပဟတွာန။မော
ဟနေယျေနမုယှတိ။ မောဟံဝိဟန္တိ သောသဗ္ဗံ။ အာဒိစ္စောဝုဒ
ယန္တမံ။ ။ဟူ၍ဟောတော်မူ၏။ ။ယောစ။အကြင်သူသည်
လည်း။လောဘံ။လောဘကို။ပဟတွာန။ရှေးအတိုင်း၌တဒင်္ဂဝိက္ခမ္ဘန
၏အစွမ်းအားဖြင့်ဖြစ်ထိုက်သည်အားလျော်စွာ သမထဝိပဿ
နာတို့ဖြင့်ပယ်၍။လောဘနေယျေ။ တပ်စွန်းဘွယ်ရှိသောအာရုံ
၌။ နလုဇ္ဇတိ။ မတပ်စွန်း။ပေါက္ခရာ။ကြာရွက်မှ။ ဥဒဗိန္ဒု။ ရေ

ပေါက်သည်။ ပဟီယတိဣဝ။ကင်းသကဲ့သို့။ တမ္ဟာ။ ထိုသူမှ။ လောဘော။ လောဘသည်။ ပဟီယတေ။စင်စစ်ကင်း၏။ ။ ယောစ။အကြင်သူသည်လည်း။ ဒေါသံ။ ဒေါသံကို။ ပဟာတွာန။ ရှေးအဘို့၌တဒင်္ဂဝိက္ခမ္ဘနတို့၏အစွမ်းအားဖြင့် ဖြစ်ထိုက်သည်အား လျော်စွာသမထဝိပဿနာတို့ဖြင့်ပယ်၍။ ဒေါသနေယျော။ အမျက်ထွက်ဘွယ်ရှိသောအာရုံ၌။နဒုဿတိ။အမျက်မထွက်။တာလပက္ကံ၊ ထန်းသီးမှည့်သည်။ ဗန္ဓနာ။အညှာမှ။ ပဟီယတိဣဝ။ ကင်းသကဲ့သို့။တမှာ။ထိုသူမှ။ဒေါသော။ဒေါသသည်။ ပဟီယတေ။ကင်း၏။ ။ယောစ။အကြင်သူသည်လည်း။မောဟံ။မောဟကို။ပဟာတွာန။ ရှေးအဘို့၌တဒင်္ဂဝိက္ခမ္ဘနတို့၏အစွမ်းအားဖြင့်ဖြစ်ထိုက်သည်အားလျော်စွာသမထဝိပဿနာတို့ဖြင့်ပယ်၍။ မောဟနေယျော။တေဝေဘွယ်ရှိသောအာရုံ၌။ နမုယှတိ။မတွေဝေ။ ဥဒယံ။ထွက်လတ်သော။အာဒိစ္စော။နေမင်းသည်။ တမံ။အမိုက်ကို။ဝိဟာနတိဣဝ။ဖျောက်သကဲ့သို့။သော။ထိုသူသည်။ သဗ္ဗံ။အလုံးစုံသော။မောဟံ။မောဟကို။ဝိဟန္တွာ ဝိဟာနတိ။ အရဟတ္တမဂ်ဖြင့်ဖြတ်၏။ ။ထိုဆိုအပ်ကုန်ပြီးသောနည်း လောဘဒေါသမောဟတရားတို့ကိုပယ်ခြင်းသည်လည်း။ အရဟတ္တမဂ်ဉာဏ်ဖိုလ်ဉာဏ်တို့ကိုမြင်နိုင်သော ဝိဇ္ဇာမယ်ဒိဋ္ဌိအဖြစ်သို့ ရောက်နိုင်သည်၏အဖြစ်ကြောင့်လည်းမင်္ဂလာမည်၏။

---

## ၃၈။ ယောဂလေးပါးစသောဘေးမရှိခြင်း- ခေမမင်္ဂလာ။

လေးပါး ကုန်သော ယောဂတို့ဖြင့် ဘေးကင်း သော စိတ်သည်ခေမမည်၏။ ယောဂတို့သည်လောဘဒိဋ္ဌိမောဟတို့၏အစွမ်းအားဖြင့်သုံးပါးတို့သည်သာလျှင်ဖြစ်ကုန်၏။ ထိုသို့ဖြစ်ကုန်သော်လည်း။ ထိုယောဂတို့သည် ကာမယောဂအစရှိသောအမည်အားဖြင့်လေးပါးဖြစ်ကုန်၏။ ထိုလေးပါးတို့၏သရုပ်ကိုသိ

ဝေခြင်းငှါ။ ။ဝဋ္ဋသ္မိံ ယောဇေန္တီတိယောဂါ။ ပဉ္စကာမဂုဏိ
ကောရာဂေါကာမယောဂေါ။ ရူပါရူပဘဝေသုဆန္ဒရာဂေါဘ
ဝယောဂေါ။တထာဈာနနိကန္တိသဿတဒိဋ္ဌိသဟဂတောစရာ
ဂေါ။ ဒွါသဋ္ဌိဒိဋ္ဌိယောဒိဋ္ဌိယောဂေါ။ စတူသုသစ္စေသုအညာဏံ
အဝိဇ္ဇာယောဂေါ။ကာမေသုဝါယောဇေတီတိကာမယောဂေါ။
ဘဝေသုယောဇေတီတိဘဝယောဂေါ။ ဒိဋ္ဌီသုယောဇေတီတိ
ဒိဋ္ဌိယောဂေါ။ အဝိဇ္ဇာယ ယောဇေတီတိ အဝိဇ္ဇာ ယောဂေါ။
ဟေဋ္ဌာဝုတ္တဓမ္မာနံအဓိဝစနံ။ ။ဟူ၍စတုက္ကအင်္ဂုတ္တိုရ်ပဌမ
ပဏ္ဏာသကပဌမဝဂ် ဒသမသုတ်အဋ္ဌကထာ၌ဆို၏။ ။ယော
ဓမ္မာ။အကြင်တရားတို့သည်။ ဝဋ္ဋသ္မိံ။ဝဋ်၌။ ယောဇေန္တိ။ ယှဉ်
တတ်ကုန်၏။ ဣတိတသ္မာ။ထိုကြောင့်။ တေဓမ္မာ။ထိုတရားတို့
သည်။ယောဂါ။ယောဂမည်ကုန်၏။ ပဉ္စကာမဂုဏိကော။ ငါး
ပါးသောကာမဂုဏ်၌ယှဉ်သော။ ရာဂေါ။ ရာဂသည်။ ကာမ
ယောဂေါ။ကာမယောဂမည်၏။ ရူပါရူပဘဝေသု။ရူပဘဝအရူ
ပဘဝတို့၌။ဆန္ဒရာဂေါ။တပ်စွန်းသောရာဂသည်။ ဘဝယောဂေါ။
ဘဝယောဂမည်၏။ ဈာနနိကန္တိ စ။ဈာန်၌တပ်စွန်းခြင်းသည်၎င်း။
သဿတဒိဋ္ဌိသဟဂတော။ ဘဝဒိဋ္ဌိနှင့်တကွ ဖြစ်သော။ ရာ
ဂေါစ။ရာဂသည်၎င်း။ တထာ။ထိုအတူ။ ဘဝယောဂေါ။ ဘဝ
ယောဂမည်၏။ ဒွါသဋ္ဌိဒိဋ္ဌိယော။ ခြောက်ဆဲ့နှစ်ပါးကုန်သော
ဒိဋ္ဌိတို့သည်။ ဒိဋ္ဌိယောဂေါ။ဒိဋ္ဌိယောဂမည်၏။ စတူသုသစ္စေ
သု။သစ္စာလေးပါးတို့၌။အညာဏံ။မသိခြင်းသည်။ အဝိဇ္ဇာယော
ဂေါ။အဝိဇ္ဇာယောဂမည်၏။ ဝါ။တနည်းကား။ ယောဓမ္မော။အ
ကြင်တရားသည်။ ကာမေသု။ကာမတို့၌။ ယောဇေတိ။ ယှဉ်
တတ်၏။ဣတိတသ္မာ။ထိုကြောင့်။သောဓမ္မော။ ထိုတရားသည်။
ကာမယောဂေါ။ ကာမယောဂမည်၏။ ယောဓမ္မော။ အကြင်
တရားသည်။ ဘဝေသု။ဘဝတို့၌။ယောဇေတိ။ ယှဉ်တတ်၏။ဣ
တိတသ္မာ။ထိုကြောင့်။သောဓမ္မော။ ထိုတရားသည်။ ဘဝယော
ဂေါ။ဘဝယောဂမည်၏။ ယောဓမ္မော။အကြင်တရားသည်။ ဒိဋ္ဌီ

သု။ဒိဋ္ဌိတို့၌။ယောဧတိ။ယှဉ်တတ်၏။ဣတိတသ္မာ။ထိုကြောင့်။သောဝမွော။ထိုတရားသည်။ ဒိဋ္ဌိယောဂေါ။ဒိဋ္ဌိယောဂမည်၏။ယောဝမွော။အကြင်တရားသည်။အဝိဇ္ဇာယ။အဝိဇ္ဇာ၌။ယောဧတိ။ယှဉ်တတ်၏။ ဣတိတသ္မာ။ထိုကြောင့်။ သောဝမွော။ ထိုတရားသည်။အဝိဇ္ဇာယောဂေါ။အဝိဇ္ဇာယောဂမည်၏။ ဇတံ။ထိုကာမယောဂအစရှိသော အမည်သည်။ ဟေဋ္ဌာ။ အောက်၌။ဝုတ္တဝမွာနံ။ဆိုအပ်ကုန်ပြီးသောတရားတို့၏။ အဓိဝစနံ။ အမည်တည်း။ ။ကာမယောဂ။ ဘဝယောဂ။ အဝိဇ္ဇာယောဂတို့၌ဆိုအပ်သောစကားကို။လောဘမောဟတို့၌တဒင်္ဂဝိက္ခမ္ဘနပဟာန်ဖြင့်ပင်လျှင်ပယ်လှန်ချိုးဖျက်က အရဟတ္တမဂ်ထီးဖြူကို ဖွင့်ထူဆောင်းထိုက်သည်နှင့်တကွ။ ဝိရဇပုဒ်၏အဖွင့်အဆုံး၌ဆိုအပ်ခဲ့ပြီးဖြစ်သလျှင်ကတည်း။ ဒိဋ္ဌိယောဂ၌ဆိုအပ်သော စကားကိုကားအာဂါရိယဝိနည်း၌ ဆိုအပ်ပြီးသလျှင် ကတည်း။ တနည်းလည်းအကြင်သူသည် တဒင်္ဂ၏အစွမ်းအားဖြင့်လည်း ဒိဋ္ဌိယောဂကိုစွန့်၏။ထိုသူ၏စိတ်သည်ခေမမည်၏။ ထိုစကားသည်သင့်၏။ထိုဒိဋ္ဌိယောဂကို စွန့်သောစိတ်သည်လည်း မင်္ဂလာမည်၏။ထိုစကား၌ ဤဆိုလတံ့သည်ကား ဝတ္ထုတည်း။ ။မြတ်စွာဘုရားသည် ပရိနိဗ္ဗာန်ပြုတော်မူသည်ရှိသော်။ သုတ်အဘိဓမ္မာဝိနည်းတို့ကို သင်္ဂါယနာ တင်အံ့သော၌ ရွေး၍ ယူအပ် ကုန်သော မဟာထေရ်တို့သည်ငင်း။ တပါးကုန်သော မထေရ်တို့သည်ငင်း။ ဝါကပ်သည်တိုင်အောင်မိမိမိမိတို့၏ပရိသတ်နှင့်တကွထိုထိုအရပ်၌ နေကုန်လတ်သော်။ အရှင်ကုမာရ ကဿပသည် ငါးရာ ကုန်သော ရဟန်းတို့နှင့် တကွ သေတဗျ မြို့ သို့ရောက်၍ယင်းတိုက်တော၌နေ၏။ထိုအခါပါရာသိမည်သောအဘိသိက်မခံသော မင်းသည် များစွာသောလူအပေါင်းဖြင့် ခြံရံလျက်။ အရှင်ကုမာရကဿပမထေရ်၏အထံသို့ဆည်းကပ်၍ပဋိသန္ထာရကိုပြုလျက် လောကတပါးသည်မရှိ။ ဤသို့အစရှိသဖြင့်မိမိ၏မိစ္ဆာဒိဋ္ဌိကိုပြ၏။ ထိုအခါထိုပါရာသိမည်သော အဘိ

သိက်မခံသောမင်းကို။ အရှင်ကုမာရကဿပမထေရ်သည် ဒီ
ဃနိကာယ်မဟာဝဂ်၏ အဆုံးဖြစ်၍ဖြစ်သော ပါယာသိသုတ်ကို
ဟော၍။ ထိုပါယာသိမည်သော အဘိသိက် မခံသော မင်းကို
ဖေါက်ပြန်သောအယူမှကင်းစေ၍ကောင်းသောအယူ၏ပြည့်
စုံခြင်း၌တည်စေ၏။ ထိုပါယာသိရာဇာသည်စင်ကြယ်သောအ
ယူရှိသည်ဖြစ်၍ ရဟန်းပုဏ္ဏား သူဆင်းရဲ ခရီးသွားအစရှိကုန်
သောသူတို့အား အလှူပေးလတ်သော်။ မိမိ၏ကြမ်းကြုတ်ခက်
ထန်သောသဘောကိုမပြတ်သောဆန္ဒရှိသည်၏အဖြစ်ကြောင့်
ရှုံ့ရင်းသောအစာအဝတ်ပအုံးရည်လျှင်အဘော်ရှိသောဆန်ကွဲ
ထမင်းတို့ကိုပေးလှူ၏။ ဤသို့ပါယာသိရာဇာသည် မရိုမသေ
အလှူကိုလှူ၍စုတေ့လေလျှင်။ စတုမဟာရာဇ်၌ဆိတ်ငြိမ်သော
ကုက္ကိုပင်ရောက်သောငွေဗိမာန်၌ဖြစ်၏။ ထိုပါယာသိရာဇာ၏
ကိစ္စကြီးငယ်တို့၌မပြတ်ယှဉ်သော ဥတ္တရမည်သောလုင်သည်
ကား။ ထိုမင်း၏အလှူတို့၌ ရိုသေစွာလုံ့လထုတ်၍ပေးလှူ သော
ကြောင့် တာဝတိံသာနတ်ပြည်၌ ၁၂ ယူဇနာရှိသောဗိမာန်၌ဖြစ်
၏။ အရှင်ဂဝမ္ပတိမထေရ်သည်ကား။ ပကတိအားဖြင့်ရှေး၌လေ့
ကျက်ဘူးသောဆိတ်ငြိမ်သောအရပ်၌ဖြစ်၍နေ့အဘို့၌ကုက္ကိုပင်
ရောက်သော ထိုဆိတ်ငြိမ်သောဗိမာန်သို့လျှင်မပြတ်ကြွ၏။ ထို
ဗိမာန်သည် အရှင်ဂဝမ္ပတိအားချမ်းသာသောဥတုရှိ၏။ တနေ့
သ၌အရှင်ဂဝမ္ပတိမထေရ်သည်ထိုဗိမာန်၌ပါယာသိနတ်သားကို
မြင်၍။ နတ်သား။သင်ကားအဘယ်သူနည်းဟုမေး၏။ အရှင်ဘုရားဤ
ဗိမာန်၌ ဖြစ်သော အကျွန်ုပ်သည် ပါယာသိရာဇာ တည်းဟူ၍
နတ်သားသည်ဆို၏။ ပါယာသိရာဇာ။သင်သည်မိစ္ဆာအယူရှိ၍
ဖေါက်ပြန်သောအကျင့်ရှိသည်မဟုတ်လော။ အဘယ့်ကြောင့်
ဤ၌ဖြစ်သနည်းဟုမေးတော်မူ၏။ အရှင်ဘုရား။ အကျွန်ုပ်ကိုအ
ရှင်ကုမာရကဿပမထေရ်သည်မိစ္ဆာအယူမှကြဉ်စေ၏။ပုည
ကြိယာ၌ အရိုအသေပြုလေ့မရှိသည်၏ အဖြစ်ကြောင့်။ ဆိတ်
သောဗိမာန်၌အကျွန်ုပ်သည်ဖြစ်ရ၏။အရှင်ဘုရား။ အကျွန်ုပ်သည်

တောင်းပန်ပါ၏။ လူ့ပြည်သို့ရောက်သောကာလ၌အကျွန်ုပ်၏ပ ရိသတ်တို့အား ပါရာသိရာဇည္စမရှိမသေအလှူပေး၍ဆိတ်သော ကျက္ကူပြင်ဗိမာန်၌ဖြစ်၏။ သင်တို့သည်ကားရှိသေစွာကောင်းမှု တို့ကိုပြု၍ထိုဗိမာန်၌ဖြစ်စိမ့်သော၌ါဝိတ်ကိုထားကြကုန်လော့ ဟုကြားတော်မူပါလော့ဟုလျှောက်၏။ ဂဝမ္ပတိမထေရ်သည်ထို ပါရာသိ နတ်သားအား သနားသဖြင့် လျှောက် လိုက်သည့် အ တိုင်းကြား တော်မူ၏။ ပါရာသိ နတ်သား၏ အခြံအရံ တို့သည် လည်း။ ထိုအရှင်ဂဝမ္ပတိမထေရ်၏ စကားကိုကြား၍ ဆိုတိုင်း စိတ်ကိုထား၍ ကုသိုလ်ကောင်းမှုတို့ကိုပြု ကြလေ ကုန်သော်။ ထိုသူတို့သည် ထိုကုက္ကူပြင်ရောက်သောဗိမာန်၌ ပါရာသိနတ် သားထံဖြစ်ကြကုန်၏။ ။(ဥတ္တရဝိမာန ထေရိသက ဝိမာနပါ ရာသိသုတ်အဋ္ဌကထာတို့၌လာသောပါရာသိရာဇညဝတ္ထု။)

ဤသို့ပါရာသိ ရာဇည္စသည် မိမိစိတ်ကိုတာဒင်္ဂ၏ အစွမ်းဖြင့် ဒိဋ္ဌယောဂမှကင်းသည်ကိုပြု၍နတ်ပြည်၌ဖြစ်၏။ ထိုကြောင့်ပါ ရာသိရာဇည္စ၏ ထိုစိတ်သည့်လည်း မင်္ဂလာမည်၏၊ ရှေး၌ဆို အပ်ပြီးသောနည်းဖြင့် ရဟန္တာမှတပါးသောသူ၏အသောကစိ ရဇခေမဟူသော သုံးပါး အပြားရှိသော စိတ်သည်လည်း အ ကယ်၍ကားမင်္ဂလာမည်၏။ထိုသို့မင်္ဂလာမည်ငြားသော်လည်း ရဟန္တာမှ တပါးသောသူ၏စိတ်သည်။ အခါခပ်သိမ်း စိုးရိမ် ခြင်းကင်းသည်လည်းမဟုတ်။ ရာဂဒေါသ မောဟဟူသောမြူ ကင်းသည်လည်းမဟုတ်။ ယောဂလေးပါးဟူသောဘေးကင်း သည် လည်း မဟုတ်။ ရဟန္တာ ၏ စိတ် သာ လျှင် အခါ ခပ် သိမ်းစိုးရိမ်ခြင်းကင်းသည်လည်းဖြစ်၏။ ရာဂဒေါသမောဟဟူ သောမြူကင်းသည်လည်းဖြစ်၏။ယောဂလေးပါးဟူသောဘေး ကင်းသည်လည်းဖြစ်၏။ ထိုကြောင့် အဋ္ဌကထာဆရာတို့သည် အသောကမည်သည်ကား ရဟန္တာတို့၏စိတ်သည်လျှင်တည်း။ ထိုအတူရဟန္တာတို့၏စိတ်သာလျှင်ဝိရဇမည်၏။ ခေမမည်၏။ ဤသို့အမြတ်၏အစွမ်းအားဖြင့်ဆို၍ ထိုစိတ်၏မင်္ဂလာမည်သည်

၏အဖြစ်ကိုအမှကထာ၌။ ။ဝေါ် တေနတေနာဂတာရေန် တမှိ တမ္ဟိပဝတ္တိက္ခဏောဂဟေတွါနိဒ္ဒိဋ္ဌဝသေနတိဝိဓမ္ပိအပ္ပဝတ္တကမ္မနွ တာဒိလောကုတ္တရမဘာဝါဝဟာနတော အာဟုနေယျာဒိ ဘာဝါ ဝဟာနတောစမင်္ဂလတ္တံ ဝေဒိတဗ္ဗံ။ ။ဟုမိန့်ဆိုတော်မူ၏။ ။ တေနတေနာဂတာရေန္။ ထိုထို အခြင်း အရာဖြင့်။ တမှိတမှိပ ဝတ္တိက္ခဏော။ ထိုထိုဖြစ်သော ခဏော၌။ ဝေါ်။ ထိုစိတ်ကို။ ဂ ဟေတွာ။ယူ၍။ နိဒ္ဒိဋ္ဌဝသေန။ပြအပ်သည့်၏အစွမ်းအားဖြင့်။တိ ဝိဓမ္ပိ။သုံးပါးအပြားရှိသောစိတ်သည်လည်း။ အပ္ပဝတ္တကမ္မနွ တာ ဒိလောကုတ္တရမဘာဝါဝဟာနတော။ဘဝသစ်၌ဥပါဒိဏ္ဏကဝဋ်၏ မဖြစ်သည့်၏အဖြစ် ဇာတ္တာရုံအနိဋ္ဌာရုံ၌ သည်းခံသည့်၏ အဖြစ် လောကထက် မြတ်သည့်၏အဖြစ်ကို ဆောင်တတ်သည့်၏အ ဖြစ်ကြောင့်ရင်း။အာဟုနေယျာဒိဘာဝါဝဟာနတောစ။ အဝေးမှ ဆောင်၍လှူအပ်သော အလှူဝတ္ထုကိုခံထိုက်သည့်၏အဖြစ် အစ ရှိသည့်ကိုဆောင်တတ်သည့်၏အဖြစ်ကြောင့်ရင်း။ မင်္ဂလံ။ မင်္ဂ လာမည်၏။ဣတိ။ဤသို့။ဝေဒိတဗ္ဗံ။သိအပ်၏။ ။ဤအမှကထာ ၌အပ္ပဝတ္တကမ္မနွာဘာဝမည်သည်ကား။ဘဝသစ်၌ဥပါဒိဏ္ဏကဝဋ်၏ မဖြစ်ခြင်းတည်း။ထိုစကားသည်သင့်၏။အမှသာလိနီ၌။ ။ သစေအရဟာတောအရဟတ္တမဂ္ဂေါ အဘာဝိတောအဘာဝိသဿ ရူ ပါရူပဘဝေသုဥပါဒိဏ္ဏကပ္ပဝတ္တံပဝတ္တေယျ။ ကသ္မာ။ ထာသပ ဝတ္တိယာဟေတုနံ့အတ္တိတာယ။ ရူပရာဂေါမာနောဥဒ္ဓစ္စံ အဝိဇ္ဇာ မာနာနုသယောဘဝရာဂါနုသယောအဝိဇ္ဇာနုသယောတိဣမေ ပနအဋ္ဌကိလေသေမဂ္ဂေါဥပ္ပဇ္ဇမာနောဝသမုဿာဒေတိ။ ဣဒါနိ ကုတောဒီဏာသဝဿပုနဗ္ဘဝေဥပါဒိဏ္ဏကဝဋ္ဋံပဝတ္တိဿတိ။ ဇေံအရဟတ္တမဂ္ဂေါ ဥပါဒိဏ္ဏကပ္ပ ဝဋ္ဋံအပဝတ္တံကုရုမာနောဥပါ ဒိဏ္ဏကတောဝုဋ္ဌာတိ။ ။ဟူ၍ဆို၏။ ။အရဟာတော။ရဟန္တာ အား။အရဟတ္တမဂ္ဂေါ။အရဟတ္တမင်္ဂသည်။အဘာဝိတော။ မပွါး စေအပ်သည်။ သစေအဘာဝိဿ။အကယ်၍ဖြစ်ငြားအံ့။ ရူပါရူပ ဘဝေသု။ရူပဘဝအရူပ ဘဝတို့၌။ဥပါဒိဏ္ဏကပ္ပဝဋ္ဋံ။ဥပါဒိဏ္ဏက

ဝန္နံသည်။ ပဝတ္တေယျ။ဖြစ်ရာ၏။ ကသ္မာ။အဘယ်ကြောင့်နည်း
ဟူမူကား။တသ္မာ။ထိုဥပါဒိဏ္ဏကဝန္န၏။ ပဝတ္တိယာ။ဖြစ်ခြင်း၏။
ဟေတူနံ။ အကြောင်း တို့၏။ အတ္ထိတာယ။ ရှိသည်၏ အဖြစ်
ကြောင့်တည်း။ ရူပရာဂေါ။ ရူပရာဂ။ အရူပရာဂေါ။အရူပရာဂ။
မာနော။မာန။ဥဒ္ဓစ္စံ။ဥဒ္ဓစ္စ။အဝိဇ္ဇာ။အဝိဇ္ဇာ။ မာနာနုသယော။မာ
နာနုသယ။ဘဝရာဂါနုသယော။ ဘဝရာဂါနုသယ။ အဝိဇ္ဇာနုသ
ယော။အဝိဇ္ဇာနုသယ။ ဣတိဣမေပနအဋ္ဌကိလေသာ။ဤရှစ်ပါး
ကုန်သောကိလေသာတို့ကိုကား။သောမဂ္ဂေါ။ ထိုအရဟတ္တမဂ်
သည်။ဥပ္ပဇ္ဇမာနောဝ။ဖြစ်လျက်လျှင်။သမုစ္ဆိန္ဒတိ။ဖြတ်၏။ဣ
ဒါနိ။ယခုအခါ၌။ ဒိဿာသဝသာ။ရဟန္တာအား။ ပုနပ္ပုနေ။ ဘဝ
သစ်၌။ ဥပါဒိဏ္ဏကဝန္နံ။ ဥပါဒိဏ္ဏက ဝန္နံသည်။ ကုတောပ
ဝတ္တိဿတိ။ အဘယ်မှာဖြစ်လတ့ံနည်း။ ဧဝံ။ဤသို့။ အရဟတ္တ
မဂ္ဂေါ။အရဟတ္တမဂ်သည်။ဥပါဒိဏ္ဏကပ္ပဝန္နအပဝတ္တံ။ ဥပါဒိဏ္ဏ
ကဝန္န၏ မဖြစ်ခြင်းကို။ ကုရုမာနော။ ပြုလျက်။ ဥပါဒိဏ္ဏက
တော။ဥပါဒိဏ္ဏကမှ။ ဝုဋ္ဌာတိ။ထ၏။ ။သည်းခံခြင်း၏အဖြစ်
ကိုကား။ ။ကထံအရဟာဇာဠ္ဌာနိဋ္ဌေတာဒိ။အရဟာလာဘေပိ
တာဒိ အလာဘေပိ ယသေပိ ပသံသာ ယပိ နိန္ဒာယပိ သုခေပိ
ဒုက္ခေပိတာဒိ။ ဧကဒေ့ဗာဟံဂန္ဓေနလိမ္ပေယံဧကဒေ့ဝ သိယာ
တစ္ဆေယံအမုသ္မိံနတ္ထိရာဂေါ အမုသ္မိံနတ္ထိပဋိဃံအပ္ပဋိဃာ ဝိပ္ပဟိ
နောဥဿာတိနိဿာတိဝတ္တော အနုရောဓဝိရောဓသမတိက္ကန္တော။
ဧဝံအရဟာဇာဠ္ဌာနိဋ္ဌေတာဒိ။ ။ဟူ၍ပရမတ္ထကသုတ္တနိဒ္ဒေသ
၌အရှင်သာရိပုတ္တရာသည် ဟောတော်မူအပ်၏။ ။အရဟာ။
ရဟန္တာသည်။ ဇာဠ္ဌာနိဋ္ဌေ။ ဇာဠ္ဌာရုံအနိဋ္ဌာရုံ၌။ ကထံတာဒိ။အ
ဘယ်သို့သည်းခံသနည်း။ ဣတိအယံ။ ဤသည်ကား။ ပုစ္ဆာ။အ
မေးတည်း။ အရဟာ။ရဟန္တာသည်။ လာဘေပိ။ ပစ္စည်းလေး
ပါးတို့ကိုရခြင်း၌လည်း။တာဒိ။သည်းခံ၏။အလာဘေပိ။ပစ္စည်း
လေးပါးတို့ကိုမရခြင်း၌လည်း။တာဒိ။သည်းခံ၏။ယသေပိ။အခြံ
အရံနှင့်ပြည့်စုံခြင်း၌လည်း။ တာဒိ။သည်းခံ၏။အယသေပိ။အခြံ

အရုံနှင့်မပြည့်စုံခြင်းဌာလည်း။ တာဒိ။သည်းခံ၏။ ပသံသာယပိ။ ချီးမွမ်းခြင်းဌာလည်း။ တာဒိ။ သည်းခံ၏။ နိန္ဒာယပိ။ ကဲ့ရဲ့ခြင်းဌာ လည်း။တာဒိ။သည်းခံ၏။သုခေပိ။ကာယိကသုခဌာလည်း။တာဒိ။ သည်းခံ၏။ဒုက္ခေပိ။ကာယိကဒုက္ခဌာလည်း။တာဒိ။ သည်းခံ၏။ဧ ကံဗာဟံ။မောင်းတဘက်ကို။ဂန္ဓေန။နံ့သာဖြင့်။ စေလိမ္ပေယျုံ။အ ကယ်၍လိမ်းကျံငြားအံ့။ ဧကံဗာဟံ။မောင်းတဘက်ကို။ ဝါသိ ယာ။ပဲခွပ်ဖြင့်။စေတစ္ဆေယျုံ။အကယ်၍ရွေကုန်ငြားအံ့။အမုသ္မိံ။ နံ့သာတို့ဖြင့်လိမ်းခြင်းဌာ။ရာဂေါ။ ချစ်ခြင်းသည်။ နတ္ထိ။မရှိ။ အမု သ္မိံ။ပဲခွပ်ဖြင့်ရွေခြင်းဌာ။ပဋိဃံ။အမျက်ထွက်ခြင်းသည်။ နတ္ထိ။မ ရှိ။ဥဿာတိနိဿာတိဝတ္တော။ ချစ်ခြင်း၏အစွမ်းအားဖြင့်ချီးမြှောက် ခြင်း၊အမျက်ထွက်ခြင်း၏အစွမ်းအားဖြင့်နှိပ်ခြင်းကိုလွန်၍။ အနု ရောဓဝိရောဓသံမတိက္ကန္တော။ ချစ်ခြင်းမုန်းခြင်းကိုကောင်းစွာ လွန်၍။ဝေံ။ဤသို့။အရဟာ။ရဟန္တာသည်။ဣဋ္ဌာနိဋ္ဌေ။ ဣဋ္ဌာရုံအ နိဋ္ဌာရုံဌာ။ တာဒိ။ သည်းခံ၏။ ။အာဟုနေယျောတိ။ အာဟုတိ သင်္ခါတံပိဏ္ဍပါတံပဋိဂ္ဂဟေတုံယုတ္တော။ ပါဟုနေယျောတိ ပါ ဟုနကဘတ္တဿအနုစ္ဆဝိကော။ ဒက္ခိဏေယျောတိဒသပိဓေါန ဝတ္ထုပြရိစ္စါဂဝသေနသဒ္ဒါဒါနသင်္ခါတာယဒက္ခိဏာယအနုစ္ဆဝိ ကော။အဉ္ဇလိကရဏီယောတိအဉ္ဇလိပဂ္ဂဟာဿအနုစ္ဆဝိကော။ အနုတ္တရံပုညက္ခေတ္တံ လောကဿတိ သဗ္ဗလောကဿအသဒိသံ ပုညဝိရူဟနဋ္ဌာနံ။ ။တိကအင်္ဂုတ္တိုရ်ဒုတိယပဏ္ဏာသက အဋ္ဌ ကထာ။ ။အာဟုနေယျောတိ။ အာဟုနေယျောဟူသည် ကား။အာဟုတိသင်္ခါတံ။ အဝေးမှလည်းဆောင်၍လှူအပ်သည် ၏အဖြစ်ကြောင့်အာဟုဆိုအပ်သော။ ပိဏ္ဍပါတံ။ ဆွမ်းအစရှိ သောပစ္စည်းကို။ပဋိဂ္ဂဟေတုံ။ခံအံ့သောငှါ။ ယုတ္တော။လျောက် ပတ်၏။ ပါဟုနေယျောတိ။ ပါဟုနေယျောဟူသည်ကား။ ပါ ဟုနကဘတ္တဿ။ အရပ်မျက်နှာတိုင်းမှလာကုန်သောချစ်အပ်နှ လုံးကိုပွါးစေအပ်ကုန်သော အမျိုးအဆွေခင်ပွန်းတို့၏အကျိုးငှါ အရိုအသေ ပြုသောအားဖြင့် စီရင်အပ်သော အာဂန္တုကဘတ်

အား။ အနုဿတိကော။ ဟျော်၏။ ဧကဂ္ဂတော ယောတိ။ ဧကဂ္ဂတော ယောဟူသည်ကား။ ဧသပိဓါနဝတ္ထုပုဂ္ဂိလ္ဂါဂဝသေန။ ဆယ်ပါးအပြားရှိသောဒါနဝတ္ထုကို စွန့်ကြသည်၏ အစွမ်းအားဖြင့်။ သဒ္ဓါဒါနသင်္ဂါတာယ။ ယုံကြည်၍လှူအပ်သည်ဟုဆိုအပ်သော။ ဧကဂ္ဂတာယ။ အလှူဝတ္ထုအား။ အနုဿတိကော။ ဟျော်၏။ အဥ္ဇလိကရဏီယောတိ။ အဥ္ဇလိကရဏီယောဟူသည်ကား။ အဥ္ဇလိပဂ္ဂဟာသ။ လက်အုပ်ချီခြင်းအား။ အနုဿတိကော။ ဟျော်၏။ အနုတ္တရံ ပုညခေတ္တံလောကဿာတိ။ အနုတ္တရံပုညခေတ္တံလောကဿဟူသည်ကား။ သဗ္ဗလောကဿ။ ခပ်သိမ်းသောလောက၏။ အသဒိသံ။ အတူမရှိသော။ ပုညဝိရူဟနဋ္ဌာနံ။ ကောင်းမှု၏စည်ပင်ပွါးများရာလယ်ယာမြေကောင်းသဘွယ်ဖြစ်၏။ ။သင်္ဃာတော်သည်အရပ်မျက်နှာတိုင်းမှလာကုန်သော ချစ်အပ်နှလုံးကိုပွါးစေအပ်ကုန်သောအမျိုးအဆွေခင်ပွန်းတို့၏အကျိုးငှါ အရိုအသေပြုသောအားဖြင့်စီရင်အပ်သောအာဂန္တုကဘတ်အားအဘယ်သို့ လျော်သနည်း ဟူမူကား။ ထိုသို့သဘောရှိသော အာဂန္တုကဘတ်ကို။ ထိုသို့သဘောရှိကုန်သော ဧည့်သည်တို့ကို ထား၍ သင်္ဃာအားသာလျှင်လှူခြင်းငှါလျော်၏။ သင်္ဃာသည်သာလျှင် ထိုသို့သဘောရှိသောအာဂန္တုကဘတ်ကိုခံခြင်းငှါထိုက်၏။ ထိုစကားသည် သင့်၏။ သင်္ဃာနှင့်တူသော ဧည့်သည်မရှိ။ ထိုကြောင့်လျှင် ဤသင်္ဃာသည်ဘုရားတို့၏ တခုသောအကြားဖြစ်သောကာလသည် လွန်မှသာထင်၏။ ရံခါကမ္ဘာ အသင်္ချေယျသည်လွန်မှသာထင်၏။ ချစ်အပ်သည်၏အဖြစ်နှလုံးကိုပွါးစေအပ်သည်၏အဖြစ်ကို ပြုတတ် ကုန်သော တရားတို့နှင့် လည်းပြည့်စုံ၏။ ဤသို့ အာဂန္တုကဘတ်ကို သင်္ဃာအား လှူခြင်းငှါလျော်၏။ သင်္ဃာသည်လည်း ခံခြင်းငှါလျော်၏။ ထိုကြောင့်သင်္ဃာသည်ပါဟုနေယျမည်၏။ ဤစကား၌ ဤဆိုလတ္တံ့သည်ကားအဓိပ္ပါယ်တည်း။ ဝေးကွာခြင်းကြာကုန်သော အဆွေ အမျိုးမိတ်ခင်ပွန်းတို့သည်မကြာမြင့်မီလျှင်ပေါင်းမိကုန်၏။ ထိုအဆွေ

အမျိုးမိဘ်ခင်ပွန်းတို့၌ချစ်အပ်သည့်၏အဖြစ်နှလုံးကုံပွါးစေအပ်သည့်၏အဖြစ်သည်လည်းအမြဲမတည်။ ဤသဃ်ာတော်သည်ကား။ ဤကဲ့သို့မဟုတ်။ ထိုကြောင့်သဃ်ာတော်သည်သာလျှင်ပါဟုနေယျ အာဂန္တုကဘတ်အားလျော်၏။ ဤကားအဓိပ္ပါယ်တည်း။ ။ထိုအဋ္ဌကထာ၏ဋီကာ။ ။ဤသို့ဆိုအပ်ပြီးသောနည်းဖြင့်ထိုရဟန္တာစိတ်သည်ဘဝသစ်၌ ဥပါဒိဏ္ဏကဝန်၏မဖြစ်ခြင်းအစရှိသည်ကို ဆောင်တတ်သည်၏အဖြစ်ကြောင့်မင်္ဂလာမည်၏။ ။အသောကန္တာနံ့ စတုစတ္တာလီသ ဟူ၍ ဆိုခြင်းကြောင့် သုံးဆဲ့သုံးပါးသော ကုသိုလ်အကုသိုလ်စိတ် အောက်ဖိုလ်သုံးခုဝိထိရတ်ကိုးပါးသောမဟာဂ္ဂုတ်စိတ်တို့၏အစွမ်းအားဖြင့်ငါးဆဲ့လေးပါးသောစိတ်သည် ကြည့်အပ်ကုန်သောကာမဝိပါက်တောဝိသ။ကြိယာဝိသ။အရဟတ္တဖိုလ်တို့၏အစွမ်းအားဖြင့်လေးဆဲ့လေးပါးကုန်သော ဝိထိစိတ်တို့သည် ရဟန္တာအားအကယ်၍ကားဖြစ်ကုန်၏။ ထိုသို့ဖြစ်ကုန်သော်လည်းဤအရာ၌နကမ္ဘတိအသောကံဝိရဇံခေမံဟူ၍ ဟောတော်မူခြင်းကြောင့်။ အရဟတ္တဖိုလ်စိတ်ကိုသာလျှင်ရအပ်၏။ အကြင် အရဟတ္တဖိုလ်စိတ်နှင့်ပြည့်စုံသောထိုရဟန္တာ၏ စိတ်ကိုနတ်တို့သည်လည်းမြင်ခြင်းငှါမတတ်နိုင်ကုန်။ထိုကြောင့်သမ္ဗသာဒနီယဋီကာ၌။ ။နအရိယာနန္တိယေနစိတ္တေနတေအရိယာနာမဇာတာတံ။ လောကုတ္တရစိတ္တံနဇာနာတိ။ဥပရိမဿစိတ္တံနဇါနာတိ။အပ္ပဋိဝိဒ္ဓတာဝတော။ ယထာဟ်ပုထုဇ္ဇနေဿဝေဿသမ္ပိအရိယာနံလောကုတ္တရစိတ္တံ နဇာနာတိ အပ္ပဋိဝိဒ္ဓတ္တာ။ ဧဝံအရိယောပိ ဥပရိမော ပန ဟေဋ္ဌိမဿဇာနာတိပဋိဝိဒ္ဓတ္တာတိအဓိပ္ပါယော။ ။ဟုမိန့်ဆိုတော်မူ၏။ ။နအရိယာနန္တိ။ နအရိယာနံဟူသည်ကား။ ယေန စိတ္တေန။ အကြင် လောကုတ္တရာစိတ်ဖြင့်။ တေ။ ထိုပုဂ္ဂိုလ်တို့သည်။ အရိယာနာမ။အရိယာမည်ကုန်သည်။ ဇာတာ။ဖြစ်ကုန်၏။တံလောကုတ္တရစိတ္တံ။ထိုလောကုတ္တရာစိတ်ကို။ ပုထုဇ္ဇနော။ ပုထုဇဉ်သည်။နဇာနာတိ။မသိ။ ဟေဋ္ဌိမော။ အောက်ဖြစ်သော

အရိယာသည်။ အပ္ပဋိဝိဒ္ဓဘာဝတော။ ထိုးထွင်း၍မသိသည်၏အဖြစ်ကြောင့်။ ဥပရိမဿ။ အထက်ဖြစ်သောအရိယာ၏။ စိတ္တံ။ စိတ်ကို။ နဇာနာတိ။ မသိ။ ဟိဝိတ္ထာရယိဿာမိ။ ချဲ့ဦးအံ့။ ပုထုဇ္ဇနော။ ပုထုဇဉ်သည်။ အပ္ပဋိဝိဒ္ဓတ္တာ။ ထိုးထွင်း၍မသိသည်၏ အဖြစ်ကြောင့်။ သဗ္ဗေသမ္ပိအရိယပုဂ္ဂလာနံ။ ခပ်သိမ်းကုန်သော အရိယာပုဂ္ဂိုလ်တို့၏လည်း။ လောကုတ္တရစိတ္တံ။ လောကုတ္တရာစိတ်ကို။ နဇာနာတိယထာ။ မသိသကဲ့သို့။ ဧဝံတထာ။ ထိုအတူ။ အရိယောပိ။ အောက်ဖြစ်သောအရိယာပုဂ္ဂိုလ်သည်လည်း။ အပ္ပဋိဝိဒ္ဓတ္တာ။ ထိုးထွင်း၍မသိသည်၏အဖြစ်ကြောင့်။ ဥပရိမဿ။ အထက်ဖြစ်သောအရိယာ၏။ စိတ္တံ။ စိတ်ကို။ နဇာနာတိ။ မသိ။ ဥပရိမောပန။ အထက်ဖြစ်သော အရိယာ ပုဂ္ဂိုလ်သည်ကား။ ပဋိဝိဒ္ဓတ္တာ။ ထိုးထွင်း၍သိသည်၏ အဖြစ်ကြောင့်။ ဟေဋ္ဌိမဿ။ အောက်ဖြစ်သောအရိယာ၏။ စိတ္တံ။ စိတ်ကို။ ဇာနာတိ။ သိ၏။ ဣတိ အယံ။ ဤသည်ကား။ အဓိပ္ပါယော။ အဓိပ္ပါယ်တည်း။ ။ဖုဋ္ဌဿလောကဓမ္မေဟိ။ စိတ္တံယဿနကမ္ပတိ။ အသောကံဝိရဇံခေမံ။ ဧတံမင်္ဂလမုတ္တမံ။ ။ဟူသောဂါထာဖြင့်မတုန်မလှုပ်စိုးရိမ်ခြင်းမရှိသောစိတ်။ ရာဂ။ ဒေါသ။ မောဟဟူသောမြူမရှိသောစိတ်။ ယောဂလေးပါးတို့ဖြင့်ဘေးမရှိသောစိတ်ဟူသောမင်္ဂလာလေးပါးကိုဟောတော်မူ၏။

ဤသို့နတ်သားသည်မေးအပ်သောမြတ်စွာဘုရားသည်။ ပဌမ။ ဒုတိယ။ ဆဋ္ဌမဂါထာတို့၌သုံးပါးသုံးပါးသောမင်္ဂလာ။ တတိယ။ စတုတ္ထ။ ပဥ္စမ။ အဋ္ဌမ။ နဝမ။ ဒသမဂါထာတို့၌ ၄ ပါး ၄ ပါးစသောမင်္ဂလာ။ သတ္တမဂါထာ၌ငါးပါးသောမင်္ဂလာ။ ဤသို့ဆယ်ဂါထာတို့ဖြင့်သုံးဆဲ့ရှစ်ပါးသောမင်္ဂလာတို့ကို ဟောတော်မူပြီး၍။ ယခုအခါ၌ထိုသုံးဆဲ့ရှစ်ပါးကုန်သောမင်္ဂလာတို့ကို ချီးမွမ်းတော်မူလိုရကား။ ။ဧတာဒိသာနိကတွာန။ သဗ္ဗတ္ထမပရာဇိတာ။ သဗ္ဗတ္ထသောတ္ထိံဂစ္ဆန္တိ။ တံတေသံမင်္ဂလမုတ္တမံ။ ။ဟူသောဧကာဒသမ ဂါထာကို ဟောတော်မူ၏။ ။သောသေဝ

ပုတ္တ။အဒိုနတ်သား။တောဒိသာနီ။ဤသို့သဘောရှိကုန်သော၊ မင်္ဂ
လာနီ။ သူမိုက်တို့အားမမှီဝဲခြင်းအစ ရဟန္တာတို့၏ရအပ်သော
မိတ်၌ ယောဂလေးပါး ဟူကုန်သော တရားတို့သည် မယှဉ်
သည်ဖြစ်၍ဘေးမရှိသောစိတ်အဆုံးရှိသော သုံးဆဲ့ရှစ်ပါးကုန်
သောမင်္ဂလာတို့ကို။ ကရောန္တိ။ပြုကုန်၏။ ဝါ။မိမိစိတ်သည်ပြု
အပ်သောမင်္ဂလာရှိကုန်၏။ ဝါ။ မိမိစိတ်ကိုထိုသုံးဆဲ့ရှစ်ဖြာမင်္ဂ
လာအပေါင်းတရားကောင်းတို့သည်ပြုပြင်အပ်ကုန်၏။ ကတွာ
န။ ပြုပြီး၍။ ဝါ။ ပြုခြင်းတည်းဟူသောသင်္ခံလေ့ကျက်ကျင့်
ဆောင်ရွက်၍။. တေ။ ထိုသူတို့သည်။ သဗ္ဗတ္ထ။ ခပ်သိမ်းကုန်
သောခန္ဓ။ကိလေသ။အဘိသင်္ခါရ။ ဒေဝပုတ္တမာရ်အားဖြင့်ပြား
ကုန်သောလေးပါးကုန်သောရန်မာရ်တို့၌။အပရာဇိတာ။ တပါး
ပါးသောရန်မာရ်သည်မအောင်အပ်ကုန်သည်အဖြစ်၌။ ဝါ။ ထို
လေးပါးသော ရန်တို့တွင် တပါးပါးသောရန်မာရ်သည် မနှိပ်
စက်အပ်ကုန်သည်ဖြစ်၍။ သဗ္ဗတ္ထ။ ခပ်သိမ်းသောပစ္စုပ္ပန်လော
ကတမလ္လွန်လောက၌။ တနည်းကား။ သဗ္ဗတ္ထ။ ခပ်သိမ်းကုန်
သောရပ်ခြင်း သွားခြင်း အစရှိကုန်သော ဣရိယာ ပုထ်တို့၌။
သောတ္ထိံ။ ဘေးမရှိကုန်သည်ဖြစ်၍။ ဝါ။ ချမ်းသာ ခြင်းသို့။
ဂစ္ဆန္တိ။သွားရကုန်၏။ တဿ။ထိုကြောင့်။ တံ။ သင်နတ်သား
သည်။ တေသံ။ ထိုသူမိုက်တို့အားမမှီဝဲခြင်းအစရှိသောသုံးဆဲ့
ရှစ်ပါးသောမင်္ဂလာကိုပြုကုန်သောသူတို့၏။ တံမင်္ဂလံ။ ထိုသူ
မိုက်တို့အားမမှီဝဲခြင်းအစရှိသော သုံးဆဲ့ရှစ်ပါး အပြားရှိသော
မင်္ဂလာကို။ ဥတ္တမံ။မြတ်၏ဟူ၍။ ဂဏှာဟိ။မှတ်လေလော့။ ။
ဤဂါထာဖြင့်မြတ်စွာဘုရားသည်မင်္ဂလသုတ်ဒေသနာတော်ကို
ပြီးစေတော်မူ၏။ ။ထိုဒေသနာတော်၏အဆုံး၌။ ကုဋေတ
သိန်းကုန်သော နတ်တို့သည် အရဟတ္တ ဖိုလ်သို့ ရောက်ကုန်၏။
အောက်ဖိုလ်သုံးပါးသို့ရောက်ကုန်သောနတ်တို့သည်ကား ရေ
တွက်ခြင်း၏လမ်းကိုလွန်ကုန်၏။ ထိုခပ်သိမ်းကုန်သောနတ်တို့
သည် လည်း မြတ် စွာ ဘုရား ကို ရှိသေ စွာ ရှိခိုး ၍ ထို အရပ်

၌လျှင်ကွယ်ကုန်၏။ အရှင်အာနန္ဒာမထေရ်သည်ကား ပြသနာမေးသောနတ်သားကိုသာလျှင်ရည်၍။ ။ဣဒမဝေါစ ဘဂဝါ အတ္တမနာသာဒေဝတာ ဘဂဝတောဘာသိတံ အဘိနန္ဒိတွာဘဂဝန္တံအဘိဝါဒေတွာတတ္ထေဝန္တရဓာယိ။ ။ဟူ၍ဟောတော်မူ၏။ ။ဘဂဝါ။ မြတ်စွာဘုရားသည်။ ဣဒံ။ ဤဗဟူဒေဝါမနုဿာစအစရှိသောမင်္ဂလသုတ်ကို။ အဝေါစ။ဟောတော်မူ၏။ သာဒေဝတာ။ထိုနတ်သားသည်။အတ္တမနာ။ ဝမ်းမြောံချက်။ဘဂဝတော။မြတ်စွာဘုရား၏။ ဘာသိတံ။ ဟောအပ်သောတရားတော်ကို။အဘိနန္ဒိတွာ။နှစ်သက်၍။ဘဂဝန္တံ။ မြတ်စွာဘုရားကို။ အဘိဝါဒေတွာ။ အလွန်ရိုသေစွာရှိခိုး၍။ တတ္ထေဝ။ ထိုအရပ်၌လျှင်။အန္တရဓာယိ။ကွယ်၏။ ။ဤဣဒမဝေါစအစရှိသောပါဠ်ဖြင့်။ အရှင်အာနန္ဒာမထေရ်သည်မင်္ဂလသုတ်၏အဆုံး၌ ကောင်းခြင်းနှင့်ပြည့်စုံသည့်၏အဖြစ်ကိုပြတော်မူ၏။

မင်္ဂလာသာရဒီပနီကျမ်းပြီး၏။

---

နိဂုံး။

သဗ္ဗရာဇဂုဏောနစ။သုဘလက္ခဏာနာမေန။ သောဘဂ္ဂရတနာပုဏ္ဏ။ပတိဋ္ဌိတမဟာရညာ။ ။ဒုဒံလဒ္ဓဓမ္မဓမ္မေန။မကွေးမြစ်ကွေးတိနာမကော။ရမ္မေဝိဟာနနာမေန။သဒ္ဓါဝါစာရာဒိယုဇ္ဇေန။ ။တေဇနေနသကံဝေရံ။လုနဓမ္မေနပရေသံဝါ။ ဝိဝါဒံတိက္ခဉာဏောန။မောင်တေလုံးဝှယဓမ္မေန။ ။ကတံသဒ္ဓမ္မဒီပါယ။သက္ကရာဇကဏ္ဏာသိန္ဒု။ယမရူပသကတ္တိကာ။ပုဏ္ဏမာဒိဋ္ဌိပါဟာရေ။ ။နိဋ္ဌံဂတံဣသေသတော။ တေနတုပါဏိနံဒိပ္ပံ။ သဗ္ဗေပူရေန္တုသင်္ကပ္ပါ။ပန္နရသေဝစန္ဒိမာ။

သဗ္ဗရာဇဂုဏောနစ။ရာဇဓမ္မဆယ်ပါး။ သင်္ဂဟဓမ္မလေးပါး။ရာဇဂုဏ်ခြောက်ပါး။နာယကဂုဏ်ခြောက်ပါးဟုဆိုအပ်သောရာဇဝတ္တဘောဂုဏ်။ သတ္တိသုံးပါး။ ဗလငါးပါး။ ဒဿနငါးပါး။စက်လေးပါး။သမ္ပတ္တိလေးပါး။အင်္ဂီရိယဓာတ်။အင်္ဂုတ္တဓာတ်။သဒ္ဓါ။ပညာ။သတိ။ဝီရိယအစရှိသောပဋိလဒ္ဓဘောဂုဏ်။ ။သူနာပရန်။တမ္ဗဒီပ။ယောနက။ အစရှိသောတိုင်းကြီးပြည်ကြီးတို့၏သခင်။ဆင်ဖြူများသျှင်။လက်နက်စကြာသခင်။ ထီးဆောင်းမင်းအပေါင်းတို့၏အသျှင်ဟုဆိုအပ်သော ဣဿရိယဘောဂုဏ်။ ။ဤအလုံးစုံသော ရာဇဂုဏ်လည်း ရှိတော်မူထသော။ ။သုဘလက္ခဏာနာမေနစ။ ဆန်းအလင်္ကာ။ သဒ္ဒါနည်းတို့ဖြင့်စိစစ်အပ်သည်ဖြစ်၍ကောင်းမြတ်တင့်တယ်သော။ ။သိရီပဝရ ဝိဇယနန္တယ သပဏ္ဍိတ မဟာဓမ္မ ရာဇာဓိရာဇာ။ ။ဟူသောတံဆိပ်နာမံတော်လည်းရှိထသော။ ။သောဘဂ္ဂရတနာပုဏ္ဏ။ပတိဋ္ဌိတမဟာရညာ။မြို့၏အင်္ဂါတန်းဆာ၇ပါး။အာဟာရလေးပါး။ရဇ္ဇင်၇ပါးတို့နှင့်ပြည့်စုံသည်ဖြစ်၍တင့်တယ်ကောင်းမြတ်သော။ ရတနာပုံရွှေမြို့တော်ကြီးကို။ လက်မွန်အစ။ ပဌမတည်ထောင်တော်မူသောမင်းတရားကြီးသည်။ ။ဒုဒံဒဒွေ့သ ချိုး

မြှောက်ပေးသနားတော်မူအပ်သည်ဖြစ်၍။ ရမွေ့။ ရတနာမြတ်
၃ပါး၊ ရတနာ ၇ ပါး။ ရတနာဆယ်ပါးတို့၏တည်ရာဖြစ်၍နှစ်
သက်မွေ့လျော်ရာဖြစ်ထသော။ ဝါ။သတိပညာ။သဒ္ဓါဓမ္မ။ဇော
တရောင်ရှိန်။တောက်ထိန်ကြီးပွါး။ တရားရှိကုန်သောသူတော်
ကောင်းတို့၏ မှီခိုရာဖြစ်၍၊ စင်စစ်မွေ့လျော်ရာလည်း ဖြစ်တ
သော။ဝါ။ဘုရားဗျာဒိတ်။ကပ်နှိပ်ဩဘာ။မင်္ဂလာဖြင့်။ ပထဗျာ
မေဒ။ တပလတိုးတက်။ လေးနက်ရသော။ ပေါ်ထွန်းရာ ဖြစ်၍။
နှစ်သက်မွေ့လျော်။ ပျော်ဘွယ်ရာလည်းဖြစ်ထသော။ မကွေး
မြစ်ကွေး တိနာမကော။ မကွေး မြစ်ကွေးဟူ၍။ နှုတ် မင်္ဂလာ။
သညာနှစ်ရပ်။ သမုတ်အပ်သော မြို့မြတ်၌။ လဒ္ဓဓမ္မဓွေနစ။ ရ
အပ်သော၊ တရားမသူကြီးရာထူးလည်းရှိထသော။ သဒ္ဓါစာရ
ဒိယုဇ္ဇေနု။ သဒ္ဓါသီလစသည်တို့နှင့်လည်း ယှဉ်ထသော။ ဝါ။
သဒ္ဓါ။သီလ။သုတ။စာဂ။ပညာ။ဟိရိ။ ဩတ္တပ္ပဟူသောသူတော်
ကောင်းတရား၇ ပါးနှင့်လည်းယှဉ်ထသော။ဗိဟာနနာမေနစ။ရာ
ဇပတိကဟူသော တံဆိပ်နာမံလည်းရှိထသော။ ။သကံဝေ
ရံ။ မိမိ၏ကိုယ်တွင်းကိုယ်ပ။ နှစ်ဝရန်စစ်ကို။ တေဇနေန။ သူ
တော်ကောင်းတို့၏။ လမ်းကြောင်းမယွင်းသည်းခံခြင်းဖြင့်။ လု
နဓွေနဝါ။ဖြတ်တတ်သုတ်သင်တတ်သေါသကတ်ကြောင့်ဝှင်း။
ပရေသံ။ တပါးကုန်သော။ စောဒက။ စုဒိတကတို့၏။ ဝါ။ တ
ရားလိုတရားခံတို့၏။ ဗိဝါဒံ။ သူနိုင်ငါနိုင်ကြံခိုင်တင်းတင်းသက်
သေသွင်း၍ငြင်းချန်ကြသောတရားရန်စစ်ကို။တိက္ခဉာဏေန။ဝ
ရဇိန်နှုန်းဘက်ထားသန်လျက်သို့ထက်သောဉာဏ်ဖြင့်။လုနဓွေ
နဝါ၊ ချတ်တွင်လှီးဖြတ်သုတ်သင်တတ်သောသကတ်ကြောင့်
ဝှင်း။ မောင်တေလုံး ဓယဓမ္မဓွေန။ မောင်တေလုံး ဟု ခီ ကုံး
ပညတ်သမိုက်အပ်သော တရားမတ်သူကြီးသည်။ ။သဒ္ဓမ္မဒိ
ပါယ။ သူတော်ကောင်းတရား၏ စည်ကားတောက်ပစေခြင်း
ဌါ၊ ကတံရစိတံ။ ရေးစီရင်အပ်သောမင်္ဂလာသာရ ဒိပနီမည်
သေါကျမ်းသည်။သက္ကရာဇကဏ္ဍသိန္ဓု၊ယမရူပသာ။သက္ကရာဇ်

၁၂၄၂ ခုနှစ်၏။ ကဆုန်လပြည့်ကျော် ၁၁ ရက်အဂါနေ့ဗြဟ္မာ့ရေ။ တန်ဆောင်မုန်း ဟောသ။ သဗ္ဗရေဒအညီ။ တိထိဝန်းပြည့်။ နေ့၂ချက်တီးအချိန်၌။ အသေသ သဘော။ အကြွင်းမဲ့။ နိဂုံးဂတံ။ အပြီးအဆုံးသို့ရောက်သည်။ ဟော တိ။ ဖြစ်၏။ ဇာတိပရိသမာပန္တံ။ ဤသည့်လျှင်နိဂုံးနှင့်စပ်သော စကားရပ်အပြီးသတ်တည်း။ ။တု။ ဆက်၍ကွန့်မြူးဆိုလိုက်ဦးအံ့။ မေ။ ဝါ၏။ တေနပုဒေန။ ထိုရေးမီရင်သောကုသိုလ်ကံကြောင့်။ ပါဏိနံ။ သတ္တဝါ အပေါင်းတို့၏။ သဗ္ဗေ။ အလုံးစုံ ကုန်သော။ သက်ပွါ။ အကြံအစည်တို့သည်။ ပန္နရသေ။ ၁၅ ရက်ပုဏ္ဏမီ တိထိဝန်းပြည့်သောနေ့၌။ စန္ဒိမာ။ ငွေပုဏ္ဏမိတ်ယုန်တံဆိပ်တော ရကာဝစန္ဒရာဂြိုဟ်မင်းသည်။ ပူရတိဣဝ။ စက်ဝန်းတည့်တည့် ပြည့်၏သို့။ ဝေံ။ ဤအတူ။ ခိပ္ပံ။ လျင်စွာ။ ပူရေန္တု။ ပြည့်စုံကြစေ ကုန်သတည်း။

တတိယဂါထာ၏ ရှေ့နှစ်ပါဒကားရကာရဝိပုလာဂါထာ။ နောက်နှစ်ပါဒကား။ ဝိပရိတပဏ္ဏာဝတ္တဂါထာမျိုးဖြစ်၍။ ဒိနပတိ သောပုဒ်၌။ နအက္ခရာကြေသည်။ ဗြဟ္မာရေဟုလိုလျက်ယဂိုဏ်း ကြိုက်စေခြင်းအကျိုးငှါ။ ပါဟာရေဟုအာဒိစာနှင့်ရွတ်အပ်၏။

လူတို့ ဝေါဟာ နတ်မင်္ဂလာ ဖြင့်။ မကျွေး။ မြစ် ကျွေးဟု အမည်နှုတ်ရပ်။ ပညတ်ခြင်း၏။ သဒ္ဒပဝတ္တိနိမိတ်ကား။ ။နဂရ သာ မိ ကေ ဟိ မဏိ မဒ္ဒ ထု ပံ ကုရုံ ကတ္ဘာ ဝေဘ္ဗာ တိ မ ကျွေး။ ။ဥတ္တမ ဂရုကာတဗ္ဗ မာနိ တဗ္ဗ ဇုဒ္ဓ နဝါ နရာနရာနံ မတ္တကေမကုဋမဏ္ဍနံဝိယဝေါ်။ ပဝတ္တတိတိမကျွေး။ မဏိမဒ္ဒ ထုပေါ်။ တဿာသမီပေဒ္ဓိတတ္တာနဂရမ္ပိမကျွေးတိဝုစ္စတိ။ ။အ ထဝါ။ မဟာနာဝိကာဒယောရမန္တိဝေဏ္ဏာတိမြစ်။ ကုဋ္ဌိလေနဝေတိ ဂန္တတိတိ ကျွေး။ ဝေရာပတိနာမနဒီ။ မြစ်စသာကျွေး စာတိမြစ် ကျွေး။ တဿာ သမီပေ နဂရသဏ္ဌိ တတ္တာ တမ္ပိ မြစ်ကျွေးတိ ဝုစ္စတိ။ ။ယံနဂရံ။ အကြင်မြို့ကို။ နဂရသာမိကေဟိ။ မြို့ရှင်မင်း တို့သည်။ ဝါ။ မြို့တည်မင်းတို့သည်။ မဏိမဒ္ဒထုပံ။ မြသလွန်စေ တီတော်ကို။ ကုရုံကတွာ။ အထွတ်အထိပ်ပြု၍။ ဝေဘ္ဗာပဝတ္တော

တဗ္ဗာ။ ဖြစ်စေအပ်၏။ ဂါ။ တည်စေအပ်၏။ ဣတိတသ္မာသဒ္ဒပ
ဝတ္တိနိမိတ္တိယာ။ ထိုသို့သောသဒ္ဒပဝတ္တိနိမိတ်ကြောင့်။တံနဂရံ။
ထိုမြို့သည်။ မကွေး။ မကွေးမည်၏။ ။ပါ။တနည်းကား။ ယံ
ထူပံ။ အကြင်စေတီတော်မြတ်သည်။ ဥတ္တမဂရုကာတဗ္ဗမာနိ
တဗ္ဗဋ္ဌေန။မြတ်သောအနက်။အလေးအမြတ်ပြုအပ်သောအနက်။
မြတ်နိုးအပ်သောအနက်ကြောင့်။ နရာနရာနံ၊လူနတ်တို့၏။ မတ္ထ
ကေ။ ဦးခေါင်း၌။ မကုဋမဏ္ဍနံဝိယ။ စိုက်အပ်သော မကိုဋ်
တန်ဆာကဲ့သို့။ ဧတိပဝတ္တတိ။ဖြစ်တတ်၏။ ဣတိတသ္မာသဒ္ဒပ
ဝတ္တိနိမိတ္တိယာ။ထိုသို့သောသဒ္ဒပဝတ္တိနိမိတ်ကြောင့်။ တံထူပံ။
ထိုစေတီတော်မြတ်သည်။မကွေး။မကွေးမည်၏။ မဏိမဥ္ဇုထူ
ပေါ။မြသလွန်စေတီတော်ကို။လဗ္ဘတိ။ရအပ်၏။တဿ။ ထိုစေ
တီတော်မြတ်၏။သမီပေ။အနီး၌။ဌိတတ္တာ။တည်သည်၏အဖြစ်
ကြောင့်။နဂရမ္ပိ။မြို့ကိုလည်း။မကွေးတိ။မကွေးဟူ၍။ဝုစ္စတိ။ဆို
အပ်၏။ ။အထဝါ။တနည်းကား။ ။ဝေဠုဇလပဝါဟော။ဤ
ရေအယဉ်၌။ မဟာနာဝိကာဒယော။ သင်္ဘောလှေစီးကုန်သည်
ကြီးအစရှိကုန်သောသတ္တဝါတို့သည်။ ရမန္တိ။ မွေ့လျော်တတ်
ကုန်၏။ဣတိတသ္မာ။ထိုသို့မွေ့လျော်ရာ၏အဖြစ်ကြောင့်။ သော
ဇလပဝါဟော။ထိုရေအယဉ်သည်။မြစ်။မြစ်မည်၏။ ။ယောဇ
လပဝါဟော။အကြင်ရေအယဉ်သည်။ကုဋိလေန၊သက်တင်ရေး
သို့ကွေးညွတ်သောအားဖြင့်။ဧတိဂစ္ဆတိ။စီးသွားတတ်၏။ ဣတိ
တသ္မာ၊ထိုသို့သောပဝတ္တိနိမိတ်ကြောင့်။ သောဇလပဝါဟော။
ထိုရေအယဉ်သည်။ကွေး။ကွေးမည်၏။ဧရာဝတီနာမမဟာနဒီ။
ဧရာဝတီမည်သောမြစ်ကြီးကို။လဗ္ဘတိ။ရအပ်၏။မြစ်ဝ။သင်္ဘော
လှေစီး ကုန်သည်ကြီးစသည်တို့၏ မွေ့လျော်ရာ သည်လည်း။
ဟောတိ။ဖြစ်၏။သါ။ထိုမွေ့လျော်ရာဟူသည်။ကွေးဝ။သက်တင်
ရေးသို့ကွေးညွတ်သောအါးဖြင့်စီးသွားတတ်သည်လည်း။ဟော
တိ။ဖြစ်၏။ဣတိတသ္မာ။ထိုသို့နှစ်ပါးသောပဝတ္တိနိမိတ်ကြောင့်။
မြစ်ကွေး။မြစ်ကွေးမည်၏။ ။တဿာသမီပေ။ ထိုသက်တင်

ရေးသို့ကွေးညွတ်သောအားဖြင့်။ စီးသွားရာမြစ်၏အနီး၌။ နဂ
ရသ။မြို့၏။ဗွိတဏ္ဏာ။တည်သည်၏အဖြစ်ကြောင့်။တဗွိ။ ထိုမြို့
ကိုလည်း။မြစ်ကွေးတိ။ မြစ်ကွေးမြို့ဟူ၍။ဝုဏ္ဏတိ။ဆိုအပ်၏။ ဝါ။
ခေါ်ဝေါ်အပ်၏။ ။ချုပ်ဖြီးဟန်ကား။ ။ဤလေးပိုကပ်တို့တွင်။
ပဌမပိုကပ်၌။ မဏိမဥ္ဇူသပကာူဝ ရှေးရှိသောဏ္ဏခါတ်။ ဏ္ဏဂတိယံ
သဏ္ဍာယနေ စ။ ။ဟူသောသဒ္ဒနီတိနှင့်အညီ။ ဂမနတ္ထအနက်
ဟောဟုမှတ်။ကွိပ်ဟူသောသုတ်ဖြင့်ဏ္ဏခါတ်နောင်။ ကွိပ်ပစ္စည်း
သက်။ ဝုကိုခွင်း။ အဏ္ဏဗဟူသောသုတ်ဖြင့်။ ဝု၏အဓိတ် အကို
နောက် ဏ္ဏသရနှင့် တကွဇပြု။ ။သဗ္ဗ ၁ ပဟာဒိလော
ပး။ ။သုတ်ဖြင့်။ ။ကွိပ်ပစ္စည်းကိုခြေ။ ။မေဟာနုသာ။
ခသာမာလာမေခလါ။ဟူသောပုဒ်ကဲ့သို့။နိရုတ္တိနည်းဖြင့်။မ။ကျေ
ဇ။ ဤသုံးလုံးမှကြွင်းသောအက္ခရာတို့ကိုခြေ။ ဉဝံ။သုတ်ဖြင့်။ကု
၏၊ အဓိတ်ဉကိုဝပြု။ ဝကိုဗောရသို့ကပ်။ကကိုဝေသို့ကပ်။သိဝိ
ဘတ်သက်။ဖြော ဒိသဂီးပဒဇ္ဇေ။ ဟူသောကလာပ်သုတ်ဖြင့်။
သိဝိဘတ်ကို။ဝိသဇ္ဇနီပြု၍။ မကွေးဟူသောပုဒ်၏သဒ္ဒချုပ်ကိုသိ
အပ်၏။ ။ဒုတိယပိုကပ်၌ကား။မကုဝ ရှေးရှိသော။ဏ္ဏခါတ်။ကွိပ်
ပစ္စည်း။သိဝိဘတ်။ ။ချုပ်ဖြီးဟန်ကား။ရှေးနည်းကိုမှီး၍သိလွယ်
ပြီ။ ။တတိယပိုကပ်၌ကား။ ။မဟာရှေ့ရှိသောရမုခါတ်။ကွိပ်
ပစ္စည်းသက်။ ။ဖြသွေသျပိတိတုက်။ဟူသောသုတ်ဖြင့်။ခါတ်၏
နေ့၁ံ၊တုက်လါ။ကွိပ်ပစ္စည်းကိုချေ။ တုက်၏။က်အနုဗန်နှင့်တကွ
ဉကိုချေ။ ။ရမုခါတ်၏ဉသရနှင့်တကွမအက္ခရာကိုချေ။ သွောား
ဒွ၊ဘိဒွ၊။ သုတ်ဖြင့်။ တအက္ခရာကိုစပြု။ စအက္ခရာ၏သရကင်း
သည်၏ အဖြစ်ကြောင့်။ တန်းခွန်သွားသည်ကိုပြု။ နိရုတ္တိနည်း
ဖြင့်။မ၏အဓိတ်အသရနှင့်တကွ။ဟာအက္ခရာကိုခြေ။ မကိုရသို့
ကပ်။ သိဝိဘတ်ကိုချေ။ ။မြစ်ဟူသောသဒ္ဒချုပ်ဖြီး၏။ ။ထိုမှ
ကြွင်းသောချုပ်တို့ကားထင်ရှားသဖြင့်သိလွယ်ပြီ။ ။တတိယ
ဂါထာ၌။ တေလုံးဟူသောပုဒ်၏ သဒ္ဒချုပ်ကား။ ။တိဇသဒ္ဒါ
သည်။ပဌမပိုကပ်၌။ ။တိဇကွမာယံ။ဟူသော။ သဒ္ဒသွောမ။

မဟာနိဓိ။ အဘိဓ္ဍါန်နှင့် အညီ၊ သည်းခံခြင်း အနက်၌ ဖြစ်၏ဟု မှတ်။ ။ဒုတိယပိဂကပ်၌။တိဇတေဇနေဟူသောသဒ္ဒနီတိကျမ်းနှင့်အညီ၊ ထက်မြက်ခြင်းအနက်ဟောဟုမှတ်။ ။တိဇသဒ္ဒါ၌။ ဇကိုခြေ၍ တိ၏အစိတ်ဇုကိုပြေ၍ တေဟုရုပ်ပြီးစေ။ ။လုဉ္စ ဆေဒနေဟူ၍၎င်း။လုဆေဒနေဟူ၍၎င်း။သာသေါယခင်၂ကျမ်းနှင့်အညီ၊ ။သင်္ကာရိုဇ်အလို။လုဉ္စဓါတ်။မဂဓအလို။လုဓါတ်။ နှစ်ရပ် ပြားသော် လည်း၊ ဆေဒနတ္တ အနက် ဟောခြင်း ဖြစ်သည်၊ ။လုဉ္စဓါတ်နောင်ကွိပ်ပစ္စည်းသက်။ ။မုစာဒေ နုမ်ဟူသောသုတ်ဖြင့်။ဓါတ်နောင်နုမ်လာ။ ။ဉမ်ကိုခြေ။ နကြွင်းစေ။နကိုတန်းခွန်လွှား၍။တေလုံးဟု။နကာရန္တာဖြင့်လည်းရုပ်ပြီးသင့်၏။ ။တနည်းကား။ ။နဂ္ဂါပဒန္တေဉ္စသေဟူသောသုတ်ဖြင့်။ နကိုအနုသွာရပြု၊ ကွိပ်ပစ္စည်းကိုခြေ။ သိဝိဘတ်သက်။ ။ဩြဝ်ဝိ၆သဂေး။သုက်ဖြင့်သိဝိဘတ်ကိုဒိသင်္ဂြိုလ်၍။တေလုံးဟူ၍လည်း။ ရုပ်ပြီးကိုသိအပ်၏။ ။ဝိဂြိုဟ်ကား။ ဝိဂ္ဂဟာပြဂါထာကို မြင်သဖြင့်။ ဉာဏ်ရှင်သောသူတို့သိသင့်ပြီ။ ။ဤကား သုတမယဉာဏ်စိန္တာမယဉာဏ်၏ ထက်သန်ရင်းနှီးကြီးပွါးခြင်းကိုအလိုရှိကုန်သောအမျိုးသားတို့၏အကျိုးငှါ။သဒ္ဒါရုပ်နှင့်တကွ။ပဝတ္တိနိမိတ်၏ဖြစ်ပုံကိုပြအပ်သောအဆုံးအဖြတ်။

နိဂုံးပြီး၏။

---



## ကပိလပုဏ္ဏား၇ ရပ်အဖြေ။

ဗု။ဓံ။သံ။နု။ ။ဘုရားသုံးဆူ။ တည့်တော်မူ။ထီးဖြူဘယ်ကစိုက်ပမည်။ ၁။ ထီးဖြူစိုက်ငြား ။သဃ်ာအား။ တရားဘယ်ကဟောပမည်။ ၂။ခရီးလမ်းထောက်။ဇရပ်ဆောက်။နိဗ္ဗာန်မရောဲ။သုံးကျိပ်ခြောက်။ ၃။သုံးပျောက်လိုငါးကွယ်။ ခြောက်ဆယ်နှင့်လေး။လူ့ပြည်မှာစံမလွဲ။လေးအောက်ကဆွဲ။၄။မသိုးကဲ့ထမင်း။မလင်းခင်ကစားရမည်။ ၅။ မချုပ်တဲ့ပုဆိုး။ မနိုးခင်ကဝတ်ရမည်။၆။ကမ္ဘာပေါ်တွင်။ထန်းလေးပင်။ရှင်စေလိုရေနွေးလောင်း။သေစေလိုရေဇေးလောင်း။၇ ။

ဖြယတ္။ ။မဟာ ပရမေ။ ဂုဏ်မြို့ တေဖြင့်။ သုံးထွေဘုံထွတ်။တုမဲ့လွတ်သား။တမွတ်စိုက်ထူ။ သယမ္ဘူတို့။ ဓမ္မူပဒေ။နည်းစုံချေ၍။ ရွှေဗျာဒိတ်သံ။ မိန့်အံထုတ်ဘောင်။. ဟောတော်မူအပ်။ ပိဋကတ်ဝယ်။လေးရပ်ဂမ္ဘီ။ နှစ်အဆိကို။ ထုံးမှီနည်းနာ။ ဝိညာ သုတ။ ဉာဏ တောက်ထိန်။ ဇော်ကပိန် တို့။ ဉာဏ်ငြွေ။ ရှိန္တမေဖြင့်။ ထုတ်ဘွေကျစ်လစ်။နည်းပုံသစ်၍။ ခက်ဆစ်ပုဏ္ဏား။ ချနစ်ဖြာကို။ ရတနာတိုက်။ သေဖြင့် ကိုက်သို့။ အမြိုက်ရသ။ မြတ်ဓမ္မကို။ ရကြွေစေမှု။ ကရုဏာငွေ။ လှုံစေ၍လျှင်။ မေးအပ်ပုဏ္ဏား။ ဂမ္ဘီရာကို။မဟာပထဝီ။ မေဒနီထက်။ ပြည့်နက်မောက်စွာ။ရတနာဖြင့်၊ခါခါမပြတ်။ပူဇော်အပ်သည်။ ။ကြီးမြတ်နန္ဒိ ကျေးဇူးသောဝ်။ ။ဤကားနိဒါန်းကဗျာလက်ာမိုဒ်။

အနန္ဒိ ဂုဏ်။ကျေးဇူးဟုန်ဖြင့်။လူ့ဘုံဘဝင်။ထုတ်စက်လွှမ်းဘိ။ နှိုန်းမမိသည်။|ကပိလပုဏ္ဏား။ ချနစ်ဖြာကား။ ပဉ္ဉာဗျာကရဏ။ ဝိဘဏ္ဍမျိုး။ဖြေရှိုးကျမ်းလာ။ဂမ္ဘီရာကို။ မဟာဝရဇိန်။ဉာဏ်ငြွေ။

ရိန္နမာဖြင့်။ ဒေသနာနှစ်။ တောင်ဆီညွှစ်သို့။ ထုတ်လှစ်ဘွေ့ရှာ။ နာနာနယ။ နိပုဏကို။ နှိုင်းဘမသွေ့။ ဖြေဆိုပေအံ့။ ။လေးတွေ့ ပရိသတ်။ အိုသူမြတ်တို့။သဟာသာရိန်။ ခြည်အရှိန်သို့။ တောက်ထိန်လျှံပွါး။ဘုရားသာသနာ။ကြိမ်ကြိမ်လာ၍။ မဟာဂန္ဓီ။ နှစ်အဆီကို။ ထုံးမှီ နည်းနာ။ သေချာမချျ။ သိပေရတည့်။ ဘဝ ဖြေး ကြာ။သံသရာ၌။ရောင်ဝါထင်ရှား။ဘုရားသာသနာ။ မကြိမ်လာ က။ကမ္ဘာသချေ်။သုံးလေသော်လည်း။အပေါ်ပိုးဝါး။ရောင်မှား လေမိ။ပိုးတစ်မျှ။ မသိရလေ။ စေ့ရေစဉ်းစား။ ဉာဏ်ရွှေသွား ဖြင့်။တရားသံဝေ။ရကြလေ၍။ပေးပေသတိ။ကဝိပုဏ္ဏာ။ ဂန္ဓီရ ကို။ ။မြဲစွာဉာဏ်ဖြင့်ရှုရန်သောဝ်။ ။ဤကားပဒိုညာဥ်ဥယျာ ဇဉ်နှစ်ပါးကိုပြသော။ကဗျာလက်ာပိုဒ်။

---

## ၁။ ဘုရားသုံးဆူတည်တော်မူ။ထီးဖြူဘယ်က မိုက်ပမည်။ဟူသောပဌမပုဏ္ဏာအဖြေ။

ဉာဏ်စက်ဝရစိန်။ ခြည်အရှိန်ဖြင့်။ ကြိမ်ကြိမ် မလပ်။ရှုအပ် ပုဏ္ဏာ။ ဂန္ဓီရာဝယ်။သမ္မာသမ္ဗုဒ္ဓ။ အနုတ္တရ။ပိမောက္ခသခင်။ အ သျှင်တဆူ။ဖြစ်တော်မူ၏။ထိုတူထင်ရှား။တရားဝသီ။မမှိဆရာ။ ပစ္စေကာဟူ။သယမ္ဘူစစ်။တဆူဖြစ်၏။သားချစ်သာဝက။ နုဗုဒ္ဓ ဟု။ပိမောက္ခအသျှင်။သခင်တဆူ။ ဖြစ်တော်မူရှင့်။ နည်းတူမိုင်း ခြား။ ဤသုံးပါးကို။ဘုရား၃ဆူ။တည်တော်မူဟု။နည်းယူဥပဒေ။ ရွှေဗျာဒိတ်မှန်။သန္နိဌာန်မြတ်။ တံဆိပ်ကွပ်၍။မဂ္ဂတ်စကြာ။ရာ ဇာဘိသေ။ ခံလေသမျှ။ မင်းဟူကလျှင်။စန္ဒကမ္ဘူ။ သမုကနက်။ ဦးထိပ်ထက်၌။ ဖြန့်လျှက်မိုးကာ။ ဤပမာဖြင့်။ မဟာသမ္ဗုဒ္ဓ။အ နုတ္တရ။ပိမောက္ခသခင်။အသျှင်တို့ဝယ်။တင့်တယ်မတ်မတ်။ထီး ဖြူမြတ်ကို။ မိုက်အပ်ဌာန။မမြင်ရ၍။ သံသယပုဒ်။ နောက်ဆွယ် ထုတ်လျှက်။ဝေဝုစ်ထင်စွါ။မေးသည်မှာကား။မဟါအရဟတ်။ ဖိုလ်ဉာဏ် မြတ်ကို။ ထီးဖြူဆို၏။ ဖိုလ်အရဟာတ်။ ထီးဖြူ မြတ်

လည်း။ ကလာပ်ကမ္မဇ။ဟာဒယဝယ်။မှီတွယ်ဒေသ။ ဌာနန္တိသာ။ ဝိုက်လူရာဟု။အဌကထာကျမ်းဖြတ်။ နည်းဖြင့်မှတ်လေ့။ ဝါဒိ ကပ်လည်း။ ဋီကာနည်းမှာ။ မနောဓါရာ။ဝဇ္ဇနဘဝင်္ဂါနုံ။ မိန့်သံ မသွေ။ရှေ့နေမနော။နောက်လောဘဝင်။ဤနှစ်ပြင်၏။လယ်တွင် ဌာန။အရဟတ္တဖိုလ်။ထီးဖြူကိုသာ။ ဝိုက်အပ်ရာဟု။ မှတ်သားရှု လေ့။ စတုဝေါက။အရူပတွင်။ ဖြစ်ရရဟန္တာ။ တဆူမှာကား။ နောက်လာဝိကပ်။ဋီကာမြွတ်နည်း။ ဉာဏ်ဖြင့်မှီးလေ့။ တသီး ဝိတ္ထာတ်။သါမဏ္ဍိယ။နည်းအရကား။ဒါနသီလ။စသည်ဆယ်ထီ။ ပါရမီကို။ဝသီကြွကြွ။ ဝိုက်ရှုကြ၍။ဓမ္မကျင့်ညီ။ ပါရမီသည်။ သိဒ္ဓါပတ္တ။ဘဝဝိသေ။ဖြစ်လေအသျှင်။သခင်မြတ်တို့။ သုံးရပ်ဘုံ ခွင်။ဒိုဝင်သတ်ဖြတ်။အကျပ်ကိုးဦး။ဗိုလ်မှူးသုံးယောက်။ နောက် လိုက် ရံကာ။ ထောင်ငါးရာ စစ်။ သူလျှောင် ညစ်ကို။ အမြစ်မ ကြွင်း။ လေးစင်းသန်လျက်။ လေးကြိမ်ထွက်၍။ ပယ်ဖျက်ပြီးမှ။ အရဟတ္တဖိုလ်။ထီးဖြူကိုလျှင်။ ခွင့်ခွင့်ဝိုက်ထူ။ ဆောင်းတော်မူ ၍။နတ်လူပြုံဟွှာ။ ဝေနေယျာအား။ တရားသဘင်။ အောင်ပွဲရင် သည်။ ။လူခွင်ဘဝဂ်တုတ်သန်းသောဝ်။ ။ဤကားပဌမ ပုဏ္ဏာ ၏ဝိသဇ္ဇနာကဗျာပိုဒ်။

---

## ၂။ ထီးဖြူဝိုက်ပြေား။သဃ်ာအား။ တရားဘယ်က ဟောပ။မည်ဟူသောဒုတိယပုဏ္ဏာအဖြေ။

မဟာဘောဓိ။အောင်သံဟိ၍။သုံးလီဘုံရပ်။ပွဲတင်ထပ်လျက်။ လူနတ်ပြုံဟွှာ။ မြတ်သဃ်ာအား။ တရားသဘင်။ ရင်တော်မူခါ။ မြတ်ဗုဒ္ဓါတို့။ဒေသနာဉာဏ်။ ဖြစ်ရန်ကြောင်းစ။ ဘယ်ဌာနက။ ဟောပမည်နည်း။တသီးပုဏ္ဏာ။အဖြေမှာကား။ ကမ္ဘာထွက်ရေ။ သင်္ချေလေးရပ်။ ကပ်တသိမ်းလုံး။ သိမ်းကျုံး မလပ်။ ဖြည့်အပ် ဆယ်ထီ။ ပါရမီဉာဏ်။အရင်းသန်၍။ ဉာဏ်ဒေသနာ။ ဖြစ်ပြန် လာ၏။ ဖြစ်ရာဌာန။ ကမ္မသမုဋ္ဌာ။ ရုပ်ဟာဒယ။ ဒသကဋ္ဌာ။ ဉာဏ

သမ္မယုတ်။ စိတ္တုပ္ပါဒ်ဇော။ ချနစ်စောဏ်။ဇောချနစ်တန်၊ သတ္တမံမြောက်။ အကြိမ်ရောက်က။ စိတ္တသမုဋ္ဌ်။ လှုပ်ကြွအညီ။ ဝစီဝိညတ်။သဒ္ဒဒသ။ကလာပ်ရတွင်။စိတ္တဇမှတ်။ပထဝီဓါတ်သည်၊ ခတ်ရာဌာန။ကဏ္ဍတာလု။မုဒ္ဓဒန္တာ။ ဩဋ္ဌာဒေသာ။ ဌာန်ငါးဝဋ္ဋ။ ကမ္မဇမှတ်။ ပထဝီဓာတ်နှင့်။ ခတ်မိထိုခါ။အင်ဂှစ်ဖြာနှင့်။ သံဝါငြိမ့်ငြိမ့်။ ရိုးယ်းလုံးမြိမ့်မျှ။ ဟောပေရှင့်။ ကြွင်းထဗုဒ္ဓါ၊ နှစ်ဆူမှာလည်း။ ယထာရဟာ။ကျင့်ကြအညီ။ ပါရမီဉာဏ်။ ကြောင်းရင်းသန်၍။ ဒေသနာ ဉာဏ်။ သမုဋ္ဌာန်ဇော။ သဘောရှေ့ဘူ။ ဟောသည်ယူလော့။နည်းမူတရပ်။နက်ပိဋကတ်မှာ။ ကဏ္ဍာရှည်ကြာ။ သံသရာက။ ပါရမီဉာဏ်။ ထက်သန်တော်မူ။ သယမ္ဘူ။တို့။နည်းယူဥပဒေ။ပြဿနာပေ၍။လူ့ပြည်နတ်ထံ။ နိဗ္ဗာန်ရောက်ကြောင်း။ ကောင်းစွာဟောထား။ မြတ်တရားသည်။ ယုံမှားမယှဉ်။ကောင်းကင်ပစ်ခဲ။ မြေကျမြဲသို့။မလွဲဧကန်။ဟောတိုင်းမှန်သည်။ ။မြဲမြဲမှတ်ယူစွဲရန်သောဝ်။ ။ဤကားဒုတိယပုဏ္ဏာ၏ ဝိသဇ္ဇနာကဗျာပိုဒ်။

---

## ၃။ ခရီးလမ်းထောက်။ဇရပ်ဆောက်။နိဗ္ဗာန်မရောက်။ သုံးကျိပ်ခြောက်။ ဟူသောတတိယပုဏ္ဏာအဖြေ။

မဟာဝရဇိန်။စက်သွားချိန်၍။ဒေဝရိန်နတ်။ ပစ်လွှတ်အပ်သို့။ ဖြောင့်မတ် ဧကန်။ဟောတိုင်း မှန်သား။ မြတ်တရားကို။ မမှားတန္တု။ ပုံစံပြုလျက်။ ဓမ္မုပဒေ။ နည်းရှာဘွေ၍။ မေးပေပုဏ္ဏာ။ တတိယာဠ်။သတ္တဝါတို့။ဖြစ်ရာမူလ။အစမထင်။ဆုံးမမြင်အောင်။ ကျင်လည်ရှည်ကြာ။သံသရာဟု။ ကန္တာရကြီး။ခရီးကိုသာ။မှတ်ယူပါလော့။ ကန္တာရကြီး။ အပြီးမသတ်။ ရှုပ်ရှက်ခတ်လျက်။တပတ်လည်လည်၊ခိုမှီသွားလာ။ သတ္တဝါ၏။ခိုဝင်ရာရောက်။ ခရီးထောက်မှာ။ကာမရူပ။ အရူပဟု။ဘဝသုံးရပ်။ သုံးထောက်မှတ်လော့၊ဇရပ်ဟူသည်။ယင်းအမည်မှာ။ဝဇီသမုတ်။ နတ်မင်္ဂလာ။

မွေ့လျော်ရာဟိတ်။ ဗျူတ်နိမိတ်ကြောင့်။ရုဋ္ဌိသညာ။ ခန္ဓာအိမ်
ကို။ဇရပ်ဆို၍။ထိုဇရပ်ကို။ဆောံတတ်သေါသူ။ မှတ်ယူကော့န်။
နိဗ္ဗာန်မရောက်။သုံးကျိပ်ခြောက်ဟု။အခွံလေါက်ဘွယ်ရာ။အမေး
မှာလည်း။ဂဟာကာရက။ဂဝေသန္တော။ ဟောသည့်တချက်။ အ
ကုသလာ။သံသာရဂါမိနိဟု။နေတ္တိကျမ်းဖြတ်။ မိန့်အပ်တတန်။
နည်းပုံစံဖြင့်။သုံးတန်ဘဝ။ သုံးလောကဋ္ဌ။တပ်ကြတဏှာ။ သုံး
ယောက်သာတည်း။ တဏှာသုံးပါး။အရင်းထား၍။ ခြောက်ပါး
အာရုံ။ ပွားတုံ မြှောက်လတ်။ တကျိပ် ရှစ်တည့်။ အဇ္ဈတ္တ သန်။
ဗဟိဒ္ဓါနှိဖြင့်။ နှစ်တန်ပွားမြှောက်။သုံးကျိပ်ခြောက်တည်း။ ထို
နောက်တနည်း။ဝိကပ်လည်းသော်။သုံးဘော်လူနတ်။စွဲအပ်ခန္ဓာ။
တည်ရာဇရပ်။ဆောက်တတ်ဆရာ။တဏှာလက်သမား။တယောံ
ထားရှင့်။ခြောက်ပါးအာရုံ။ ပွားတုံမြှောက်လစ်။ ခြောက်ယောံ
ဖြစ်၍။တွက်စစ်အမှန်။ သုံးတန်ကာလ။မြှောက်ကြွပွါးလစ်။ တ
ကျိပ်ရှစ်တည့်။ အဇ္ဈတ္တသန်။ ဗဟိဒ္ဓါနှိနှင့်။ တဘန် ပွါးမြှောက်။
သုံးကျိပ်ခြောက်သည်။မရောက်နိဗ္ဗာန်။မခံစားရ။ ဘင်မျှားဋ္ဌာ။
သံသရာ၌။ လူးလာကြွမ်ဘန်။ သေပြန်ဖြစ်မြဲ။ ဆင်းရဲရုံခါ။ ဥဏ္ဍာ
တလှည့်။မြဲမရှိနှင့်။သုခိဒုက္ခ။ ကြီးရငယ်ပြန်။ မြတ်ဟန်ယုတ်ဘိ။
အမိဖြစ်ပြန်။သားဖြစ်ပြန်နှင့်။ ရန်သူတလှည့်။ မိတ်တလှည့်ချေင်။
နိမ့်ဘိမြင့်ပြန်။ဘုံသုံးတန်၌။ပြောင်းပြန်ဦးစောက်။ထက်အောက်
ပြန်ဘိ။ဂတိမငြိမ်။ခန္ဓာအိမ်ကို။ ကြိမ်ကြိမ်ဆောက်တတ်။ ဇရပ်
လက်သမား။ ဤတရားကို။ ထင်ရှားမိမိ။ မသိနတ်လူ။ ခရီးသူတို့။
အဝိဇ္ဇာဘိ။မှောင်ကြီးမိ၍။ ဂတိမထင်။လမ်းမမြင်ဘဲ။စိတ်ရဲအား
သန်။ ပိုးဖလံသည်။ အလျှံဝင်းဝင်း။ မီးပုံဆင်းသို့။ မကင်း ဒုက္ခ။
ပါယ်လေးဝသို့။ကျရခါခါ။ ပြေးသွားရှာသည်။ ။ရှည်ကြာအတိ
ဒုက္ခသောဝ်။ ။ဤကားတတိယပုဏ္ဏာ၏ဝိသဇ္ဇနာကဗျာပိုဒ်။

—

### ၄။ သုံးပျောက်လိုငါးကွယ်။ခြောက်ဆယ်နှင့်လေး။ လူ့ပြည်မှာစံမလွဲ။လေးအောက်ကဆွဲ။ ဟူသောစတုတ္ထပုဏ္ဏာအဖြေ။

မဟာဂိရိန်။ စက်ကပိန်ဟု။ ရောင်ရှိန် ဝွင့်ဝွင့်။ ကြီးမြင့်မတ်မတ်။ လျှံပတ် ပိုက်ချုံး။ တောင် လေးလုံးသည်။ လွှမ်းဖုံးစိုစို။ ကြွတ်ညှပ်ဘိသို့။ ဇာတိဇရာ။ ဗျာဓိမရဏာ။ ဒုက္ခဝန်ကြီး။ ဘိစီး ရှည်ကြာ။သတ္တဝါအား။မသွားအပ်ရာ။မိစ္ဆာပိတ်ဆီး။ ခရီးဘော် ဖြန်။ လမ်းမမှန်ကို။ သိစေလို၍။ မိန့်ဆိုပုဏ္ဏာ။အဖြေမှာကား။ အ ဘိညာဉ်ဂုဏ်။ဈာန်ဟုန်ဝွင့်ဝွင့်။ကြီးမြင့်တေဇာ။ဖြဟ္မာတို့တွင်။ ဟိတ် မယှဉ်ဘိ။ သုဂတိနှင့်။ တိဟိတ် ဖြဟ္မာ။ နှစ်ယောက် မှာ လည်း။ရှည်ကြာအခွင့်။မရလင့်၍။မဂ်နှင့်မယှဉ်။ဈာန်မဝင်သော်။ လူ့ခွင်ပြန်မြဲ။ စံမလွဲတည့်။ အံ့ဖွဲ့မကျန်။ ပြည့်စုံစည်းစိမ်။ ရိပ် ငြိမ်စံရာ။နတ်ခြောက်ရွာနှင့်။ရှည်ကြာဒုက္ခ။ပါယ်လေးဝဋ္ဌ။ဒုဒွိ တိ ဟု။မိန့်ရှိကျမ်းလာ။သုံးယောက်မှာလည်း။ ကံကြွမ္မာဟုန်။ အရှိန် ကုန်က။လူ့ဘုံပြန်မြဲ။စံမလွဲတည့်။ဖြစ်မြဲလက်ငင်း။ ရှိရင်းလူမှာ။ သုဒွိ တိဟု။မိန့်ရှိကျမ်းလါ။သဉ်္ဇာနည်းတူ။သုံးယောက်ယူလော့။ ပါယ်ရပ်သူနှင့်။ နတ်လူဖြဟ္မာ။ သဉ္ဇာပေါင်းလစ်။ ရှစ်ယောက် ဖြစ်၏။ တွက်စစ်ရှစ်တန်။ လောကဓံနှင့်။ တဘန် မြှောက်ရေး။ ခြောက်ကျိပ်လေးဟူ။ နတ်လူဖြဟ္မာ။ သတ္တဝါတို့။ ဖြစ်ရာဘဝ။ ထိုကာလ၌။ ဓမ္မရှစ်တန်။လောကဓံနှင့်။ ကြိမ်ပြန်ရ၍။ မာနဒိဋ္ဌိ။ လွှမ်းငြိတဏှာ။အဝိဇ္ဇာကြောင့်။သုံးရွာသခင်။ဘုရင်ထွတ်ထား။ ဘုရားကိုလျက်။ အက်အက်မထင်။ မမြင်သရဏဂုံ။ ငါးစုံသီလ။ ကွယ်ပျောက်ကြ၍။ လေးဝအပါယ်။ ကြီးကျယ်ဒုက္ခ။ မုချဧကံ ရှု။ကျသင်းသူကို။လေးဟူအမြဲ။အောက်ကဆွဲဟု။အံ့ဖွဲ့ဘွယ်ရာ။ ကျမ်းလာဧကံရှု။မိန့်တော်မူသည်။ ။နတ်လူမိဿာခရီးသောဝ်။ ။ ဤကားစတုတ္ထပုဏ္ဏာ၏ဝိသဇ္ဇနာကဗျာပိုဒ်။

---

၅-၆။ မသိုးတဲ့ထမင်း။မလင်းခင်က။စားရမည်။
မချုပ်တဲ့ပုဆိုး။မနိုးခင်က။ဝတ်ရမည်။
ဟူသောပဌမဆဋ္ဌပုစ္ဆာအဖြေ။

မဟာရာဇိန်။နွယ်သဣ္ဍိန်ဟု။သာကိန်ယဇာတ်။မင်းမြတ်ဧကေရှိန်။မာရဇိန်တို့။မြေ့ပြိမ်စံရာ။မဟာနဂရ။အမတရိုပ်မြို့။ ဝဏ္ဏာတုံသို့။ ခိုလှုံမရောက်။ လမ်းထောက်ဖင့်ကြာ။ ရိက္ခာ ကုန်ပြတ်။ လေးရပ်ပါယ်ရွာ။ခါခါကြိုရ။တွေ့ပကုန်ကြ၍။ ဒုက္ခရှဉ်စွာ။ခံရရှာလျက်။အဝိဇ္ဇာယုတ်။ပိတ်ဖုံးအုပ်၍။ အဟုတ်မထင်။ မမြင်ကြသူ။ နတ်ဗိုလ်လူကို။ကြည့်ပြုသဒ္ဒါ။ကရုဏာဖြင့်။သွားရေလမ်းစ။ ခရီးမကို။ပြုညွှန်းလို၍။မိန့်ဆိုနှစ်ရပ်။ ပုစ္ဆာမြတ်၌။ လှူအပ်ရိက္ခာ။ ဒါနသာလျှင်။ နိဗ္ဗာန်ခွင်သို့။ ဝင်သည့်တိုင်အောင်။ သုံးဆောင်လိုခါ။ ရှည်ကြာမပျက်။ဤအနက်ကြောင့်။ဝေါဟာရူပစာ။ သညာခေါ်ရိုး။ မသိုးထမင်း။မှည့်လိုရင်းတည့်။မလင်းဟူသည်။ ဤအမည်လည်း။အဝိဇ္ဇာမကင်း။မှောင်ညဥ့်တွင်းကို။မလင်းဆို၏။ ပုဂ္ဂိုလ်မှတ်ဘိ။ဒု၊သု၊ဠိနှင့်။ထိဟိတ်ပုပ်ပါ။လေးယောက်သာတည့်။အရိယာမှာ။ရဟန္တာကြည်။ဖိုလ်ဝင်သုံးပါး။ မိုင်းခြားခုနစ်။ပွါးဖြစ်များစွာ။သတ္တဝါတို့။အဝိဇ္ဇာမှေး။ မကင်းသေး၍။ပေးလှူဒါန။ ပြုကုန်ကြလေ။ပြည့်ညွှန်းပေ၏။တဆွေပုစ္ဆာ။အမေးမှာလည်း။ ကျမ်းလာအရှိ။ဂိဟိသီလ။သမဏာသီလံ။ နှစ်တန်ကျင့်အပ်။ မြတ်သီလကို။ ရချက်ကိုယ်တွင်း။ဝတ်ဆင်မပြတ်။မြဲဖွဲ့အပ်သည်။ အကြောင်းရည်၍။သဒိသူပစာ။ သညာမှည့်လို။ပုဆိုးဆို၏။မနိုးဟူသည်။ ယင်းအမည်လည်း။အဝိဇ္ဇာမှေး။မကင်းသေးသူ။နတ်ဗိုလ်လူကို။ သဒိသူအလို။ မနိုးဆို၏။ပုဂ္ဂိုလ်မှာမူ။ ရှေးနည်းယူလော့။ နည်းမူတရပ်။နက်ပိဋကတ်မှာ။ယူအပ်ရိက္ခာ။မပါခါးဝတ်။ခရီးချွတ်သော်။ အဟော်ပြောကျယ်။ ကြောက် မက်ဘွယ်ရှိ။ ဝန်ကြီး ဘိလျက်။ အတိဒုက္ခ။ကန္တာရ၌။လောင်စမတုန်း။သေမဆုံးသည်။ ။လုံးလုံးဖိုဝ မီးစာသော်။ ။ဤကားပဌမ ဆဋ္ဌ ပုစ္ဆာ၏ဝိသဇ္ဇနာကဗျာပိုဒ်။

### ၇။ ကမ္ဘာပေါ်တွင်ထန်းလေးပင်။ရှင်စေလိုရေနွေး လောင်း။သေစေလိုရေအေးလောင်း။ ဟူသောသတ္တမပုစ္ဆာအဖြေ။

မီးရေလေဟုန်။ပျက်ကြို့စဉ်လာ။ကပ်ကမ္ဘာတွင်။ဦးစွာမဆွ။ သံဝဋ္ဋဝယ်။ ဩကာသရပ်။ လောကဓါတ်လုံး။ ဟုန်းဟုန်းလျှမ်း တက်။အခိုးထွက်က။ တိုက်စကြ္ကဝါ။ခြာခြာဒိုက်စောင်း။ ညွတ် ပျောင်းလေဘိ။ ဖရောင်းအိသို့။ ထိုတူပမာ။ မဟာမြင်းမိုရ်။ ယု ဂန္ဓိုရ်မှ။စသည့်တောင်ရံ။လေးတန်သမုဒ်။နက်ရှုတ်သိတာ။ ဟိ မဝန္တ်။မဟာသရီ။ မေဒနီတို့။ဟီဟီသံညည်း။ပဲ့တင်ထိုးလျက်။ ပြိုပျက်ခန်းခြောက်။ လျှမ်းတောက်ဟိန်းဟိန်း။မိုးယံလုံးငြမ်းလျက်။ မီးလျှံတက်၍။ ထက်ရပ်နဘ်။ပဋ္ဌမဈာန်ဘုံ၊ ကြွင်းမဲ့ကုန်အောင်။ တောက်လောင် ရှိန်ကြီး။ ကမ္ဘာမီးတက်။ ဆတက် တောင်ချ။ မကာသာ၍။တဏှာကောဓ။ မောဟလောင်မီး။ တောက်ရှိန်ကြီး လျက်။ခရီးရှည်ကြာ။လောင်စာမကင်း။ပြေးဆင်းရသူ။နတ်ဗိုလ် လူကို။အပူငြိမ်းအေး။ အမြိုက်ဆေးကို။ပေးပြလို၍။မိန့်ဆိုပုစ္ဆာ။ အ ဖြေမှာကား။ကမ္ဘာရှည်ကြာ။ သတ္တဝါတို့။တဏှာအာရုံ။ ကာမ ဂုဏ်၌။တမှုန်မွဲမွဲ။အံစောင်ခဲ၍။မြဲစွဲမလျှပ်။နောက်မဆုတ်သော်။ ကာမုပ္ပါဒါန်။ ဘောက်ပြန်လမ်းမှား။မတရားကို။ တသားထစ် သို့။ စင်စစ်မြဲမြဲ။ပယ်သုန်မလျှပ်။ အယူရုပ်သော။ ဒိဋ္ဌုပ္ပါဒါန်။ မမှန်စွဲသမ်း။နွားငတ်ကန်းသို့။ရောင်ယမ်းအားထုတ်။လေါကုတ် မချော်။ချွတ်ချော်ယွင်းမှား။တရားမဟုတ်။အကျင့်ယုတ်သော်။ သီလဗ္ဗတုပ္ပါဒါန်။မသန်မျက်ကန်း။ရောင်ယမ်းစွဲယူ။ ဤတူပမာ။ ခန္ဓာငါးရပ်။ ပေါင်းလတ်အစု။သမ္မုတိဝေါဟာ။ ကိုယ်ခန္ဓာကို။ ငါ့ဟာငါပင်။ငါလျှင်ဖြစ်ဟု။စင်စစ်စွဲမှား။တရားမရှာ။ရောင်မှား ရာသော။ အတ္တဝါဒုပ္ပါဒါန်။ ကျမ်းဂန်အညီ။ ဤလေးလီကို။ ခိုင် ကြည်မြဲတတ်။ဂုဏ်သကတ်ကြောင့်။ရုဋ္ဌိသညာ။ကမ္ဘာပေါ်တွင်။ ထန်းလေးပင်ဟု။ နှုတ်မင်္ဂလာ။သညာသတ်မှတ်။ မိန့်ဆိုအပ်၏။ တရပ်ဝေါဟာ။ရေနွေးမှာလည်း။တဏှာရှိန်ကြီး။ ကိလေမီးမှ။

ယိုစီးကျချော။ဤသဘောကြောင့်။ ဩဃသလေးအင်။ရေအယဉ်ကို။ရေနွေးဆို၏။ပုဂ္ဂိုလ်အလိုက်။စရိုက်ကျင့်တန်။ရေလျှံဩဃ။ချောကျတွေ့တွေ့။သွန်းလောင်းလေလျှင်။ထန်းပင်ပုံစံ။ဥပါဒါန်သည်။မြဲမြဲခွန်အား။ကြီးပွါးပင်စည်။ရွက်သစ်တည်၍။မြင့်ရှည်ကမ္ဘာ။သံသရာ၌။ မြဲစွာတည်တတ်။ဤသကတ်ကြောင့်။ရှင်စေလိုသော်။ရေနွေးလောင်းဟု။ကျမ်းဟောင်းတန္တု။ပုံစံပြုရှင့်။ဓမ္မပဒေ။ နည်းပုံတွေ၍။ သေစေလိုသော်။ ရေဇေးလောင်းဟု။ ထုံးဟောင်းတဘန်။ မိန့်ပြန်သည်မှာ။ ကိလေသာဟူ။ မီးအပူ ကို။လွယ်ကူငြိမ်လေး။အမြိုက်ဆေးသို့။ချမ်းဇေးစေတတ်။ဤသကတ်ကြောင့်။လေးရပ်မဂ်ဉာဏ်။ လေးတန်ဖိုလ်မြတ်။ ဤရှစ်ရပ်ကို။ရေဇေးဆို၏။ မှတ်ယူတနည်း။ ဝိကပ်လည်းသော်။ သုံးဘော်လူနတ်။ ရအပ်မှန်စွာ။ ဘာဝနာဉာဏ်။ ဈာန်သမာပတ်။ လေးရပ်မဂ်ဉာဏ်။ လေးတန် ဖိုလ်မြတ်။ ဤလေးရပ်ကို။ သတ္တိပဟာန်။လေးတန်သတ်မှတ်။အစဉ်ဟပ်၍။ ရေမြတ်သီတာ။ ချမ်းဇေးစွာဟု။မှတ်သားရှုလေ့။တန္တုကောန်။နည်းပုံစံမှါ။သုံးတန်နှောင်အိမ်။လောင်ငြိုန်မစဲ။ဝဋ်ဆင်းရဲမှ။ အံခဲလုံ့လ။ထွက်ကြလိုမူ။ ခပ်သိမ်းသူတို့။နည်းယူကျမ်းလာ။လေးဖြာသီလ။ဖြူဆွသန့်စင်။ ဝတ်ဆင်ပြီးမှ။တဒင်္ဂသတ်။ပယ်ဖြတ်ပဟာန်။ဉာဏ်ဘာဝနာ။ ရေသီတာဖြင့်။ ခါခါသွန်းလျှင်။ထန်းပင်ပုံစံ။ဥပါဒါန်၏။ ဖူးလျှံရွက်မ။နိဝရဏသည်။ညှိုးကျလေ၏။တထွေဝိက္ခံ။ ပဟာန်သတ္တိ။ရှိသည်သမာပတ်။ရေစင်မြတ်ဖြင့်။သွန်းလတ်ပြန်လျှင်။ယခင်ညှိုးကျ။နိဝရဏဟု။ခက်မငါးတန်။ဖူးလျှံညွန့်စ။ဤခြောက်ဝသည်။ချောကျလေရှင့်။ဇေးကြည်သီတာ။ရေပမာသို့။ မဟာလောကုတ်။သမုစ္ဆေဒ်။ပဟာန်သတ္တိ။ ရှိသည်လေးအင်။ မဂ်ရေစင်တွင်။ ရှေးလျှင်အစ။ပဌမမဂ်ရေ။သွန်းဖျန်းလေသော်။လေးထွေပါယ။ဂမနဟု။သိးနှံကြွေဘိ။ ဒိဋ္ဌိသမ္ပယုတ်။စိတ္တုပ္ပာဒ်ဇော။ သို့လောကိဿာ။ သုံးဖြာထန်းပင်။ မရှင်သောဘိ။ ပဋိပဿိ။ ပဟာန် သတ္တိ။ ရှိသည်လေးအင်။ ဖိုလ်ရေယဉ်တွင်။ ရှေးလျှင်အစ။ ပဌမဖိုလ်ရေ။သွန်းဖျန်း

လေသော်။မပေါ်ဒုတ်ခဲစ။ညွှန့်မထတည့်။ ဒုတိယမင်း။ရေဖြင့်ပက်
၍သွန်းဖျက်လေမှု။မသေပင်ဒုတ်။ကာရုပ္ပဒါန်။ပုံစံအသွင်။ထန်း
တပင်ဝယ်။ ငါးသွယ်ကာမ။ ကက္ခဋ္ဌဟု။ သီးမည္ဒာတံ။ ညှိုးနွမ်း
ပြန်၏။တဘန်ဖိုလ်ရေ။ သွန်းလောင်းလေသော်။ ညှိုးစိန်ညွှာတံ
မလန်းပြန်တည်း။တဘန်ဘပ်ကာ။အနာဂါမိ။မင်ရေထိက။ကာ
မရာဂ။ တနုကရဟု။သီးမည္ဒာတံ။ကြွေပြန်မက။ဒေါသအညစ်။
ထန်းလည်ဆစ်လည်း။စင်စစ်ပြတ်ရှင့်။မလတ်တွေတွေ။ထိုဖိုလ်
ရေကို။သွန်းပျန်းလေသော်။ ကြွေရာဌာန။ ပြတ်ကျသည့်ဆက်။
ညွှန့် မထွက် တည့်။ တချက် အရဟတ်။ မင်ဥာဏ် ပြတ်ရေ။
သွန်းပျန်းလေသော်။နှစ်တွေရှုပ။အရူပနှင့်။ရာဂနှစ်ပါး။ပိုင်းခြားခွဲ
ဘိ။ ဒိဋ္ဌိဝိပ္ပယုတ်။ ဥဒ္ဓစ္စမည်။ ပင်စည်မြစ်မ။ မကြွင်းရအောင်။
ခြေဖွလေ၏။ တတွေအရဟတ်။ ဖိုလ်ရေမြတ်ဖြင့်။ သွန်းသော်
လေသော်။ ပျက်ကြေဌာန။ ညွှန့်စမပေါ်။ နောင်သော် တဘန်။
မပေါက်ပြန်တည်း။ဘန်ဘန်ပုံလ။အားမပါးရ၍။ အရဟတ္တဖိုလ်။
ရေချိုဘိတာ။အဏ္ဏဝါကို။ခါခါမြမြ။သော်ချိုးရုံသော်။ အဟော်
သုခ။ချမ်းသာဥဇ္ဇဟု။ကြွကြွဝိတင်။ဥဒါန်းကြူးလျက်။ နေပြီးထွက်
လိုရာ။ မဟာသိဝ်။ ချမ်းသာလွန်အည်။ သူမွန်မြတ်ဌာ။ အဂ်ယာ
ကျီ။မွေ့လျော်ရာမှန်။ ပြည်နိဗ္ဗာန်သို့။မချိုရောက်ရ။ အနိစ္စကင်း။
နိဗ္ဗာရှင်းသည်။ ။လမ်းရှင်းနိဗ္ဗာန်အမွန်သောင်။ ။ဤကား
သတ္တမပုဏ္ဏာ၏ကဗျာလက်ာပိုဒ်။

သက္ကရာဇ်။၁၂၄၃ခုနှစ်။တော်သလင်းလဆွန်း။၁၄ရက်။အင်္ဂါ
နေ့။ သုံးချက်တီးအချိန်တွင်။ ဘိရိဓမ္မာလင်္ကာရအမည်ရှိသော။
ပုဂ္ဂိုလ် သူမြတ်သည်။ ကဝိပုဏ္ဏာ။ ၇ ရပ်ကို။ ဖြေဆိုအပ်သော။
ဝိသဇ္ဇနာကဗျာပိုဒ်။

ကဝိပုဏ္ဏာ ၇ ရပ်အဖြေပြီး၏။

---